# နိဗ္ဗာန်သို့ သွားရာ
# တစ်ကြောင်းတည်းသောလမ်း

## ဖားအောက်တောရဆရာတော်



# ကျင့်သူတို့သာ လွတ်မြောက်နိုင်ကြပါသည်

တုမှေဟိ ကိစ္စမာတပ္ပံ၊ အက္ခာတာရော တထာဂတာ။
ပဋိပန္နာ ပမောက္ခန္တိ၊ ဈာယိနော မာရဗန္ဓနာ။ (ဓမ္မပဒ၊၅၂၊ ဂါထာ-၂၇၆။)

"သင်ချစ်သားတို့ ပြုသင့်ပြုထိုက်သည့် မဂ္ဂင်ရှစ်ပါး ကျင့်စဉ်တရားတည်းဟူသော လုပ်ငန်းကိစ္စရပ်ကို သင်ချစ်သားတို့ကိုယ်တိုင် အပြင်းအထန် ကျင့်ကြံကြိုးကုတ် ပွားများအားထုတ်ကြပါ ...။ ငါဘုရားရှင်တို့ကတော့ နိဗ္ဗာန်ရောက်ကြောင်း တစ်ကြောင်းတည်းသော လမ်းဖြစ်သည့် သတိပဋ္ဌာန်တရားလေးပါးတည်းဟူသော လမ်းကို တစ်နည်းဆိုရသော် - မဂ္ဂင်ရှစ်ပါး ကျင့်စဉ်တရားတည်းဟူသော လမ်းကို ဟောကြားပြသ ဆိုဆုံးမတတ်သူတို့သာ ဖြစ်ကြ၏။ မဂ္ဂင်ရှစ်ပါး ကျင့်စဉ်တရားကို တကယ်လက်တွေ့ ကျင့်ကြံကြိုးကုတ် ပွားများအားထုတ်ကြသည့် အာရမ္မဏူပနိဇ္ဈာနဈာန် လက္ခဏူပနိဇ္ဈာနဈာန်ဟူသော နှစ်မျိုးသော ဈာန်တို့ကို ဝင်စားနိုင်သူတို့သည်သာ ကိလေသာ မာရ်စစ်သည်တို့၏ အနှောင်အဖွဲ့မှ လွတ်မြောက်နိုင်ကြကုန်၏။"

(စာမျက်နှာ-ဏ)





ချစ်သား ရဟန်းတို့. . . ငါဘုရားရှင်သည် လောကနှင့် မငြင်းခုံပါ၊ လောကကြီးကသာ ငါဘုရားရှင်နှင့် လာရောက်ကာ ငြင်းခုံနေပေ၏။ ချစ်သား ရဟန်းတို့. . . တရားအတိုင်း ဓမ္မကိုသာ ဟောပြောတတ်သူသည် လောက၌ တစ်စုံတစ်ယောက်သော သူနှင့်မျှ မငြင်းခုံပါ။

(စာမျက်နှာ-၅၃။ ကြာပန်းနှင့်တူသော ဘုရားရှင်)

"ဤကား သီလကျင့်စဉ်တည်း၊ ဤကား သမာဓိကျင့်စဉ်တည်း၊ ဤကား ပညာကျင့်စဉ်တည်း။ သီလဖြင့် ထုံမွမ်းထားအပ်သော သမာဓိသည် ကြီးကျယ်ဖွံ့ဖြိုးများမြတ်သော အကျိုးရှိ၏၊ ကြီးကျယ်ဖွံ့ဖြိုးများမြတ်သော အာနိသင်ရှိ၏၊ သမာဓိဖြင့် ထုံမွမ်းထားအပ်သော ပညာသည် ကြီးကျယ်ဖွံ့ဖြိုးများမြတ်သော အကျိုးရှိ၏၊ ကြီးကျယ်ဖွံ့ဖြိုးများမြတ်သော အာနိသင်ရှိ၏။ ပညာဖြင့် ထုံမွမ်းထားအပ်သော စိတ်သည် ကောင်းစွာသာလျှင် အာသဝေါတရားတို့မှ လွတ်မြောက်၏။ အဘယ်အာသဝေါတရားတို့နည်းဟူမူ - ကာမာသဝ ဘဝါသဝ အဝိဇ္ဇာသဝ တို့ပင်တည်း။"[၁၆၈]

အာသဝေါတရားတို့မှ လွတ်မြောက်လျှင် သံသရာဝဋ်ဆင်းရဲ ဒုက္ခမှလည်း လွတ်မြောက်တော့မည်သာဖြစ်သည်။ သို့အတွက် သံသရာဝဋ်ဆင်းရဲဒုက္ခ ကုန်ခန်းရေးအတွက် —

၁။ သီလဖြင့် ထုံမွမ်းထားအပ်သော သမာဓိကို ရအောင် ထူထောင်ရမည်။

၂။ သမာဓိဖြင့် ထုံမွမ်းထားအပ်သော ပညာကို ရအောင် ပွားများရမည်။

သို့မှသာလျှင် ပညာဖြင့် ထုံမွမ်းထားအပ်သော စိတ်သည် အာသဝေါတရားတို့မှ ကောင်းစွာ လွတ်မြောက်မည် ဖြစ်သည်။ တန်ခိုးအာနိသင် ထက်မြက်သော စိတ်တစ်ခုကို ရရှိရေး အတွက် ထိုစိတ်ဓာတ်ကို သီလ သမာဓိ ပညာတို့ဖြင့် ထုံမွမ်း ပေးရမည် ဖြစ်သည်။ စံချိန်မီ သီလ-သမာဓိ-ပညာ ဖြစ်မူ ထိုသီလ-သမာဓိ-ပညာတို့ဖြင့် ထုံမွမ်းထားသော စိတ်သည် သိကြားမင်း၏ ဝရဇိန်လက်နက် မိုးကြိုးစက်ထက် အဆပေါင်း များစွာ စွမ်းအင်များ ထက်မြက်လာ၏၊ ကိလေသာကို ကုန်ခန်း စေနိုင်သော စွမ်းအားများ ပေါ်လာတတ်၏။ တန်ခိုး အကြီး မားဆုံး စွမ်းအင်အထက်မြက်ဆုံးဖြစ်သော ထိုစိတ်ဓာတ်မျိုးကို အလိုရှိခဲ့ပါမူ သီလ-သမာဓိ-ပညာ သိက္ခာသုံးရပ် အကျင့်မြတ် ကို ရိုသေစွာ ဖြည့်ကျင့်ရမည်သာ ဖြစ်ပေသည်။ ထို့ကြောင့် — ယောဂီသူတော်ကောင်းသည် . . .

၁။ ရှေးဦးစွာ သီလကို စင်ကြယ်အောင် သုတ်သင်ပါ၊ ဖြည့်ကျင့်ပါ။

၂။ သမာဓိကို ထူထောင်ပါ။

၃။ ထိုနောင် အရိယသစ္စာလေးပါးကို သိအောင် ကြိုးစားအားထုတ်ပါ။

(စာမျက်နှာ-၁၄၄၊ မေ့ပျောက်လို့ မရနိုင်သည့် ဘုရားရှင်၏ မှာကြားချက်များ)

## သမာဓိ စွမ်းအားတော်



သမာဓိံ ဘိက္ခဝေ ဘာဝေထ၊
သမာဟိတော ဘိက္ခဝေ ဘိက္ခု ယထာဘူတံ ပဇာနာတိ။
ကိဉ္စ ယထာဘူတံ ပဇာနာတိ၊
"ဣဒံ ဒုက္ခ"န္တိ ယထာဘူတံ ပဇာနာတိ။
"အယံ ဒုက္ခသမုဒယော"တိ ယထာဘူတံ ပဇာနာတိ။
"အယံ ဒုက္ခနိရောဓော"တိ ယထာဘူတံ ပဇာနာတိ။
"အယံ ဒုက္ခနိရောဓဂါမိနီ ပဋိပဒါ"တိ ယထာဘူတံ ပဇာနာတိ။
*သမာဓိံ ဘိက္ခဝေ ဘာဝေထ၊*
*သမာဟိတော ဘိက္ခဝေ ဘိက္ခု ယထာဘူတံ ပဇာနာတိ။*

ချစ်သား ရဟန်းတို့. . . စိတ်တည်ကြည်မှု 'သမာဓိ'ကို ပွားများကြကုန်လော့၊

ချစ်သား ရဟန်းတို့. . . စိတ်တည်ကြည်မှု သမာဓိရှိသော ရဟန်းသည် ဟုတ်တိုင်းမှန်စွာ သိမြင်၏။

အဘယ်သို့လျှင် ဟုတ်တိုင်းမှန်စွာ သိသနည်း?

"ဤကား ဒုက္ခဖြစ်သည့် အရိယာတို့၏ အမှန်တရား 'ဒုက္ခ အရိယသစ္စာတရား'တည်း"ဟု ဟုတ်တိုင်းမှန်စွာ သမ္မာဒိဋ္ဌိ ဉာဏ်ပညာဖြင့် ကိုယ်တိုင်မျက်မှောက် ထွင်းဖောက် သိမြင်၏၊

"ဤကား ဒုက္ခဖြစ်ကြောင်းဖြစ်သည့် အရိယာတို့၏ အမှန် တရား 'ဒုက္ခသမုဒယအရိယသစ္စာတရား'တည်း"ဟု ဟုတ်တိုင်း မှန်စွာ သမ္မာဒိဋ္ဌိ ဉာဏ်ပညာဖြင့် ကိုယ်တိုင်မျက်မှောက် ထွင်း ဖောက် သိမြင်၏၊

"ဤကား ဒုက္ခချုပ်ရာဖြစ်သည့် အရိယာတို့၏ အမှန်တရား 'ဒုက္ခနိရောဓအရိယသစ္စာတရား'တည်း"ဟု ဟုတ်တိုင်းမှန်စွာ သမ္မာဒိဋ္ဌိ ဉာဏ်ပညာဖြင့် ကိုယ်တိုင်မျက်မှောက် ထွင်းဖောက် သိမြင်၏၊

"ဤကား ဒုက္ခချုပ်ရာ(နိဗ္ဗာန်)သို့ ရောက်ကြောင်း အကျင့်ဖြစ် သည့် 'ဒုက္ခနိရောဓဂါမိနီ ပဋိပဒါ အရိယသစ္စာ (= မဂ္ဂအရိယ သစ္စာ)တရား'တည်း"ဟု ဟုတ်တိုင်းမှန်စွာ သမ္မာဒိဋ္ဌိ ဉာဏ် ပညာဖြင့် ကိုယ်တိုင်မျက်မှောက် ထွင်းဖောက် သိမြင်၏၊

ချစ်သား ရဟန်းတို့ . . . စိတ်တည်ကြည်မှု 'သမာဓိ'ကို ပွား များကြကုန်လော့၊

ချစ်သား ရဟန်းတို့ . . . စိတ်တည်ကြည်မှု သမာဓိရှိသော ရဟန်းသည် ဟုတ်တိုင်းမှန်စွာ သိမြင်၏။

(သံ၊၃၊၃၆၃၊ စာပိုဒ်၊၁၀၇၁။ သမာဓိသုတ္တန်။)

၃။ ရဟန်းတို့. . . အဘယ်သို့လျှင် ရဟန်းသည် ကာယ၌ ကာယကို အကြိမ်ကြိမ် ရှုလေ့ရှိသည် ဖြစ်၍ နေသနည်း။ ရဟန်းတို့. . . ဤသာသနာတော်၌ ရဟန်းသည် တောသို့ သွားရောက်၍ဖြစ်စေ သစ်ပင်ရင်းသို့ သွားရောက်၍ဖြစ်စေ ဆိတ်ငြိမ်ရာသို့ သွားရောက်၍ ဖြစ်စေ တင်ပလ္လင်ခွေပြီးလျှင် ကိုယ်ကို ဖြောင့်မတ်စွာထား၍ သတိကို (ကမ္မဋ္ဌာန်းအာရုံသို့) ရှေ့ရှု ဖြစ်စေလျက် ထိုင်၏။ ထိုရဟန်းသည် သတိရှိလျက် သာလျှင် ဝင်သက်လေကို ဖြစ်စေ၏၊ သတိရှိလျက်သာလျှင် ထွက်သက်လေကို ဖြစ်စေ၏၊ (စာမျက်နှာ-၅၇။)

# ဖားအောက်တောရဗုဒ္ဓသာသနာ့ရိပ်သာ၊ စိတ္တလတောင်ကျောင်း

# Pa-Auk Tawya Meditation Centre, Cittalapabbata Vihara



# နိဗ္ဗာန်သို့ သွားရာ တစ်ကြောင်းတည်းသောလမ်း



## ဖားအောက်တောရဆရာတော်

နိဗ္ဗာနဂါမိနိပဋိပဒါ နိဗ္ဗာန်ရောက်ကြောင်းကျင့်စဉ် (အကျဉ်းချုပ်) ကျမ်းစာများကို
သဘောတရားရေးရာအပိုင်း တိုက်တွန်းချက်ဥယျောဇဉ်အပိုင်းတို့ဖြင့်
ခြံရံတန်ဆာဆင်ထားပါသည်။

**သဗ္ဗဒါနံ ဓမ္မဒါနံ ဇိနာတိ၊**

ဒါနအားလုံးကို ဓမ္မဒါနက အောင်နိုင်၏။

**သဗ္ဗရသံ ဓမ္မရသော ဇိနာတိ။**

အရသာအားလုံးကို တရားအရသာက အောင်နိုင်၏။

**သဗ္ဗရတိံ ဓမ္မရတိ ဇိနာတိ၊**

မွေ့လျော်ဖွယ်အားလုံးကို တရား၌ မွေ့လျော်ခြင်းက အောင်နိုင်၏။

**တဏှက္ခယော သဗ္ဗဒုက္ခံ ဇိနာတိ။**

ဒုက္ခအားလုံးကို တဏှာကုန်ခြင်းက အောင်နိုင်၏။

**စိရံ တိဋ္ဌတု သဒ္ဓမ္မော၊ ဓမ္မေ ဟောန္တု သဂါရဝါ။**

ဘုရားရှင်၏ အဆုံးအမ သာသနာတော်သည်

အဓွန့်ရှည်စွာ တည်ပါစေသတည်း။

သဒ္ဓမ္မသုံးဖြာ၌ ရိုသေလေးစားခြင်း ရှိကြပါစေကုန်သတည်း။

---

**"ဓမ္မဒါန"**

စက်ာပူနိုင်ငံရှိ အလှူရှင်များက စက်ာပူနိုင်ငံတွင် ပုံနှိပ်လှူဒါန်းကြပါသည်။

## ပုံနှိပ်မှတ်တမ်း

| | |
|---|---|
| စာမူခွင့်ပြုချက် | ♦ ၆၀၀၇၀၅၀၈၁၁ |
| မျက်နှာဖုံးခွင့်ပြုချက် | ♦ ၆၀၀၆၄၀၀၉၁၁ |
| ထုတ်ဝေသည့်ကာလ | ♦ ၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာလ (ပထမအကြိမ်) |
| မျက်နှာဖုံးဒီဇိုင်းနှင့် အတွင်းစာစီ | ♦ ဖားအောက်တောရကွန်ပျူတာအဖွဲ့ |
| အတွင်းစာသားနှင့် မျက်နှာဖုံးပုံနှိပ် | ♦ စက်ာပူ |
| ထုတ်ဝေသူ | ♦ ဦးအောင်ပြုံး (ဗုဒ္ဓစာပေ)<br>အမှတ် (၃၂)၊ ကွက်သစ်လမ်း၊ ရေကျော်၊<br>ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။ ဖုံး-၀၁-၂၉၃၈၄၇ |
| တန်ဖိုး | ♦ ဓမ္မဒါန |

စာအုပ်ကတ်တလောက်အညွှန်း

၂၉၄.၃

ဖားအောက်တောရဆရာတော်။

နိဗ္ဗာန်သို့သွားရာတစ်ကြောင်းတည်းသောလမ်း

ဗုဒ္ဓစာပေ၊ ၂၀၁၁။

၈၈၈-စာ၊ ၃၀ စင်တီ × ၂၁ စင်တီ။

(၁) နိဗ္ဗာန်သို့သွားရာတစ်ကြောင်းတည်းသောလမ်း

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

# နိဗ္ဗာန်သို့ သွားရာ တစ်ကြောင်းတည်းသောလမ်း

## မာတိကာ


| | စာမျက်နှာ |
|---|---|
| **နိဒါနကထာ – အကြောင်းပြစာတမ်းလွှာ** | င |
| သမဏရဟန်းနှင့် ဗြာဟ္မဏရဟန်း | စ |
| ဘုရားရှင်၏ အသိအမှတ်ပြုခြင်းကို ခံယူရသော သမဏရဟန်းနှင့် ဗြာဟ္မဏရဟန်း | ဆ |
| **အာသီသကထာ** | ၡ |
| ဘုရားရှင်၏ စစ်မှန်သည့် သဒ္ဓမ္မသုံးဖြာ သာသနာတော်ကြီး ထွန်းလင်းတောက်ပရေး | ၡ |
| သဒ္ဓမ္မပ္ပဋိရူပကသုတ္တန် | ၡ |
| **အခန်း (၁) သဘောတရားရေးရာအပိုင်း** | ၁ |
| နိဗ္ဗာန်သို့ သွားရာ တစ်ကြောင်းတည်းသောလမ်း | ၃ |
| ဂဏကမောဂ္ဂလ္လာန်ပုဏ္ဏားကြီး၏ မေးမြန်းလျှောက်ထားချက် | ၄ |
| သံသရာ၌ ကျင်လည်နေရခြင်း၏ အကြောင်းရင်း (ပဌမကောဋိဂါမသုတ္တန်) | ၇ |
| သံသရာဝဋ်ဆင်းရဲဒုက္ခ၏ အဆုံးအပိုင်းအခြားသို့ သွားရာလမ်း (ကူဋာဂါရသုတ္တန်) | ၉ |
| ဓမ္မစက္ကပ္ပဝတ္တနသုတ္တန် (ဓမ္မစကြာသုတ်) | ၁၂ |
| **အရိယသစ္စာလေးပါးအကြောင်း** | ၂၂ |
| ဒုက္ခသစ္စာဟူသည် - ခန္ဓသုတ္တန် | ၂၂ |
| သမုဒယသစ္စာဟူသည် | ၂၃ |
| နိရောဓသစ္စာဟူသည် | ၃၀ |
| မဂ္ဂသစ္စာဟူသည် | ၃၅ |
| အနတ္တလက္ခဏသုတ္တန်ကို နာယူတော်မူကြမည့် ပဉ္စဝဂ္ဂီ ရဟန်းတော်တို့၏ ကျောထောက်နောက်ခံပါရမီ | ၃၉ |
| အနတ္တလက္ခဏသုတ္တန် | ၄၂ |
| ပဌမ အပရိဇာနနသုတ္တန် | ၄၉ |
| သမာဓိသုတ္တန် | ၅၂ |
| ကြာပန်းနှင့်တူသော ဘုရားရှင် - ပုပ္ဖသုတ္တန် | ၅၃ |
| မဟာသတိပဋ္ဌာနသုတ္တန် | ၅၆ |
| မဟာသတိပဋ္ဌာနသုတ္တန် ရှင်းလင်းချက် | ၁၀၆ |
| မေ့ပျောက်လို့ မရနိုင်သည့် ဘုရားရှင်၏ မှာကြားချက်များ | ၁၄၄ |
| **အခန်း (၂) လုပ်ငန်းခွင်အပိုင်း** | ၁၄၇ |
| **သမထကမ္မဋ္ဌာန်းပိုင်း** | ၁၄၇ |
| **အာနာပါနကမ္မဋ္ဌာန်း** | ၁၄၉ |
| ဘာဝနာလုပ်ငန်းခွင် နှင့် ဘဝင်အကြောင်း | ၁၇၆ |
| ဘဝင်ကျနေတတ်ပုံ | ၁၇၆ |
| နိရောဓသမာပတ် | ၁၇၉ |
| ဉာဏ်အရောင်အလင်းများအကြောင်း | ၁၈၂ |
| အာနာပါနကမ္မဋ္ဌာန်းမှ ဝိပဿနာသို့ (အာနာပါန-စတုက္က လေးမျိုး) | ၁၉၅ |
| **ပဋိကူလမနသိကာရ အရိုးစုကမ္မဋ္ဌာန်း** | ၂၀၁ |
| (၃၂) ကောဋ္ဌာသ | ၂၀၁ |
| **ကသိုဏ်း (၁၀) ပါး – သမာပတ် (၈) ပါး** | ၂၀၈ |
| ဝဏ္ဏကသိုဏ်း (၄) မျိုး | ၂၀၈ |
| ဩဒါတကသိုဏ်းပွားများပုံ | ၂၁၁ |
| နီလကသိုဏ်း = အညိုရောင်ကသိုဏ်း | ၂၁၅ |
| ပီတကသိုဏ်း = အဝါရောင်ကသိုဏ်း | ၂၁၆ |
| လောဟိတကသိုဏ်း = အနီရောင်ကသိုဏ်း | ၂၁၇ |
| ပထဝီကသိုဏ်း = မြေကသိုဏ်း | ၂၁၈ |
| အာပေါကသိုဏ်း = ရေကသိုဏ်း | ၂၂၁ |
| တေဇောကသိုဏ်း = မီးကသိုဏ်း | ၂၂၂ |
| ဝါယောကသိုဏ်း = လေကသိုဏ်း | ၂၂၃ |
| အာလောကကသိုဏ်း = အလင်းရောင်ကသိုဏ်း | ၂၂၄ |
| အာကာသကသိုဏ်း = ကောင်းကင်ကသိုဏ်း | ၂၂၅ |
| အရူပါဝစရစျာန်ပိုင်း-အာကာသာနဉ္စာယတနစျာန် | ၂၂၇ |
| ဝိညာဏဉ္စာယတနစျာန် | ၂၃၁ |
| အာကိဉ္စညာယတနစျာန် | ၂၃၃ |
| နေဝသညာနာသညာယတနစျာန် | ၂၃၇ |
| **စတုဓာတုဝဝတ္ထာနကမ္မဋ္ဌာန်းပိုင်း** | ၂၄၃ |
| **ဗြဟ္မဝိဟာရကမ္မဋ္ဌာန်းပိုင်း** - မေတ္တာဘာဝနာကမ္မဋ္ဌာန်း | ၂၄၃ |
| မေတ္တာအကျိုး (၁၁) ပါး | ၂၅၀ |
| ကရုဏာဘာဝနာ | ၂၅၁ |

စာမျက်နှာ

မုဒိတာဘာဝနာ ၂၅၂
ဥပေက္ခာဘာဝနာ ၂၅၃
ဖြဟ္မဝိဟာရစေတသိက်များ၏လက္ခဏ-ရသစသည် ၂၅၆
ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်း ၂၆၀
အသုဘကမ္မဋ္ဌာန်း ၂၆၁
မရဏဿတိ = မရဏာနုဿတိကမ္မဋ္ဌာန်း ၂၆၁

**ရုပ်ကမ္မဋ္ဌာန်းပိုင်း** ၂၆၅
ရုပ် (၂၈) ပါး ၂၆၈
(၆) ဒွါရ၌ တည်ရှိသော ရုပ်ကလာပ်များ ၂၇၁
ဓာတ်ကမ္မဋ္ဌာန်းပိုင်း ၂၇၉
ဥပါဒါရုပ်များကို သိမ်းဆည်းပုံ ၃၀၀
(၆) ဒွါရ၌ ရုပ်ကလာပ်များကို ဓာတ်ခွဲပုံ
 = ရုပ်တို့ကို သိမ်းဆည်းပုံ ၃၁၅
ဓာတ်ကမ္မဋ္ဌာန်း အကျယ်ရှုပွားနည်း ၃၃၇
ရုပ်တို့၏ ဖြစ်ပုံ ပျက်ပုံ ဓမ္မတာ ၃၄၃
ရုပ်-ရုပ် ဟု ရှုရမည့် အချိန် ၃၄၅

**နာမ်ကမ္မဋ္ဌာန်းပိုင်း** ၃၄၉
**အပိုင်း (၁) - စိတ်ပိုင်းဆိုင်ရာ သိမှတ်စရာ** ၃၅၁
ကုဋေတစ်သိန်း ၃၅၁
ခြောက်-ခြောက်လီ တရားများ ၃၅၆
ဝိပဿနာဉာဏ်၏ အရှုခံစိတ် အမျိုးအစား ၃၅၉
**အပိုင်း (၂) – စေတသိက်ပိုင်းဆိုင်ရာ သိမှတ်စရာ** ၃၆၇
စေတသိက် (၅၂) လုံး ၃၆၇
အလွန် ခဲယဉ်းသော လုပ်ငန်းရပ် ၃၈၀
**အပိုင်း (၃) – သိမ်းဆည်းရှုပွားပုံ အပိုင်း**
 **(အကောင်းအုပ်စု)** ၃၉၁
ဈာန်နာမ်တရားတို့ကို သိမ်းဆည်းပုံစနစ် ၃၉၄
အာနာပါနပဋိဘာဂနိမိတ်ကို အာရုံပြုသော
 ပထမဈာန်နာမ်တရား (၃၄) ၃၉၅
စက္ခုအကြည်ဓာတ်ကို အာရုံယူ၍ ဖြစ်ပေါ်လာသော
 မဟာကုသိုလ်ဇော နာမ်တရား (၃၄) ၄၀၁
မနောဒွါရိက ကုသိုလ်ဇောဝီထိ စိတ်အစဉ်ကို
 သိမ်းဆည်းရှုပွားပုံ ၄၀၃
တဒါရုံအကြောင်း သိကောင်းစရာ ၄၀၄
အာဂန္တုကဘဝင် အကြောင်း ၄၀၆
ဝိရတိ ၄၁၁
အပ္ပမညာ စေတသိက် (၂) လုံး ၄၁၅
ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်း ၄၁၆
မရဏာနုဿတိကမ္မဋ္ဌာန်း ၄၁၇

စာမျက်နှာ

ကုသိုလ်ဇော စောရခြင်း ၄၂၄
ရူပါရုံလိုင်း ရှုပုံစနစ် (အကောင်းအုပ်စု) ၄၂၅
သဒ္ဒါရုံလိုင်း (အကောင်းအုပ်စု) နာမ်တရား ၄၃၁
ဂန္ဓာရုံလိုင်း (အကောင်းအုပ်စု) နာမ်တရား ၄၃၂
ရသာရုံလိုင်း (အကောင်းအုပ်စု) နာမ်တရား ၄၃၃
ဖောဋ္ဌဗ္ဗာရုံလိုင်း (အကောင်းအုပ်စု) နာမ်တရား ၄၃၃
ဦးနှောက်နှင့် အသိဉာဏ် ၄၃၅
**အပိုင်း (၄) – သိမ်းဆည်းရှုပွားပုံအပိုင်း**
 **(မကောင်းအုပ်စု)** ၄၃၇
ပညတ်ကို အာရုံယူ၍ အကုသိုလ်နာမ်တရားစုတို့ကို
 သိမ်းဆည်းပုံ အမြွက် ၄၄၁
စက္ခုအကြည်ဓာတ်အာရုံ - လောဘ-ဒိဋ္ဌိအုပ်စု
 ရှုပုံစနစ် ၄၄၅
စက္ခုအကြည်ဓာတ်အာရုံ - လောဘ-မာနအုပ်စု
 စသည်ကို ရှုပုံစနစ် ၄၄၅
သံယောဇဉ် (၁၀) ပါး ဖြစ်ပုံ ၄၄၇
ရူပါရုံလိုင်း အကုသိုလ်ဇော စောသည့်
 မကောင်းအုပ်စုကို ရှုပုံစနစ် ၄၅၂
သဒ္ဒါရုံလိုင်း-ဂန္ဓာရုံလိုင်း-ရသာရုံလိုင်း-
 ဖောဋ္ဌဗ္ဗာရုံလိုင်း ၄၅၃
နာမ်ကမ္မဋ္ဌာန်း အကျယ် သိမ်းဆည်းနည်း ၄၅၄
နာမ်တရား နာမ်တရားဟု သိမ်းဆည်းပါ ၄၅၇
ရုပ်နာမ်ကို ပူးတွဲ သိမ်းဆည်းပါ =
 ရူပါရူပပရိဂ္ဂဟလုပ်ငန်း ၄၅၈
နာမရူပဝဝတ္ထာန = နာမ်ရုပ်ကို
 ပိုင်းခြားမှတ်သားခြင်း ၄၅၈
**အပိုင်း (၅) – နာမ်ဈာနပိုင်း** ၄၅၉
နာမ်ဈာန (၄) ပါး အကြောင်း ၄၅၉
သတိပဋ္ဌာန်လေးပါးကို ပွားများနေသည်မည်ပုံ ၄၆၇
ဒိဋ္ဌေ ဒိဋ္ဌမတ္တံ ကျင့်စဉ် ၄၇၀

**ပဋိစ္စသမုပ္ပါဒ်ပိုင်း (က)** (ပဋိစ္စသမုပ္ပါဒ်ပဉ္စမနည်း) ၄၇၃
**အပိုင်း (၁)** ၄၇၅
မဟာနိဒါနသုတ္တန်မှ ဗျာဒိတ်တော် အသံ ၄၇၅
ပဋိစ္စသမုပ္ပါဒ် ပဉ္စမနည်း၌ အချုပ်မှတ်သားရန် ၄၈၃
**အပိုင်း (၂)** –
 အကြောင်းတရားကို ရှာဖွေပုံ စနစ်တစ်ခု ၄၉၁
**အပိုင်း (၃)** – ခန္ဓာငါးပါးနည်းဖြင့်
 လက်တွေ့သိမ်းဆည်းပုံ အပိုင်း ၅၂၃
ဣရိယာပထ - သမ္ပဇညရှုကွက် ၅၆၀

| | စာမျက်နှာ |
|---|---|
| **ပဋိစ္စသမုပ္ပါဒ်ပိုင်း (ခ)** (ပဋိစ္စသမုပ္ပါဒ်ပထမနည်း) | ၅၆၁ |
| **အပိုင်း (၁)** | ၅၆၃ |
| ပဋိစ္စသမုပ္ပါဒ်ဝိဘင်းပါဠိတော် - | |
| သုတ္တန္တဘာဇနီယနည်း | ၅၆၃ |
| ပဋိစ္စသမုပ္ပါဒ်တရားတော်ဟူသည် | ၅၇၂ |
| ပဋိစ္စသမုပ္ပါဒ်ဟူသည် | ၅၇၃ |
| **အပိုင်း (၂)** | ၅၉၁ |
| ကြိုတင် သိမှတ်ထားရန် ရှုကွက် | ၅၉၁ |
| အဝိဇ္ဇာပစ္စယာ သင်္ခါရာ | ၅၉၃ |
| သင်္ခါရပစ္စယာ ဝိညာဏံ | ၅၉၄ |
| ဝိညာဏပစ္စယာ နာမရူပံ | ၅၉၆ |
| နာမရူပပစ္စယာ သဠာယတနံ | ၅၉၉ |
| သဠာယတနပစ္စယာ ဖဿော | ၆၀၇ |
| ဖဿပစ္စယာ ဝေဒနာ | ၆၁၀ |
| ဝေဒနာပစ္စယာ တဏှာ | ၆၁၁ |
| တဏှာပစ္စယာ ဥပါဒါနံ | ၆၁၃ |
| ဥပါဒါနပစ္စယာ ဘဝေါ | ၆၁၅ |
| ဘဝပစ္စယာ ဇာတိ | ၆၁၇ |
| ဇာတိပစ္စယာ ဇရာမရဏံ | ၆၁၈ |
| သောက-ပရိဒေဝ-ဒုက္ခ-ဒေါမနဿ-ဥပါယာသ | ၆၁၉ |
| ပဋိစ္စသမုပ္ပါဒ်ဒေသနာတော်နည်း (၄) နည်း | ၆၂၃ |
| လေးနည်းခွဲ၍ ဟောကြားတော်မူရခြင်း၏ | |
| အကြောင်းရင်း | ၆၃၂ |
| **လက္ခဏာဒိစတုက္ကပိုင်း** | ၆၃၇ |
| လက္ခဏ-ရသ-ပစ္စုပဋ္ဌာန်-ပဒဋ္ဌာန်တို့ကို | |
| ရှုသင့်ပုံ | ၆၃၉ |
| ပဋိသမ္ဘိဒါဉာဏ်တော်မြတ် (၄) ပါး - | |
| သစ္စဝါရဒေသနာတော် | ၆၄၂ |
| လက္ခဏ-ရသ-ပစ္စုပဋ္ဌာန်-ပဒဋ္ဌာန်အဓိပ္ပါယ် | ၆၄၇ |
| ကြိုတင်သိမှတ်ရန် | ၆၄၈ |
| ရုပ် (၂၈) ပါး = ရူပက္ခန္ဓကထာ အခန်း | ၆၄၉ |
| သိမ်းဆည်းရှုပွားပုံနှင့် ပတ်သက်၍ အကြံပေးချက် | ၆၅၈ |
| ဝိညာဏက္ခန္ဓကထာ အခန်း | ၆၆၀ |
| ဝေဒနာက္ခန္ဓကထာ အခန်း | ၆၇၂ |
| သညာက္ခန္ဓကထာ အခန်း | ၆၇၅ |
| သင်္ခါရက္ခန္ဓကထာ အခန်း | ၆၇၆ |
| နာမ်တရားများကို လက္ခဏ-ရသ-ပစ္စုပဋ္ဌာန်- | |
| ပဒဋ္ဌာန်အားဖြင့် သိမ်းဆည်းရှုပွားပုံစနစ် | ၇၀၇ |
| ပဋိစ္စသမုပ္ပါဒ်အခန်း | ၇၀၉ |
| ကြိုတင်ပြင်ဆင်ပါ | ၇၂၇ |
| **ဝိပဿနာကမ္မဋ္ဌာန်းပိုင်း** | ၇၂၉ |
| **မဂ္ဂါမဂ္ဂဉာဏဒဿနဝိသုဒ္ဓိနိဒ္ဒေသ** | ၇၃၁ |
| **သမ္မသနဉာဏ်ခန်း** | ၇၃၁ |
| ဝိပဿနာဉာဏ်၏ အရှုခံအာရုံ | ၇၃၂ |
| ထင်ရှားရာ လွယ်ကူရာက စပါ | ၇၃၅ |
| ခန္ဓာငါးပါးနည်း | ၇၄၉ |
| ရုပ်နှင့်နာမ် တွဲ၍လည်း ရှုပါ | ၇၅၀ |
| အသုဘဘာဝနာ | ၇၅၅ |
| ပဋိစ္စသမုပ္ပါဒ် အင်္ဂါရပ်များ | ၇၅၉ |
| ဘာဝနာ (၄၀) ခေါ် တော (၄၀) ရှုကွက် | ၇၆၁ |
| ရူပသတ္တက ဝိပဿနာရှုနည်း | ၇၇၂ |
| အရူပသတ္တက ရှုနည်း | ၇၇၄ |
| **ဥဒယဗ္ဗယဉာဏ်ခန်း** | ၇၇၉ |
| ဥဒယဗ္ဗယဉာဏ် အကျယ်ရှုပွားနည်း | ၇၈၀ |
| ဥပက္ကိလေသပိုင်း | ၇၉၈ |
| **ပဋိပဒါဉာဏဒဿနဝိသုဒ္ဓိပိုင်း** | |
| = **အထက်ပိုင်း ဝိပဿနာဉာဏ်** | ၈၀၄ |
| အနုပဿနာ (၄) ပါး = သတိပဋ္ဌာန် (၄) ပါးသို့ | |
| သက်ဝင်ပုံ | ၈၀၅ |
| ဣရိယာပထနှင့် သမ္ပဇညပိုင်း ရှုကွက် | ၈၀၆ |
| **ဘင်ဉာဏ်ခန်း** | ၈၀၇ |
| ဝိပဿနာရှုနေသော ဉာဏ်ကို တစ်ဖန်ပြန်၍ | |
| ဝိပဿနာရှုခြင်း = ပဋိဝိပဿနာ | ၈၁၀ |
| **ဘယဉာဏ်မှ သင်္ခါရုပေက္ခာဉာဏ်သို့** | ၈၁၃ |
| သတိကြီးစွာဖြင့် လျှောက်သွားရမည့်လမ်း | ၈၁၄ |
| **ဉာဏဒဿနဝိသုဒ္ဓိစခန်းသို့** | ၈၁၇ |
| **သင်္ခါရုပေက္ခာဉာဏ်မှ အရိယမဂ်ဉာဏ်သို့** | ၈၁၇ |
| သူညကို မြင်အောင်ကြည့်ပါ | ၈၁၈ |
| ရှင်သေမင်း မမြင်နိုင်သူ | ၈၁၉ |
| ဉာဏ်စဉ် (၁၆) ပါး | ၈၁၉ |
| **အခန်း (၃) တိုက်တွန်းချက်ဥယျောဇဉ်အပိုင်း** | ၈၂၁ |
| လောက၌ ဘုရားရှင်တို့၏ | |
| ပွင့်ထွန်းပေါ်ပေါက်တော်မူလာခြင်း | ၈၂၃ |
| ဓမ္မအလင်းရောင် | ၈၂၄ |
| သမ္မာဒိဋ္ဌိဉာဏ်အရောင်အလင်း | ၈၂၅ |
| ဝါဒအမျိုးမျိုး တင်လာရာ၌ တုန်လှုပ်မှု မရှိသူ | ၈၂၅ |
| သူတစ်ပါးတို့၏ မျက်နှာကို | |
| မော်ကြည့်နေကြရသူများ | ၈၂၆ |
| ဘုရားရှင်၏ တရားအနှစ်ချုပ် | ၈၂၈ |
| ယုတ်ညံ့သူနှင့် မြင့်မြတ်သူ | ၈၂၉ |

| | စာမျက်နှာ |
| --- | --- |
| မလ္လိကာမိဖုရား၏ ခံဝန်ချက် သုံးမျိုး | ၈၃၆ |
| ကံကို ကုန်စေတတ်သော နည်းလမ်းကောင်းများ | ၈၄၁ |
| အရိယသစ္စာလေးပါး သိမြင်ရေး အရေးကြီးပုံ | ၈၄၆ |
| အပါယ်မှ လွတ်မြောက်ရန် ခက်ခဲပုံ | ၈၄၆ |
| လားရာဂတိ မသေချာသည့် သံသရာခရီးသည် | ၈၄၈ |
| ဦးထိပ်ထက်၌ မီးစွဲလောင်ခံနေရသူပမာ | ၈၄၈ |
| ကိုယ့်တွက်ကိုယ်တာ ကျင့်ကြံပါ | ၈၅၀ |
| **မှတ်သားဖွယ်ရာ အက္ခရာစဉ် အညွှန်း** | ၈၅၃ |


## ဇယားများ စာမျက်နှာစဉ်


| | |
| --- | --- |
| ရုပ် (၂၈) ပါး ဇယား | ၂၆၇ |
| (၆) ဒွါရ ရုပ်ကမ္မဋ္ဌာန်းဇယားများ | ၂၇၃-၂၇၈ |
| အစာအိမ်တွင်ရှိသော အစာသစ်ကော ဋ္ဌာသမှ အာဟာရဇရုပ်များ စတင်ဖြစ်ပေါ်လာပုံ ဇယား | ၃၂၃ |
| ကမ္မဇရုပ်ကလာပ်အတွင်း၌ တည်ရှိသော တေဇောနှင့် သြဇာမှ ဥတုဇရုပ်နှင့် အာဟာရဇရုပ်များ (၄-၅) ကြိမ်တိုင်အောင် နှစ်ခွ နှစ်ခွ ပွားပုံ ဇယား | ၃၂၄ |
| စိတ် (၈၉) မျိုး ဇယား | ၃၆၀ |
| စေတသိက် (၅၂) လုံး ဇယား | ၃၆၈ |
| ပရမတ်တရားများ ဇယားချုပ် | ၃၈၆ |
| ခန္ဓာ (၅) ပါးနည်းဖြင့် ပရမတ်တရားများကို ရေတွက်ပြခြင်း ဇယား | ၃၈၇ |
| အာယတန (၁၂) ပါးနည်းဖြင့် ပရမတ်တရားများကို ရေတွက်ပြခြင်း ဇယား | ၃၈၈ |
| ဓာတ် (၁၈) ပါးနည်းဖြင့် ပရမတ်တရားများကို ရေတွက်ပြခြင်း ဇယား | ၃၈၉ |
| သစ္စာ (၄) ပါးနည်းဖြင့် ပရမတ်တရားများကို ရေတွက်ပြခြင်း ဇယား | ၃၉၀ |
| အာနာပါနပဋိဘာဂနိမိတ်အာရုံ - ဓမ္မာရုံလိုင်း - မနောဒွါရ ဈာနသမာပတ္တိဝီထိဇယား | ၃၉၁ |
| ကသိုဏ်း ပဋိဘာဂနိမိတ်အာရုံ-ဓမ္မာရုံလိုင်း- မနောဒွါရ ဈာနသမာပတ္တိဝီထိဇယား | ၃၉၁ |
| ဗြဟ္မစိုရ်တရားလေးပါး-ဈာနသမာပတ္တိဝီထိဇယား | ၃၉၂ |
| ဓမ္မာရုံလိုင်း သုဒ္ဓမနောဒွါရဝီထိ အကောင်းအုပ်စု ဇယား | ၄၀၂ |
| တိဟိတ် ပုထုဇန်များအတွက် တဒါရုံဇယား | ၄၀၆ |
| ဓမ္မာရုံလိုင်း မနောဒွါရဝီထိ အကောင်းအုပ်စုဇယား - ရုပ်အစစ်ကို အာရုံယူ၍ ရှုပုံ | ၄၀၈ |
| ဓမ္မာရုံလိုင်း-မနောဒွါရဝီထိ အကောင်းအုပ်စုဇယား ရုပ်အတုကို အာရုံယူ၍ ရှုပုံ | ၄၁၀ |
| ဓမ္မာရုံလိုင်း-ဝိရတိဇယား (မနောဒွါရဝီထိ) | ၄၁၂ |
| ဓမ္မာရုံလိုင်း အပ္ပမညာစေတသိက်ဇယား - ကာမဇော မနောဒွါရဝီထိ | ၄၁၆ |
| ဓမ္မာရုံလိုင်း ဗုဒ္ဓါနုဿတိ မရဏာနုဿတိ ဇယား | ၄၁၇ |
| အတိမဟန္တာရုံ စက္ခုဒွါရဝီထိ-တဒါရမ္မဏဝါရနှင့် ပထမမဟန္တာရုံ စက္ခုဒွါရဝီထိ-ဇဝနဝါရ | ၄၂၀ |
| ဒုတိယမဟန္တာရုံ စက္ခုဒွါရဝီထိ-ဇဝနဝါရနှင့် ပထမပရိတ္တာရုံ စက္ခုဒွါရဝီထိ-ဝေါဋ္ဌဗ္ဗနဝါရ | ၄၂၁ |
| ရူပါရုံလိုင်း အကောင်းအုပ်စု ဇယား | ၄၂၆ |
| စိတ်စေတသိက် အရေအတွက် ဇယား | ၄၃၀ |
| ဓမ္မာရုံလိုင်း-မနောဒွါရဝီထိ-မကောင်းအုပ်စုဇယား | ၄၄၅ |
| ရူပါရုံလိုင်း-မကောင်းအုပ်စု အကုသိုလ်ဇောဝီထိ ဇယား | ၄၅၁ |
| (၆) လိုင်း ဇယား အချုပ် | ၄၅၆ |
| အဝိဇ္ဇာနှင့် သင်္ခါရတို့၏ မနောဒွါရဝီထိ | ၅၉၃ |
| တဏှာနှင့် ဥပါဒါန်တို့၏ ဝီထိပုံစံ | ၆၀၅ |
| ဥပါဒါန်နှင့် ကမ္မဘဝတို့၏ မနောဒွါရိကဇောဝီထိ | ၆၀၇ |
| သောက-ပရိဒေဝ-ဒေါမနဿ-ဥပါယာသ ဝီထိစဉ် | ၆၀၉ |
| ပစ္စုပ္ပန်ဘဝကို ဗဟိုထား၍ သံသရာစက်ရဟတ် လည်ပတ်ပုံကို ဖော်ပြသော ဇယားအမှတ် (၁) | ၆၂၀ |
| ပထမအတိတ်ဘဝကို ဗဟိုထား၍ သံသရာစက်ရဟတ် လည်ပတ်ပုံကို ဖော်ပြသော ဇယားအမှတ် (၂) | ၆၂၁ |
| ပထမအနာဂတ်ဘဝကို ဗဟိုထား၍ အနာဂတ်ဘဝ အဆက်ဆက်၌ သံသရာစက်ရဟတ် လည်ပတ်ပုံကို ဖော်ပြသော ဇယားအမှတ် (၃) | ၆၂၂ |
| ဝိပဿနာ မနောဒွါရိကဇောဝီထိ | ၇၇၅ |
| အဝိဇ္ဇာ တဏှာ ဥပါဒါန်တို့၏ ဝီထိပုံစံ | ၇၈၈ |
| သင်္ခါရ-ကံ အုပ်စုတို့၏ ဝီထိစဉ် | ၇၈၈ |
| ဉာဏ၊ ပီတိ။ ပ ။ ဥပေက္ခာတရားတို့၏ ဝိပဿနာ မနောဒွါရိကဇောဝီထိ | ၈၀၃ |
| နိကန္တိ - လောဘမူ-မနောဒွါရိကဇောဝီထိ | ၈၀၄ |
| ဉာဏအမည်ရသော ဝိပဿနာဇောဝီထိ | ၈၁၀ |


**မာတိကာ ပြီး၏။**



# နိဒါနကထာ – အကြောင်းပြစာတမ်းလွှာ

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

ချစ်သား ရဟန်းတို့. . . အကြင်ရဟန်းတို့သည် **အဓမ္မကို ဓမ္မဟု** ထင်ရှားပြကြကုန်၏၊ ချစ်သား ရဟန်းတို့. . . ထိုရဟန်းတို့သည် လူများအပေါင်း၏ (လူ-နတ်-နိဗ္ဗာန် သုံးတန်သော) အစီးအပွားမဲ့ခြင်းငှာ, လူများအပေါင်း၏ (လူ-နတ်-နိဗ္ဗာန် သုံးတန်သော) ချမ်းသာမဲ့ခြင်းငှာ, လူများအပေါင်း၏ (လူ-နတ်-နိဗ္ဗာန် သုံးတန်သော) အကျိုးမဲ့ခြင်းငှာ, နတ်လူတို့၏ (လူ-နတ်-နိဗ္ဗာန် သုံးတန်သော) အစီးအပွားမဲ့ခြင်းငှာ ဆင်းရဲခြင်းငှာ ကျင့်သည် မည်ကုန်၏။ ချစ်သား ရဟန်းတို့. . . ထိုရဟန်းတို့သည် များစွာသော အကုသိုလ်ကိုလည်း ဖြစ်ပွားစေသည် မည်ကုန်၏၊ ထိုရဟန်းတို့သည် ဤသာသနာတော်ကိုလည်း ကွယ်ပျောက်စေသည် မည်ကုန်၏။[၁]

ချစ်သား ရဟန်းတို့. . . အကြင်ရဟန်းတို့သည် **ဓမ္မကို အဓမ္မဟု** ထင်ရှားပြကြကုန်၏၊ ချစ်သား ရဟန်းတို့. . . ထိုရဟန်းတို့သည် လူများအပေါင်း၏ (လူ-နတ်-နိဗ္ဗာန် သုံးတန်သော) အစီးအပွားမဲ့ခြင်းငှာ, လူများအပေါင်း၏ (လူ-နတ်-နိဗ္ဗာန် သုံးတန်သော) ချမ်းသာမဲ့ခြင်းငှာ, လူများအပေါင်း၏ (လူ-နတ်-နိဗ္ဗာန် သုံးတန်သော) အကျိုးမဲ့ခြင်းငှာ, နတ်လူတို့၏ (လူ-နတ်-နိဗ္ဗာန် သုံးတန်သော) အစီးအပွားမဲ့ခြင်းငှာ ဆင်းရဲခြင်းငှာ ကျင့်သည် မည်ကုန်၏။ ချစ်သား ရဟန်းတို့. . . ထိုရဟန်းတို့သည် များစွာသော အကုသိုလ်ကိုလည်း ဖြစ်ပွားစေသည် မည်ကုန်၏၊ ထိုရဟန်းတို့သည် ဤသာသနာတော်ကိုလည်း ကွယ်ပျောက်စေသည် မည်ကုန်၏။[၁]

ချစ်သား ရဟန်းတို့. . . အကြင်ရဟန်းတို့သည် **အဓမ္မကို အဓမ္မဟု** ထင်ရှားပြကြကုန်၏၊ ချစ်သား ရဟန်းတို့. . . ထိုရဟန်းတို့သည် လူများအပေါင်း၏ (လူ-နတ်-နိဗ္ဗာန် သုံးတန်သော) အစီးအပွားဖြစ်ခြင်းငှာ, လူများအပေါင်း၏ (လူ-နတ်-နိဗ္ဗာန် သုံးတန်သော) ချမ်းသာကို ရရှိခြင်းငှာ, လူများအပေါင်း၏ (လူ-နတ်-နိဗ္ဗာန် သုံးတန်သော) အကျိုးဖြစ်ခြင်းငှာ, နတ်လူတို့၏ (လူ-နတ်-နိဗ္ဗာန် သုံးတန်သော) အစီးအပွားဖြစ်ခြင်းငှာ ချမ်းသာခြင်းငှာ ကျင့်သည် မည်ကုန်၏။ ချစ်သား ရဟန်းတို့. . . ထိုရဟန်းတို့သည် များစွာသော ကုသိုလ်တရားကိုလည်း ဖြစ်ပွားစေသည် မည်ကုန်၏၊ ထိုရဟန်းတို့သည် ဤသာသနာတော်ကိုလည်း အရှည်ခိုင်ခံ့ တည်တံ့စေသည် မည်ကုန်၏။[၁]

ချစ်သား ရဟန်းတို့. . . အကြင်ရဟန်းတို့သည် **ဓမ္မကို ဓမ္မဟု** ထင်ရှားပြကြကုန်၏၊ ချစ်သား ရဟန်းတို့. . . ထိုရဟန်းတို့သည် လူများအပေါင်း၏ (လူ-နတ်-နိဗ္ဗာန် သုံးတန်သော) အစီးအပွားဖြစ်ခြင်းငှာ, လူများအပေါင်း၏ (လူ-နတ်-နိဗ္ဗာန် သုံးတန်သော) ချမ်းသာကို ရရှိခြင်းငှာ, လူများအပေါင်း၏ (လူ-နတ်-နိဗ္ဗာန် သုံးတန်သော) အကျိုးဖြစ်ခြင်းငှာ, နတ်လူတို့၏ (လူ-နတ်-နိဗ္ဗာန် သုံးတန်သော) အစီးအပွားဖြစ်ခြင်းငှာ ချမ်းသာခြင်းငှာ ကျင့်သည် မည်ကုန်၏။ ချစ်သား

[၁] (အံ၊၁၊၁၈၊၁၉။)

ရဟန်းတို့. . . ထိုရဟန်းတို့သည် များစွာသော ကုသိုလ်တရားကိုလည်း ဖြစ်ပွားစေသည် မည်ကုန်၏၊ ထိုရဟန်းတို့သည် ဤသာသနာတော်ကိုလည်း အရှည်ခိုင်ခံ့ တည်တံ့စေသည် မည်ကုန်၏။[၁]

ဤကဲ့သို့ ဘုရားရှင် ညွှန်ကြားပြသ ဆိုဆုံးမထားတော်မူခဲ့သည့်အတိုင်း ထေရဝါဒပိဋကပါဠိတော်နှင့် အညီ "ဝိပဿနာကျင့်စဉ်ပိုင်းဆိုင်ရာ"၌ **"ဓမ္မနှင့် အဓမ္မ"**ကို ကွဲကွဲပြားပြား သိရှိကြပါစေဟူသော မွန်မြတ်သော ဦးတည်ချက်ဖြင့် တစ်ချိန်က အမှတ်မထင်သော တစ်နေရာတွင် ဝိပဿနာသင်တန်းတစ်ခုကို ပို့ချပေးခဲ့ဖူး၏။ ထိုသင်တန်းတွင် သင်တန်းသူ သင်တန်းသားများ လက်စွဲစာစောင်အဖြစ် အသုံးပြုရန် ရည်ရွယ်ကာ ဤစာမူကို စုစည်းခဲ့ပါသည်။ ထိုသို့ စုစည်းရာ၌ အချိန်၏ တိုတောင်းမှုစသည့် အကြောင်းအမျိုးမျိုးကြောင့် သန့်ရှင်းသော စာမူတစ်ခုကား မဖြစ်ခဲ့ပါ။ သို့သော် ထိုစာမူကို ရိုက်နှိပ်လှူဒါန်းပူဇော်လိုသူ အလှူရှင်တို့၏ လျှောက်ထားတောင်းပန်ချက်အရ သန့်ရှင်းသော စာမူတစ်ခု အဖြစ်သို့ ရောက်အောင် ပို့ဆောင်ပေးလိုက်ပါသည်။

ဝိပဿနာကျင့်စဉ်ပိုင်းဆိုင်ရာ၌ ဘုရားရှင်သည် မဟာသတိပဋ္ဌာနသုတ္တန်နိဒါန်းတွင် ဤသို့ မိန့်ကြားထားတော်မူခဲ့၏ . . ။

ဧကာယနော အယံ ဘိက္ခဝေ မဂ္ဂေါ သတ္တာနံ ဝိသုဒ္ဓိယာ, သောကပရိဒေဝါနံ သမတိက္ကမာယ, ဒုက္ခဒေါမနဿာနံ အတ္ထင်္ဂမာယ, ဉာယဿ အဓိဂမာယ, နိဗ္ဗာနဿ သစ္ဆိကိရိယာယ၊ ယဒိဒံ စတ္တာရော သတိပဋ္ဌာနာ။[၂]

"ရဟန်းတို့ . . . ဤခရီးလမ်းသည် . . သတ္တဝါတို့၏ စိတ်ဓာတ် သန့်ရှင်းစင်ကြယ်ရန်, စိုးရိမ်ပူပန်ခြင်း ငိုကြွေးခြင်းတို့ကို ကျော်လွှားလွန်မြောက်ရန်, ကိုယ်ဆင်းရဲခြင်း စိတ်ဆင်းရဲခြင်းတို့ ချုပ်ငြိမ်းရန်, အရိယမဂ်ကို ရရှိရန်, နိဗ္ဗာန်ကို မျက်မှောက်ပြုရန် တစ်ကြောင်းတည်းသော ခရီးလမ်း . . ဖြစ်ပေ၏၊ ယင်းသည့်ခရီးလမ်းသည်ကား ဤသတိပဋ္ဌာန်တရား လေးပါးတို့ပင်တည်း။"[၂]

ဤသို့ မိန့်ကြားတော်မူချက်နှင့် ဆက်စပ်၍ "နိဗ္ဗာန်သို့ သွားရာ တစ်ကြောင်းတည်းသောလမ်း"သာ ရှိသည်ကို နားလည်သဘောပေါက်စေရန်ဟူသော ဦးတည်ချက်ဖြင့်လည်း ဤစာမူကို စုစည်းခဲ့ခြင်း ဖြစ်ပါသည်။

ဤအရာတွင် အဘယ်အကြောင်းကြောင့် ယောဂီသူတော်စင်တို့အား "ဝိပဿနာကျင့်စဉ်ပိုင်းဆိုင်ရာ"၌ **"ဓမ္မနှင့် အဓမ္မ"**ကို ကွဲကွဲပြားပြား သိစေလိုပါသနည်း? "နိဗ္ဗာန်သို့ သွားရာ တစ်ကြောင်းတည်းသောလမ်း"သာ ရှိသည်ကို နားလည်သဘောပေါက်စေလိုပါသနည်း?ဟု မေးရန် ရှိ၏။ အဖြေမှာ ဤသို့ ဖြစ်၏ . . ။

## သမဏရဟန်းနှင့် ဗြာဟ္မဏရဟန်း

**သမဏရဟန်း — သမိတပါပတ္တာ သမဏော** . . ဟူသော ပါဠိတော်[၃]နှင့် အညီ . . ပါးလျှပ်သော ကိလေသာ, ထူထပ်သော ကိလေသာဟူသည့် မကောင်းမှု အကုသိုလ်တရား အားလုံးတို့ကို အကြွင်းအကျန်မရှိ အကုန်အစင် ငြိမ်းအေးအောင် ငြိမ်းသတ်တတ်သောကြောင့် သမဏရဟန်း မည်ပေသည်။

ပရိနိဗ္ဗာန်စံလွန်တော်မူမည့်ညဉ့်တွင် သုဘဒ္ဒပရိဗိုဇ်အား ဘုရားရှင်က ဤသို့ မိန့်ကြားသွားတော်မူ၏ . . ။ "သုဘဒ္ဒ. . . ဤငါဘုရားရှင်၏ အဆုံးအမသာသနာတော်တွင်း၌သာလျှင် မဂ္ဂင် (၈)ပါးကျင့်စဉ်တရားသည် ထင်ရှား တည်ရှိ၏။ ယင်းမဂ္ဂင် (၈)ပါးကျင့်စဉ်တရားတို့ကို အောင်အောင်မြင်မြင် ကျင့်ကြံကြိုးကုတ် ပွားများအားထုတ်ကြသဖြင့် ဤငါဘုရားရှင်၏ အဆုံးအမသာသနာတော်တွင်း၌သာလျှင် ပဌမရဟန်း (= သောတာပန်) သည်လည်း ထင်ရှား တည်ရှိ၏၊ ဒုတိယရဟန်း (= သကဒါဂါမ်) သည်လည်း ထင်ရှားတည်ရှိ၏၊ တတိယရဟန်း (= အနာဂါမ်) သည်လည်း ထင်ရှားတည်ရှိ၏၊ စတုတ္ထရဟန်း (= ရဟန္တာ) သည်လည်း ထင်ရှားတည်ရှိ၏။ သို့သော် ငါဘုရားရှင်၏ အဆုံးအမ သာသနာတော်မှတစ်ပါး အခြားအခြားသော အယူဝါဒတို့၌ကား မဂ္ဂင် (၈)ပါး ကျင့်စဉ်တရားသည်လည်း ထင်ရှား မတည်ရှိ မဂ္ဂင် (၈)ပါးကျင့်စဉ်တရားကို ကျင့်ကြံကြိုးကုတ် ပွားများအားထုတ်ကြသည့်သူတို့လည်း ထင်ရှားမရှိကြကုန်။ သို့အတွက် ယင်းအယူဝါဒတို့၌ ပဌမရဟန်း (= သောတာပန်) မှလည်း ဆိတ်သုဉ်း၏၊ ဒုတိယရဟန်း (= သကဒါဂါမ်) မှလည်း ဆိတ်သုဉ်း၏၊ တတိယရဟန်း (= အနာဂါမ်) မှလည်း ဆိတ်သုဉ်း၏၊ စတုတ္ထရဟန်း (= ရဟန္တာ) မှလည်း ဆိတ်သုဉ်း၏။

---

[၂] (ဒီ၊၂၊၂၃၀။ မ၊၁၊၇၀။)   [၃] (ဓမ္မပဒ၊ ဂါထာ-၂၆၅။)

သုဘဒ္ဒ. . . ဤငါဘုရားရှင်၏ အဆုံးအမ သာသနာတော်တွင်း၌ ယင်းရဟန်းတော်တို့သည် ဤမဂ္ဂင် (၈)ပါး ကျင့်စဉ်တရားတို့ကို မိမိတို့ ကိုယ်တိုင်လည်း ကောင်းစွာ ကျင့်ကြကုန်လျက် သူတစ်ပါးတို့ကိုလည်း ကောင်းစွာ ကျင့်စေကြကုန်လျက် ကောင်းမွန်စွာ နေထိုင်သွားကြကုန်သည် ဖြစ်ငြားအံ့၊ ဤလောကကြီးသည် ရဟန္တာပုဂ္ဂိုလ်တို့ဖြင့် မဆိတ်သုဉ်းနိုင်လေရာ”ဟု မိန့်ကြားသွားတော်မူ၏။[၄]

**သမ္မာ ဝိဟရေယျုံ = ကောင်းမွန်စွာ နေထိုင်ပုံစနစ်** — ရဟန်းတော်တို့သည် ဤဘုရားရှင်၏ သာသနာတော်တွင်း၌ မဂ္ဂင် (၈)ပါးကျင့်စဉ်တရားတို့ကို မိမိတို့ကိုယ်တိုင်လည်း ကျင့်ကြံကြိုးကုတ် ပွားများအားထုတ်ကြကုန်လျက် နေထိုင်ကြရာဝယ် ရဟန်းတော်တစ်ပါးက မိမိကိုယ်တိုင် သောတာပတ္တိမဂ်ဉာဏ် ဖိုလ်ဉာဏ်သို့ ဆိုက်ရောက်ပြီးသည့်အခါ အခြားရဟန်းတော်တစ်ပါးကိုလည်း အလားတူပင် သောတာပတ္တိမဂ်ဉာဏ် ဖိုလ်ဉာဏ်သို့ ဆိုက်ရောက်အောင်၊ တစ်ဖန် မိမိက သကဒါဂါမိမဂ်ဉာဏ် ဖိုလ်ဉာဏ်သို့ ဆိုက်ရောက်ပြီးသည့်အခါ အခြားရဟန်းတော်တစ်ပါးကိုလည်း သကဒါဂါမိမဂ်ဉာဏ် ဖိုလ်ဉာဏ်သို့ ဆိုက်ရောက်အောင်၊ တစ်ဖန် မိမိက အနာဂါမိမဂ်ဉာဏ် ဖိုလ်ဉာဏ်သို့ ဆိုက်ရောက်ပြီးသည့်အခါ အခြားရဟန်းတော်တစ်ပါးကိုလည်း အနာဂါမိမဂ်ဉာဏ် ဖိုလ်ဉာဏ်သို့ ဆိုက်ရောက်အောင်၊ တစ်ဖန် မိမိက အရဟတ္တမဂ်ဉာဏ် ဖိုလ်ဉာဏ်သို့ ဆိုက်ရောက်ပြီးသည့်အခါ အခြားရဟန်းတော်တစ်ပါးကိုလည်း အရဟတ္တမဂ်ဉာဏ် ဖိုလ်ဉာဏ်သို့ ဆိုက်ရောက်အောင် မဂ္ဂင် (၈)ပါးကျင့်စဉ်တရားတို့ကို လက်ဆင့်ကမ်းကာ သင်ကြားပြသလျက် နေထိုင်သွားကြမည်ဆိုပါက ဤကဲ့သို့သော နေထိုင်နည်းမျိုးကို ဤသာသနာတော်၌ **ကောင်းမွန်စွာ နေထိုင်နည်း**ဟု ဆိုလိုကြောင်းကို အဋ္ဌကထာ[၅]က ရှင်းလင်းတင်ပြထား၏။ ရဟန်းတော်တို့သည် ဤသာသနာတော်မြတ်အတွင်း၌ . . ဤကဲ့သို့ . . ကောင်းမွန်စွာ နေထိုင်သွားကြပါက ဤလောကကြီးသည် ရဟန္တာပုဂ္ဂိုလ်တို့မှ မဆိတ်သုဉ်းနိုင်ဟု ဆိုလိုပေသည်။

**ဗြာဟ္မဏရဟန်း** — ဤအရာတွင် ဇာတိဗြာဟ္မဏ ဝိသုဒ္ဓိဗြာဟ္မဏဟု ဗြာဟ္မဏ နှစ်မျိုး ရှိနေပေ၏။[၆] အမျိုးဇာတ်အားဖြင့် ဗြာဟ္မဏအမည်ရသည့် ပုဏ္ဏားတို့ကို ဇာတိဗြာဟ္မဏဟု ခေါ်ဆို၏။ ယင်းတို့ကို သာသနာတော်၌ကား ဗြာဟ္မဏဟု မဆိုလိုပါ။ သာသနာတော်၌ကား — **ဗာဟိတပါပေါတိ ဗြာဟ္မဏော**[၇] . . ဟု ဘုရားရှင် ဟောကြားထားတော်မူသည်နှင့်အညီ ပါးလျှပ်သော ကိလေသာ, ထူထပ်သော ကိလေသာဟူသည့် မကောင်းမှု အကုသိုလ်တရား အားလုံးတို့မှ အပပြုအပ်ပြီးသည့် အဖြစ်ကြောင့် အရိယာသူတော်ကောင်းတို့ကို ဗြာဟ္မဏဟု ခေါ်ဆိုပေသည်။

## ဘုရားရှင်၏ အသိအမှတ်ပြုခြင်းကို ခံယူရသော သမဏရဟန်းနှင့် ဗြာဟ္မဏရဟန်း

ဣတိဝုတ်ပါဠိတော်[၈]တွင် ဘုရားရှင်သည် မည်သည့်ပုဂ္ဂိုလ်များကို သမဏဟုလည်းကောင်း ဗြာဟ္မဏဟုလည်းကောင်း ခေါ်ဆိုကြောင်းကို ဤသို့ မိန့်ကြားသွားတော်မူ၏ . . ။

“ချစ်သား ရဟန်းတို့ . . . ခပ်သိမ်းကုန်သော အကြင် သမဏဗြာဟ္မဏတို့သည် . .

၁။ ‘ဤကား ဒုက္ခဖြစ်သည့် အရိယာတို့၏ အမှန်တရား ဒုက္ခအရိယသစ္စာတရားတည်း’ဟု ဟုတ်တိုင်းမှန်စွာ သမ္မာဒိဋ္ဌိဉာဏ်ပညာဖြင့် ကိုယ်တိုင်မျက်မှောက် ထွင်းဖောက် မသိမမြင်ကြကုန်၊

---

[၄] (ဒီ၊၂၊၁၂၅၊ စာပိုဒ်၊၂၁၄။ မဟာပရိနိဗ္ဗာနသုတ္တန်။)  [၅] (ဒီ၊ဋ္ဌ၊၂၊၁၈၁။)

[၆] (ဝိ၊ဋ္ဌ၊၁၊၈၃။ သာရတ္ထ၊ဋီ၊၁၊၂၁၃၊ စာပိုဒ်၊၁၈။ ဒီ၊ဋီ၊၂၊၂၀၈၊၂၅၅။)  [၇] (ဓမ္မပဒ၊ ဂါထာ-၃၈၈)

[၈] “ယေ ဟိ ကေစိ ဘိက္ခဝေ သမဏာ ဝါ ဗြာဟ္မဏာ ဝါ ‘ဣဒံ ဒုက္ခ’န္တိ ယထာဘူတံ နပ္ပဇာနန္တိ၊ ‘အယံ ဒုက္ခသမုဒယော’တိ ယထာဘူတံ နပ္ပဇာနန္တိ၊ ‘အယံ ဒုက္ခနိရောဓော’တိ ယထာဘူတံ နပ္ပဇာနန္တိ၊ ‘အယံ ဒုက္ခနိရောဓဂါမိနီ ပဋိပဒါ’တိ ယထာဘူတံ နပ္ပဇာနန္တိ၊ န မေ တေ ဘိက္ခဝေ သမဏာ ဝါ ဗြာဟ္မဏာ ဝါ သမဏေသု ဝါ သမဏသမ္မတာ ဗြာဟ္မဏေသု ဝါ ဗြာဟ္မဏသမ္မတာ, န စ ပနေတေ အာယသ္မန္တော သာမညတ္ထံ ဝါ ဗြာဟ္မညတ္ထံ ဝါ ဒိဋ္ဌေဝ ဓမ္မေ သယံ အဘိညာ သစ္ဆိကတွာ ဥပသမ္ပဇ္ဇ ဝိဟရန္တိ။

ယေ စ ခေါ ကေစိ ဘိက္ခဝေ သမဏာ ဝါ ဗြာဟ္မဏာ ဝါ ‘ဣဒံ ဒုက္ခ’န္တိ ယထာဘူတံ ပဇာနန္တိ၊ ‘အယံ ဒုက္ခသမုဒယော’တိ ယထာဘူတံ ပဇာနန္တိ၊ ‘အယံ ဒုက္ခနိရောဓော’တိ ယထာဘူတံ ပဇာနန္တိ၊ ‘အယံ ဒုက္ခနိရောဓဂါမိနီ ပဋိပဒါ’တိ ယထာဘူတံ ပဇာနန္တိ၊ တေ ခေါ မေ ဘိက္ခဝေ သမဏာ ဝါ ဗြာဟ္မဏာ ဝါ သမဏေသု စေဝ သမဏသမ္မတာ ဗြာဟ္မဏေသု စ ဗြာဟ္မဏသမ္မတာ, တေ စ ပနာယသ္မန္တော သာမညတ္ထဉ္စ ဗြာဟ္မညတ္ထဉ္စ ဝါ ဒိဋ္ဌေဝ ဓမ္မေ သယံ အဘိညာ သစ္ဆိကတွာ ဥပသမ္ပဇ္ဇ ဝိဟရန္တီ”တိ။ (ဣတိဝုတ္တက၊ ခု၊၁၊၂၆၆၊ စာပိုဒ်၊၁၀၃။ သမဏဗြာဟ္မဏသုတ္တန်။)

၂။ 'ဤကား ဒုက္ခဖြစ်ကြောင်း ဖြစ်သည့် အရိယာတို့၏ အမှန်တရား ဒုက္ခသမုဒယအရိယသစ္စာတရားတည်း'ဟု ဟုတ်တိုင်းမှန်စွာ သမ္မာဒိဋ္ဌိ ဉာဏ်ပညာဖြင့် ကိုယ်တိုင်မျက်မှောက် ထွင်းဖောက် မသိမမြင်ကြကုန်၊

၃။ 'ဤကား ဒုက္ခချုပ်ရာ ဖြစ်သည့် အရိယာတို့၏ အမှန်တရား ဒုက္ခနိရောဓအရိယသစ္စာတရားတည်း'ဟု ဟုတ်တိုင်းမှန်စွာ သမ္မာဒိဋ္ဌိ ဉာဏ်ပညာဖြင့် ကိုယ်တိုင်မျက်မှောက် ထွင်းဖောက် မသိမမြင်ကြကုန်၊

၄။ 'ဤကား ဒုက္ခချုပ်ရာ (နိဗ္ဗာန်)သို့ ရောက်ကြောင်း အကျင့်ဖြစ်သည့် ဒုက္ခနိရောဓဂါမိနီ ပဋိပဒါ အရိယသစ္စာ (= မဂ္ဂအရိယသစ္စာ)တရားတည်း'ဟု ဟုတ်တိုင်းမှန်စွာ သမ္မာဒိဋ္ဌိ ဉာဏ်ပညာဖြင့် ကိုယ်တိုင်မျက်မှောက် ထွင်းဖောက် မသိမမြင်ကြကုန်။

ဤသို့ ဟုတ်တိုင်းမှန်စွာ သမ္မာဒိဋ္ဌိ ဉာဏ်ပညာဖြင့် ကိုယ်တိုင်မျက်မှောက် ထွင်းဖောက် မသိမမြင်ကြသည့် ထိုသမဏဗြာဟ္မဏတို့ကို သမဏတို့၌လည်း သမဏဟု ငါဘုရား မသမုတ်အပ်ကုန်၊ ဗြာဟ္မဏတို့၌လည်း ဗြာဟ္မဏဟု ငါဘုရား မသမုတ်အပ်ကုန်၊ ထိုအရှင်တို့သည် သမဏဖြစ်ရခြင်း၏အကျိုးကိုလည်းကောင်း, ဗြာဟ္မဏဖြစ်ရခြင်း၏ အကျိုးကိုလည်းကောင်း မျက်မှောက်သောဘဝ၌ပင် မိမိတို့ကိုယ်တိုင် သမ္မာဒိဋ္ဌိ ဉာဏ်ပညာဖြင့် ထွင်းဖောက်သိမြင်လျက် မျက်မှောက်ပြုကာ ရောက်၍ မနေကြရကုန်။

ချစ်သား ရဟန်းတို့ . . . အကြင် သမဏဗြာဟ္မဏတို့သည်ကား . .

၁။ 'ဤကား ဒုက္ခဖြစ်သည့် အရိယာတို့၏ အမှန်တရား ဒုက္ခအရိယသစ္စာတရားတည်း'ဟု ဟုတ်တိုင်းမှန်စွာ သမ္မာဒိဋ္ဌိ ဉာဏ်ပညာဖြင့် ကိုယ်တိုင်မျက်မှောက် ထွင်းဖောက် သိမြင်ကြကုန်၏၊

၂။ 'ဤကား ဒုက္ခဖြစ်ကြောင်း ဖြစ်သည့် အရိယာတို့၏ အမှန်တရား ဒုက္ခသမုဒယအရိယသစ္စာတရားတည်း'ဟု ဟုတ်တိုင်းမှန်စွာ သမ္မာဒိဋ္ဌိ ဉာဏ်ပညာဖြင့် ကိုယ်တိုင်မျက်မှောက် ထွင်းဖောက် သိမြင်ကြကုန်၏၊

၃။ 'ဤကား ဒုက္ခချုပ်ရာ ဖြစ်သည့် အရိယာတို့၏ အမှန်တရား ဒုက္ခနိရောဓအရိယသစ္စာတရားတည်း'ဟု ဟုတ်တိုင်းမှန်စွာ သမ္မာဒိဋ္ဌိ ဉာဏ်ပညာဖြင့် ကိုယ်တိုင်မျက်မှောက် ထွင်းဖောက် သိမြင်ကြကုန်၏၊

၄။ 'ဤကား ဒုက္ခချုပ်ရာ (နိဗ္ဗာန်)သို့ ရောက်ကြောင်း အကျင့်ဖြစ်သည့် ဒုက္ခနိရောဓဂါမိနီ ပဋိပဒါ အရိယသစ္စာ (= မဂ္ဂအရိယသစ္စာ)တရားတည်း'ဟု ဟုတ်တိုင်းမှန်စွာ သမ္မာဒိဋ္ဌိ ဉာဏ်ပညာဖြင့် ကိုယ်တိုင်မျက်မှောက် ထွင်းဖောက် သိမြင်ကြကုန်၏၊

ဤသို့ ဟုတ်တိုင်းမှန်စွာ သမ္မာဒိဋ္ဌိ ဉာဏ်ပညာဖြင့် ကိုယ်တိုင်မျက်မှောက် ထွင်းဖောက် သိမြင်ကြသည့် သမဏဗြာဟ္မဏတို့ကို သမဏတို့၌လည်း သမဏဟု ငါဘုရား သမုတ်အပ်ကုန်၏၊ ဗြာဟ္မဏတို့၌လည်း ဗြာဟ္မဏဟု ငါဘုရား သမုတ်အပ်ကုန်၏။ ထိုအရှင်တို့သည် သမဏဖြစ်ရခြင်း၏အကျိုးကိုလည်းကောင်း, ဗြာဟ္မဏဖြစ်ရခြင်း၏ အကျိုးကိုလည်းကောင်း မျက်မှောက်သောဘဝ၌ပင် မိမိတို့ကိုယ်တိုင် သမ္မာဒိဋ္ဌိ ဉာဏ်ပညာဖြင့် ထွင်းဖောက်သိမြင်လျက် မျက်မှောက်ပြုကာ ရောက်၍ နေကြရကုန်၏။"[၈]

ဤအထက်ပါဒေသနာတော်နှင့် အညီ ဘုရားရှင်ကိုယ်တော်တိုင်က အရိယသစ္စာလေးရပ် တရားမြတ်တို့ကို ဟုတ်တိုင်းမှန်စွာ သမ္မာဒိဋ္ဌိ ဉာဏ်ပညာဖြင့် ကိုယ်တိုင်မျက်မှောက် ထွင်းဖောက်သိမြင်သူတို့ကိုသာ သမဏရဟန်းအဖြစ် ဗြာဟ္မဏရဟန်းအဖြစ် အသိအမှတ် ပြုထားတော်မူပေသည်။ အရိယသစ္စာလေးရပ် တရားမြတ်တို့ကို သမ္မာဒိဋ္ဌိ ဉာဏ်ပညာဖြင့် ကိုယ်တိုင်မျက်မှောက် ထွင်းဖောက် မသိမမြင်သူတို့ကိုကား သမဏရဟန်းအဖြစ် ဗြာဟ္မဏရဟန်းအဖြစ် ဘုရားရှင်က အသိအမှတ်ပြုတော်မမူ။[၉] ဤဘုရားရှင်၏ သာသနာတော်တွင်း၌ပင် ဘုရားရှင်ကိုယ်တော်တိုင်၏ သမဏရဟန်းအဖြစ် ဗြာဟ္မဏရဟန်းအဖြစ် အသိအမှတ်ပြုခြင်းကို ခံယူလိုသည့် သူတော်ကောင်းတိုင်း သူတော်ကောင်း

---

[၉] သို့သော် မောရသုတ်၌ကား ဘုရားအလောင်းတော် ဥဒေါင်းမင်းက ပရိနိဗ္ဗာန် စံလွန်တော်မူပြီးကြသည့် သမ္မာသမ္ဗုဒ္ဓဘုရားရှင်-တို့ကို ရည်ညွှန်းကာ ရှိခိုးနေသည့်အတွက်ကြောင့် ယင်းမောရသုတ်၌ ဗြာဟ္မဏ-အရ သမ္မာသမ္ဗုဒ္ဓဘုရားရှင်တို့ကို ဆိုလိုကြောင်းကို အဋ္ဌကထာဆရာတော်က ဖွင့်ဆိုထားတော်မူပေ၏။ (ဇာတကဋ္ဌ၊၂၃၀၊ စာပိုဒ်၁၈။) ဤသမဏဗြာဟ္မဏသုတ္တန်၌ကား ဗြာဟ္မဏအရ အရိယာသူတော်ကောင်းအားလုံးတို့ကိုပင် ဗြာဟ္မဏဟု ဆိုလိုပေသည်။

တိုင်းသည် တစ်နည်းဆိုရသော် သောတာပန် သကဒါဂါမ် အနာဂါမ် ရဟန္တာဟူသည့် အရိယာအဆင့်သို့ ရောက်ရှိ တက်လှမ်းလိုသည့် သူတော်ကောင်းတိုင်း သူတော်ကောင်းတိုင်းသည် အရိယသစ္စာလေးရပ် တရားမြတ်တို့ကို သမ္မာဒိဋ္ဌိ ဉာဏ်ပညာဖြင့် ကိုယ်တိုင်မျက်မှောက် ထွင်းဖောက် သိမြင်အောင် ကြိုးပမ်းရတော့မည်သာ ဖြစ်၏။ ထိုသို့ ကြိုးပမ်းရာ၌ ယောဂါဝစရပုဂ္ဂိုလ်သည် . .

၁။ ဒုက္ခအရိယသစ္စာတရားဟူသည် အဘယ်နည်း။

၂။ ဒုက္ခဖြစ်ကြောင်း ဒုက္ခသမုဒယအရိယသစ္စာတရားဟူသည် အဘယ်နည်း။

၃။ ဒုက္ခချုပ်ရာ ဒုက္ခနိရောဓအရိယသစ္စာတရားဟူသည် အဘယ်နည်း။

၄။ ဒုက္ခချုပ်ရာ (နိဗ္ဗာန်)သို့ ရောက်ကြောင်း ကျင့်စဉ်ဖြစ်သည့် ဒုက္ခနိရောဓဂါမိနီ ပဋိပဒါ အမည်ရသည့် မဂ္ဂအရိယ သစ္စာတရားဟူသည် အဘယ်နည်း . . . . ။

ဤကဲ့သို့သော မေးခွန်းတို့၏ အဖြေတို့ကိုလည်း ကြိုတင်ကာ သိထားသင့်ပေသည်။ ထိုသို့ သိရှိနိုင်ရန်အတွက် **သဘောတရားရေးရာအပိုင်း**ကိုလည်း ရေးသားတင်ပြထားပါသည်။

တစ်ဖန် အရိယသစ္စာလေးရပ် တရားမြတ်တို့ကို သမ္မာဒိဋ္ဌိ ဉာဏ်ပညာဖြင့် ကိုယ်တိုင်မျက်မှောက် ထွင်းဖောက် သိမြင်ရေးအတွက် ဒုက္ခနိရောဓဂါမိနီ ပဋိပဒါ အမည်ရသည့် မဂ္ဂင် (၈)ပါး ကျင့်စဉ်တရားတို့ကို ကျင့်ရမည်ဖြစ်ရာ ယင်းမဂ္ဂင် (၈)ပါး ကျင့်စဉ်တရားတို့ကို မည်သို့မည်ပုံ ကျင့်ကြံကြိုးကုတ် ပွားများအားထုတ်ရမည်နည်း၊ နိဗ္ဗာန်သို့ သွားရာ တစ်ကြောင်းတည်းသောလမ်းဖြစ်သည့် သတိပဋ္ဌာန်တရား (၄)ပါးတို့ကို မည်သို့မည်ပုံ ကျင့်ကြံကြိုးကုတ် ပွားများ အားထုတ်ရမည်နည်း . . . ဤသို့စသော မေးခွန်းများ၏ အဖြေများကို ဖြေကြားသောအနေဖြင့် **လုပ်ငန်းခွင်အပိုင်း**တွင် ကျင့်စဉ်အရပ်ရပ်တို့ကို အကျဉ်းချုပ်ကာ ရေးသားတင်ပြထားပေသည်။

တစ်ဖန် ယောဂီသူတော်စင်တို့ သစ္စာလေးရပ် တရားမြတ်တို့ကို သမ္မာဒိဋ္ဌိ ဉာဏ်ပညာဖြင့် ကိုယ်တိုင်မျက်မှောက် ထွင်းဖောက် မသိမမြင်ပါက ရရှိနိုင်သည့် အကျိုးအပြစ်တို့ကို ညွှန်ကြားပြသလျက် တိုက်တွန်းဟောကြားထားတော်မူသည့် သုတ္တန်အရပ်ရပ်တို့ကို စုပေါင်းကာ **တိုက်တွန်းချက် ဥယျောဇဉ်အပိုင်း**ဟူသော အမည်ဖြင့် အပိုင်းကဏ္ဍ တစ်ရပ်ကိုလည်း ဆက်လက်ကာ ရေးသားတင်ပြထားပါသည်။ ဤကဲ့သို့သော ကျမ်းစာငယ်တစ်ခုအတွင်း၌ ကျင့်စဉ်အကျဉ်းချုပ် လိုရင်း-ကိုသာ တင်ပြထားနိုင်သည်ဖြစ်ရာ ကျင့်စဉ်အရပ်ရပ် အပြည့်အစုံကို မဖော်ပြနိုင်ခြင်းကိုကား နားလည်သဘောပေါက်ကာ ခွင့်လွှတ်နိုင်လိမ့်မည်ဟု မျှော်လင့်အပ်ပါသည်။

ယောဂီသူတော်စင်အပေါင်းတို့သည်လည်း ယခုမျက်မှောက်ဘဝမှာပင် ဘုရားရှင်နှစ်ခြိုက်တော်မူသည့် ဘုရားရှင်၏ အသိအမှတ်ပြုခြင်းကို ခံယူရသည့် သမဏရဟန်းအစစ် ဗြာဟ္မဏရဟန်းအစစ်ဘဝသို့ ရောက်ရှိကြကာ သံသရာဝဋ်ဆင်းရဲ ဒုက္ခအားလုံးတို့၏ အဆုံးအပိုင်းအခြား ဖြစ်သည့် မဟာအသင်္ခတဓာတ် အငြိမ်းဓာတ် နိဗ္ဗာန် တရားတော်မြတ်ကြီး၏ အငြိမ်းဓာတ် အရသာထူးကြီးကို အရိယမဂ်ဉာဏ် အရိယဖိုလ်ဉာဏ်တို့ဖြင့် မျက်မှောက်ပြုကာ သုံးဆောင်ခံစားလျက် နေထိုင်နိုင်ကြပါစေဟူသော မွန်မြတ်သော ဦးတည်ချက်ကို ရှေ့သွားပြုလျက် . . . . .

**ဖားအောက်တောရဆရာတော်**

**၁၃၇၃–ခု၊ ကဆုန်လပြည့် ဗုဒ္ဓနေ့၊**

**၂၀၁၁–ခု၊ မေလ (၁၇) ရက်၊**



## ဘုရားရှင်၏ စစ်မှန်သည့် သဒ္ဓမ္မသုံးဖြာ သာသနာတော်ကြီး ထွန်းလင်းတောက်ပရေး

တစ်ချိန်တွင် . . အသျှင်မဟာကဿပ ကိုယ်တော်မြတ်ကြီးသည် ဘုရားရှင်ထံတော်သို့ ချဉ်းကပ်တော်မူကာ "အရဟတ္တဖိုလ် နိဗ္ဗာန်သို့ ရောက်ရှိတော်မူကြသည့် ရဟန္တာအရှင်မြတ်တို့၏ အရေအတွက် များပြားရခြင်း၏ အကြောင်းနှင့် နည်းပါးရခြင်း၏ အကြောင်းတို့ကို" ဘုရားရှင်အား မေးမြန်းလျှောက်ထားတော်မူခဲ့၏။ ယင်းမေးခွန်းတို့၏ အဖြေများကို လည်းကောင်း၊ **သဒ္ဓမ္မ**အမည်ရသည့် ဘုရားရှင်၏ တရားစစ် တရားမှန်တို့သည် **သဒ္ဓမ္မပ္ပဋိရူပက**အမည်ရသည့် တရားအတုအယောင်တို့ လွှမ်းမိုးလာသောအခါ ကွယ်ပျောက်သွားနိုင်ကြောင်းကိုလည်းကောင်း ဘုရားရှင်က **"သဒ္ဓမ္မပ္ပဋိရူပက သုတ္တန်"**တွင် ဤသို့ ဖြေကြားထားတော်မူခဲ့၏။ ယင်းသဒ္ဓမ္မပ္ပဋိရူပကသုတ္တန်ကို ရှေးဦးစွာ ဖော်ပြအပ်ပါသည်။

### သဒ္ဓမ္မပ္ပဋိရူပကသုတ္တန်

တပည့်တော် အာနန္ဒာသည် ဘုရားရှင်၏ ထံတော်မှောက်မှ သဒ္ဓမ္မပ္ပဋိရူပကသုတ္တန် တရားဒေသနာတော်ကို ဤသို့လျှင် နာခံမှတ်သားဆောင်ထားလိုက်ရပါသည် အရှင်ဘုရား . .။

အခါတစ်ပါး၌ မြတ်စွာဘုရားသည် သာဝတ္ထိပြည်မွန် အနာထပိဏ်ကျောင်းဒါယကာ၏ အရံဖြစ်သော ဇေတဝန်ကျောင်းတိုက်တော်၌ သီတင်းသုံးစံနေတော်မူ၏၊ ထိုအခါ . . အသျှင်မဟာကဿပ မထေရ်မြတ်သည် ဘုရားရှင်၏ ထံတော်မှောက်သို့ ချဉ်းကပ်၍ မြတ်စွာဘုရားကို အလွန် ရိုသေစွာ ရှိခိုးလျက် တစ်ခုသောနေရာ၌ ထိုင်ပြီးသော် . . ဘုရားရှင်အား ဤစကားကို လျှောက်ထားတော်မူခဲ့၏ . .။

"မြတ်စွာဘုရား . . . ရှေးက သိက္ခာပုဒ်တို့သည် အလွန်နည်းလှသည်သာလျှင် ဖြစ်ကုန်၏၊ များစွာကုန်သော ရဟန်းတော်တို့သည်လည်း အရဟတ္တဖိုလ်၌ တည်တော်မူကြကုန်၏၊ ထိုကဲ့သို့ ဖြစ်ရခြင်း၏ တိုက်ရိုက်ဖြစ်ပေါ်စေတတ်သော အကြောင်းတရားကား အဘယ်ပါနည်း၊ အားပေးထောက်ပံ့တတ်သော အကြောင်းတရားကား အဘယ်ပါနည်း မြတ်စွာဘုရား၊

မြတ်စွာဘုရား . . . ယခုအခါ၌ သိက္ခာပုဒ်တို့သည်လည်း အလွန်များပြားကြသည်သာလျှင် ဖြစ်ကုန်၏၊ အလွန်နည်းပါးသည်သာလျှင် ဖြစ်ကုန်သော ရဟန်းတော်တို့သည်လည်း အရဟတ္တဖိုလ်၌ တည်တော်မူကြကုန်၏၊ ထိုကဲ့သို့ ဖြစ်ရခြင်း၏ တိုက်ရိုက်ဖြစ်ပေါ်စေတတ်သော အကြောင်းတရားကား အဘယ်ပါနည်း၊ အားပေးထောက်ပံ့တတ်သော အကြောင်းတရားကား အဘယ်ပါနည်း မြတ်စွာဘုရား . . "ဟု လျှောက်ထားတော်မူ၏။

ချစ်သား ကဿပ . . . ထိုအရာသည် ဤသို့ပင် ဖြစ်ပေ၏၊ သတ္တဝါတို့သည် ဆုတ်ယုတ်ကုန်သည်ရှိသော် သူတော်ကောင်းတရားသည် ကွယ်ပသည်ရှိသော် သိက္ခာပုဒ်တို့သည်လည်း အလွန်များပြားကြသည်သာလျှင် ဖြစ်ကုန်၏၊ အလွန်နည်းပါးသည်သာလျှင် ဖြစ်ကုန်သော ရဟန်းတို့သည်လည်း အရဟတ္တဖိုလ်၌ တည်ကြကုန်၏။

ချစ်သား ကဿပ . . . အကြင်မျှလောက်သော ကာလပတ်လုံး လောက၌ သူတော်ကောင်းတရား အတုအယောင်

သည် မဖြစ်ပေါ်လာသေး၊ ထိုမျှလောက်သော ကာလပတ်လုံး မှန်ကန်သော သူတော်ကောင်းတရားသည် မကွယ်ပသေးသည်သာလျှင် ဖြစ်၏။ ချစ်သား ကဿပ . . . အကြင်အခါ၌ကား လောက၌ သူတော်ကောင်းတရားအတုအယောင်သည် ဖြစ်ပေါ်၏၊ ထိုအခါ၌ မှန်ကန်သော သူတော်ကောင်းတရား၏ ကွယ်ပခြင်းသည်လည်း ထင်ရှားဖြစ်ပေါ်လာပေ၏။

ချစ်သား ကဿပ . . . ဥပမာသော်ကား အကြင်မျှလောက်သော ကာလပတ်လုံး လောက၌ ရွှေအတုသည် မဖြစ်ပေါ်လာသေး၊ ထိုမျှလောက်သော ကာလပတ်လုံး ရွှေအစစ်သည် မကွယ်ပသေးသည်သာလျှင် ဖြစ်၏။ ချစ်သား ကဿပ . . . အကြင်အခါ လောက၌ ရွှေအတုသည် ထင်ရှားဖြစ်ပေါ်လာ၏၊ ထိုအခါ၌ ရွှေအစစ်၏ ကွယ်ပခြင်းသည်လည်း ဖြစ်ပေါ်လာပေ၏။ ချစ်သား ကဿပ . . . ဤအတူသာလျှင် အကြင်မျှလောက်ကာလပတ်လုံး လောက၌ သူတော်ကောင်းတရား အတုအယောင်သည် မဖြစ်ပေါ်လာသေး၊ ထိုမျှလောက်ကာလပတ်လုံး . . မှန်ကန်သော သူတော်ကောင်းတရားသည် မကွယ်ပသေးသည်သာလျှင် ဖြစ်၏။ ချစ်သား ကဿပ . . . အကြင်အခါ လောက၌ သူတော်ကောင်းတရား အတုအယောင်သည် ထင်ရှားဖြစ်ပေါ်လာ၏၊ ထိုအခါ၌ မှန်ကန်သော သူတော်ကောင်းတရား၏ ကွယ်ပခြင်းသည်လည်း ထင်ရှားဖြစ်ပေါ်လာပေ၏။

ချစ်သား ကဿပ . . . ပထဝီဓာတ်သည် မှန်ကန်သော သူတော်ကောင်းတရားကို မကွယ်ပျောက်စေနိုင်၊ အာပေါဓာတ်သည် မှန်ကန်သော သူတော်ကောင်းတရားကို မကွယ်ပျောက်စေနိုင်၊ တေဇောဓာတ်သည် မှန်ကန်သော သူတော်ကောင်းတရားကို မကွယ်ပျောက်စေနိုင်၊ ဝါယောဓာတ်သည် မှန်ကန်သော သူတော်ကောင်းတရားကို မကွယ်ပျောက်စေနိုင်။ စင်စစ်သော်ကား အကြင်ယောကျာ်းတို့သည် ဤသူတော်ကောင်းတရားကို ကွယ်ပျောက်စေကုန်၏၊ မဂ်ဖိုလ်နိဗ္ဗာန်မှ အချည်းနှီးဖြစ်ကြကုန်သော ထိုယောကျာ်းတို့သည် ဤသာသနာတော်၌သာ ထင်ရှားဖြစ်ပေါ်လာကြကုန်၏၊ "လှေသည် ဝန်ကို ယူဆောင်ခြင်းဖြင့်သာလျှင် နစ်မြုပ်ရသကဲ့သို့" ချစ်သား ကဿပ . . . မှန်ကန်သော သူတော်ကောင်းတရား၏ ကွယ်ပျောက်ခြင်းသည်ကား မဖြစ်နိုင်ပေ။

ချစ်သား ကဿပ . . . အောက်အဖို့သို့ သက်ရောက်စေတတ်ကုန်သော ဤတရားငါးမျိုးတို့သည် သူတော်ကောင်းတရား မေ့မှိန်ခြင်းငှာ ကွယ်ပျောက်ခြင်းငှာ ဖြစ်ကုန်၏။ အဘယ်ငါးမျိုးတို့နည်းဟူမူ — ချစ်သား ကဿပ . . . ဤသာသနာတော်၌ ရဟန်းယောကျာ်း ရဟန်းမိန်းမ ဥပါသကာယောကျာ်း ဥပါသိကာမိန်းမတို့သည် . .

၁။ မြတ်စွာဘုရား၌ မရိုသေ, မတုပ်ဝပ်ကုန်သည်ဖြစ်၍ နေကုန်၏၊
၂။ တရားတော်၌ မရိုသေ, မတုပ်ဝပ်ကုန်သည်ဖြစ်၍ နေကုန်၏၊
၃။ သံဃာတော်၌ မရိုသေ, မတုပ်ဝပ်ကုန်သည်ဖြစ်၍ နေကုန်၏၊
၄။ သီလကျင့်စဉ် သမာဓိကျင့်စဉ် ဝိပဿနာပညာကျင့်စဉ်ဟူသည့် သိက္ခာသုံးရပ် အကျင့်မြတ်၌ မရိုသေ, မတုပ်ဝပ်ကုန်သည်ဖြစ်၍ နေကုန်၏၊
၅။ ဈာန်သမာပတ် ရှစ်ပါးတည်းဟူသော သမာဓိတရားတော်၌ မရိုသေ, မတုပ်ဝပ်ကုန်သည်ဖြစ်၍ နေကုန်၏၊

ချစ်သား ကဿပ . . . အောက်အဖို့သို့ သက်ရောက်စေတတ်ကုန်သော ဤတရားငါးမျိုးတို့သည် သူတော်ကောင်းတရား မေ့မှိန်ခြင်းငှာ ကွယ်ပျောက်ခြင်းငှာ ဖြစ်ကုန်၏။

ချစ်သား ကဿပ . . . ဤတရား ငါးမျိုးတို့သည် မှန်ကန်သော သူတော်ကောင်းတရား၏ တည်တံ့ခြင်းငှာ မမေ့မှိန်ခြင်းငှာ မကွယ်ပျောက်ခြင်းငှာ ဖြစ်ကုန်၏။ အဘယ်ငါးမျိုးတို့နည်းဟူမူ — ချစ်သား ကဿပ . . . ဤသာသနာတော်၌ ရဟန်းယောကျာ်း ရဟန်းမိန်းမ ဥပါသကာယောကျာ်း ဥပါသိကာမိန်းမတို့သည် . .

၁။ မြတ်စွာဘုရား၌ ရိုသေတုပ်ဝပ်ကုန်သည်ဖြစ်၍ နေကုန်၏၊
၂။ တရားတော်၌ ရိုသေတုပ်ဝပ်ကုန်သည်ဖြစ်၍ နေကုန်၏၊
၃။ သံဃာတော်၌ ရိုသေတုပ်ဝပ်ကုန်သည်ဖြစ်၍ နေကုန်၏၊
၄။ သီလကျင့်စဉ် သမာဓိကျင့်စဉ် ဝိပဿနာပညာကျင့်စဉ်ဟူသည့် သိက္ခာသုံးရပ် အကျင့်မြတ်၌ ရိုသေတုပ်ဝပ်ကုန်သည်ဖြစ်၍ နေကုန်၏ (= အရိုအသေ ဖြည့်ကျင့်လျက် နေထိုင်ကုန်၏)၊
၅။ ဈာန်သမာပတ် ရှစ်ပါးတည်းဟူသော သမာဓိတရားတော်၌ ရိုသေတုပ်ဝပ်ကုန်သည်ဖြစ်၍ နေကုန်၏ (= အရိုအသေ ဖြည့်ကျင့်လျက် နေထိုင်ကုန်၏)၊

ချစ်သား ကဿပ . . . ဤတရား ငါးမျိုးတို့သည် မှန်ကန်သော သူတော်ကောင်းတရား၏ တည်တံ့ခြင်းငှာ မမေ့မိုန်ခြင်းငှာ မကွယ်ပျောက်ခြင်းငှာ ဖြစ်ကုန်၏ဟု ဟောကြားတော်မူ၏။[၁၀]

ဤအရာတွင် သဒ္ဓမ္မ သုံးဖြာ သာသနာတော်နှင့် သဒ္ဓမ္မပ္ပဋိရူပက = သူတော်ကောင်းတရားအတုအယောင် သုံးမျိုးတို့ကို ယင်းသုတ္တန်အဋ္ဌကထာ[၁၁]က ရှင်းလင်းဖွင့်ဆိုထားပါသည်။

၁။ အဓိဂမသဒ္ဓမ္မ = အရိယမဂ်ဉာဏ် (၄)ပါး, အရိယဖိုလ်ဉာဏ် (၄)ပါး, ပဋိသမ္ဘိဒါဉာဏ် (၄)ပါး, အဘိညာဏ် (၆)ပါး, ဈာန်သမာပတ် (၈)ပါး၊

၂။ ပဋိပတ္တိသဒ္ဓမ္မ = အရိယမဂ်ဉာဏ် ဖိုလ်ဉာဏ် ပဋိသမ္ဘိဒါဉာဏ် အစရှိသည့် အဓိဂမသဒ္ဓမ္မတရားတော်ကို ရရှိရေးအတွက် ကျင့်ရမည့် သီလကျင့်စဉ် သမာဓိကျင့်စဉ် ဝိပဿနာပညာကျင့်စဉ်ဟူသည့် သိက္ခာသုံးရပ် အကျင့်မြတ်၊

၃။ ပရိယတ္တိသဒ္ဓမ္မ = ယင်းသိက္ခာသုံးရပ် အကျင့်မြတ်ကို မှန်မှန်ကန်ကန် တိတိကျကျ ဖော်ပြထားသည့် ဘုရားရှင်၏ ပရိယတ်တရားတော် —

ဤသို့လျှင် သဒ္ဓမ္မ သုံးဖြာ လာရှိပေသည်။ ယင်းသဒ္ဓမ္မ သုံးဖြာကို ကွယ်ပျောက်စေတတ်သည့် သဒ္ဓမ္မပ္ပဋိရူပက = သူတော်ကောင်းတရားအတုအယောင် သုံးမျိုးလည်း လာရှိပေသည်။

၁။ အဓိဂမသဒ္ဓမ္မပ္ပဋိရူပက = မဂ်ဉာဏ်အတု ဖိုလ်ဉာဏ်အတု စသည့် အတုအယောင်များ = ဩဘာသ စသည့် ဥပက္ကိလေသတရား (၁၀)ပါးကို အရိယမဂ်ဉာဏ် ဖိုလ်ဉာဏ် အစစ်အဖြစ် အယူအဆ မှားယွင်းမှု၊ (ဥပက္ကိလေသ တရား (၁၀)ပါးအကြောင်းကို ဝိပဿနာပိုင်း[၁၂]တွင် ကြည့်ပါ။)

၂။ ပဋိပတ္တိသဒ္ဓမ္မပ္ပဋိရူပက = ဘုရားရှင်၏ တရားတော်နှင့် ထိပ်တိုက်ဆန့်ကျင်ဘက် ဖြစ်သည့် မမှန်ကန်သည့် သီလကျင့်စဉ်, မမှန်ကန်သည့် သမာဓိကျင့်စဉ်, မမှန်ကန်သည့် ဝိပဿနာပညာကျင့်စဉ်၊

၃။ ပရိယတ္တိသဒ္ဓမ္မပ္ပဋိရူပက = မမှန်ကန်သည့် သီလကျင့်စဉ်, မမှန်ကန်သည့်သမာဓိကျင့်စဉ်, မမှန်ကန်သည့် ဝိပဿနာ ပညာကျင့်စဉ်တို့ကို ညွှန်ကြားပြသနေသည့်၊ ဘုရားရှင်၏ မှန်ကန်သည့် ပရိယတ်တရားတော်နှင့် ထိပ်တိုက် ဆန့်ကျင်ဘက်ဖြစ်နေသည့် အတုအယောင် သီလကျင့်စဉ်, အတုအယောင် သမာဓိကျင့်စဉ်, အတုအယောင် ဝိပဿနာပညာကျင့်စဉ်တရားများ —

ဤသို့လျှင် မှန်ကန်သည့် သဒ္ဓမ္မကျင့်စဉ် သုံးမျိုးရှိသကဲ့သို့ မမှန်ကန်သည့် သူတော်ကောင်းတရားအတုအယောင် သဒ္ဓမ္မပ္ပဋိရူပက ကျင့်စဉ်သုံးရပ်လည်း ရှိနေပေသည်။ အတုအယောင် သဒ္ဓမ္မပ္ပဋိရူပက ကျင့်စဉ်များ လွှမ်းမိုးဖိစီးလာသော အခါ မှန်ကန်သည့် သဒ္ဓမ္မ သုံးဖြာ သာသနာတော်ကြီးသည်လည်း တဖြည်းဖြည်း ကွယ်ပျောက်သွားနိုင်မည် ဖြစ်ပေသည်။

သစ္စသံယုတ်ပါဠိတော် သီသပါဝနသုတ္တန်[၁၃]တွင် ဘုရားရှင် ဟောကြားထားတော်မူသည့်အတိုင်း ဘုရားရှင်၏ တရားတော်များကို အကျဉ်းချုပ်လိုက်ပါက အရိယသစ္စာလေးရပ် တရားမြတ်တို့သာ ဖြစ်ကြသည်။ ယင်းအရိယသစ္စာ လေးရပ် တရားမြတ်တို့ကို သမ္မာဒိဋ္ဌိ ဉာဏ်ပညာဖြင့် ကိုယ်တိုင်မျက်မှောက် ထွင်းဖောက်သိမြင်နိုင်ရေးအတွက် ညွှန်ကြား ပြသနေသည့် ပရိယတ်တရားတော်တို့ကား မှန်ကန်သည့် ပရိယတ္တိသဒ္ဓမ္မတရားတော်များသာ ဖြစ်ကြသည်။ ယင်းပရိယတ္တိ သဒ္ဓမ္မတရားတော်က ညွှန်ကြားပြသထားသည့်အတိုင်း မှန်မှန်ကန်ကန် တိတိကျကျ လိုက်နာကျင့်သုံးနေသည့် သီလ ကျင့်စဉ် သမာဓိကျင့်စဉ် ဝိပဿနာပညာကျင့်စဉ်တို့ကား မှန်ကန်သည့် ပဋိပတ္တိသဒ္ဓမ္မတရားတော်များပင် ဖြစ်ကြသည်။ ယင်းကဲ့သို့ မှန်ကန်သည့် ပဋိပတ္တိသဒ္ဓမ္မတရားတော်ကို တကယ်လက်တွေ့ ဖြူဖြူစင်စင် ဖြည့်ကျင့်ခြင်းကြောင့် ဖြစ်ပေါ် လာရသော အရိယမဂ်ဉာဏ် ဖိုလ်ဉာဏ် အစရှိသည့် အဓိဂမတရားတော်တို့သည်ကား မှန်ကန်သည့် အဓိဂမသဒ္ဓမ္မ တရားတော်များပင် ဖြစ်ကြပေသည်။

ဘုရားရှင် ညွှန်ကြားပြသထားတော်မူသည့် ဒုက္ခအရိယသစ္စာ အမည်ရသည့် ဥပါဒါနက္ခန္ဓာငါးပါး = ရုပ်ပရမတ် တရား+နာမ်ပရမတ်တရားတို့ကို ဘုရားရှင်၏ တပည့်သာဝကတစ်ဦးသည် ရှု၍ မရနိုင်ဟု ညွှန်ကြားပြသနေသော ညွှန်ကြားချက်တို့ကား ပရိယတ်အတုအယောင် ပရိယတ္တိသဒ္ဓမ္မပ္ပဋိရူပကတရားတို့ပင် ဖြစ်ကြသည်။ တစ်ဖန် အင်္ဂုတ္တိုရ် တိကနိပါတ် တိတ္ထာယတနသုတ္တန်[၁၄]တွင် ဘုရားရှင် ဟောကြားထားတော်မူသည့်အတိုင်း ကြောင်း-ကျိုး-ဆက်နွယ်မှု

---

[၁၀] (သံ၊၁၊၄၂၂-၄၂၃။) [၁၁] (သံ၊ဋ္ဌ၊၂၊၁၈၆-၁၈၉။) [၁၂] (စာမျက်နှာ၊ ၇၉၈။)[၁၂၅] [၁၃] (သံ၊၃၊၃၈၃၊ စာပိုဒ်၊၁၁၀၁။)

ပဋိစ္စသမုပ္ပါဒ်သဘောတရားတို့၏ ဖြစ်စဉ်သည်ကား သမုဒယအရိယသစ္စာတရားပင် ဖြစ်သည်။ ယင်းကြောင်း-ကျိုး-ဆက်နွယ်မှု ပဋိစ္စသမုပ္ပါဒ်သဘောတရားတို့၏ ဖြစ်စဉ်အကျဉ်းချုပ်မှာ . . . "အတိတ်အကြောင်းတရားငါးပါး ထင်ရှားဖြစ်ခြင်းကြောင့် ပစ္စုပ္ပန်အကျိုးတရားငါးပါး ထင်ရှားဖြစ်ပုံ၊ ပစ္စုပ္ပန်အကြောင်းတရားငါးပါး ထင်ရှားဖြစ်ခြင်းကြောင့် အနာဂတ်အကျိုးတရားငါးပါး ထင်ရှားဖြစ်ပုံ"— တို့ပင်တည်း။[၁၄] ယင်းဖြစ်စဉ်ကား ယောဂါဝစရပုဂ္ဂိုလ်တစ်ဦးအနေဖြင့် သမ္မာဒိဋ္ဌိ ဉာဏ်ပညာဖြင့် ကိုယ်တိုင်မျက်မှောက် ထွင်းဖောက်သိမြင်အောင် ရှုပွားသုံးသပ်ရမည့် လုပ်ငန်းခွင်ပင် ဖြစ်ပေသည်၊ ဆရာ့အပြောနှင့် ပါးစပ်ဟကာ အလွမ်းကြီးလွမ်းရမည့် လုပ်ငန်းခွင်မျိုးလည်းမဟုတ်ပေ။ အကယ်၍ အတိတ်သည် ဖြစ်ပြီးပြီ မရှိတော့ပြီဖြစ်၏၊ အနာဂတ်သည်လည်း မဖြစ်ပေါ်လာသေး မရောက်ရှိလာသေး၊ သို့အတွက် အတိတ်-အနာဂတ်ကို ဝိပဿနာဉာဏ်ဖြင့် ရှု၍ မရနိုင်ဟု ညွှန်ကြားနေကြသည်ဖြစ်အံ့၊ ယင်းညွှန်ကြားချက်တို့မှာ ပရိယတ်အတုအယောင် ပရိယတ္တိသဒ္ဓမ္မပ္ပဋိရူပကတရားတို့ပင် ဖြစ်ကြသည်။

တစ်ဖန် ယင်းတိတ္ထာယတနသုတ္တန်[၄၂]တွင်ပင် ယင်းကြောင်း-ကျိုး-ဆက်နွယ်မှု ပဋိစ္စသမုပ္ပါဒ်သဘောတရားတို့၏ ချုပ်စဉ်ကိုလည်း နိရောဓအရိယသစ္စာတရားဟု ဘုရားရှင်က ဟောကြားထားတော်မူခဲ့၏။ ဝိသုဒ္ဓိမဂ္ဂမဟာဋီကာ[၄၃] ဆရာတော်ကလည်း နောက်အနာဂတ်တစ်ချိန်တွင် ဖြစ်ပေါ်လာမည့် အရဟတ္တမဂ်၏ စွမ်းအားကြောင့် အဝိဇ္ဇာ တဏှာ ဥပါဒါန် သင်္ခါရ ကံတည်းဟူသော အကြောင်းသမုဒယအရိယသစ္စာတရားတို့၏ နောင်တစ်ဖန်မဖြစ်သော ချုပ်ခြင်းဟု ခေါ်ဆိုအပ်သော အနုပ္ပါဒနိရောဓသဘောအားဖြင့် အကြွင်းအကျန်မရှိ ကုန်စင်အောင် ချုပ်ငြိမ်းခြင်းကြောင့် ပရိနိဗ္ဗာန စုတိအခိုက်တွင် အကျိုး ဥပါဒါနက္ခန္ဓာငါးပါး ဒုက္ခအရိယသစ္စာတရားတို့၏ နောင်တစ်ဖန်မဖြစ်သော ချုပ်ခြင်းဟု ခေါ်ဆိုအပ်သော အနုပ္ပါဒနိရောဓသဘောအားဖြင့် အကြွင်းအကျန်မရှိ ကုန်စင်အောင် ချုပ်ငြိမ်းမှုကို ဆိုလိုပါကြောင်းကိုလည်း ရှင်းပြထားတော်မူ၏။ ဤနိရောဓအရိယသစ္စာတရားကို ယောဂါဝစရပုဂ္ဂိုလ်တစ်ဦးအနေဖြင့် ဥဒယဗ္ဗယဉာဏ်ကဲ့သို့သော ဝိပဿနာဉာဏ်ဖြင့်[၄၄] ထိုးထွင်းသိမြင်အောင် ရှုပွားရမည့် ကျင့်စဉ်ပင် ဖြစ်ပေသည်။ သို့သော် အကယ်၍ ကျင့်စဉ်တစ်ခုက အနာဂတ်သည်လည်း မဖြစ်ပေါ်လာသေး မရောက်ရှိလာသေးအတွက် အနာဂတ်ကို ဝိပဿနာဉာဏ်ဖြင့် ရှု၍ မရနိုင်ဟု ညွှန်ကြားနေသည်ဖြစ်အံ့၊ ယင်းညွှန်ကြားချက်မှာလည်း ပရိယတ်အတုအယောင် ပရိယတ္တိသဒ္ဓမ္မပ္ပဋိရူပကတရားပင် ဖြစ်ပေသည်။ ယင်းပရိယတ္တိသဒ္ဓမ္မပ္ပဋိရူပကတရားကို အမှီပြု၍ အလွဲလွဲ အချော်ချော် ကျင့်နေသည့် ကျင့်စဉ်မှာလည်း ပဋိပတ်အတုအယောင် ပဋိပတ္တိသဒ္ဓမ္မပ္ပဋိရူပကတရားပင် ဖြစ်ပေသည်။ ယင်း ပရိယတ္တိသဒ္ဓမ္မပ္ပဋိရူပက ပဋိပတ္တိသဒ္ဓမ္မပ္ပဋိရူပကတရားတို့ကို အမှီပြု၍ ဖြစ်ပေါ်လာသော အဓိဂမတရားမှာလည်း တကယ့်အဓိဂမ = အရိယမဂ်ဉာဏ် ဖိုလ်ဉာဏ် အစစ် မဖြစ်နိုင်သည့်အတွက် အဓိဂမအတုအယောင် အဓိဂမသဒ္ဓမ္မပ္ပဋိရူပကတရားပင် ဖြစ်ပေသည်။

ယင်း ပရိယတ္တိသဒ္ဓမ္မပ္ပဋိရူပက ပဋိပတ္တိသဒ္ဓမ္မပ္ပဋိရူပက အဓိဂမသဒ္ဓမ္မပ္ပဋိရူပကတရားတို့ ထွန်းလင်းတောက်ပလာပါက ဘုရားရှင် ဟောကြားပြသဆိုဆုံးမထားတော်မူခဲ့သည့် စစ်မှန်သည့် ပရိယတ္တိသဒ္ဓမ္မ ပဋိပတ္တိသဒ္ဓမ္မ အဓိဂမသဒ္ဓမ္မ တရားတို့ တဖြည်းဖြည်း ပျောက်ကွယ်သွားမည် ဖြစ်ပေသည်။ ထိုကဲ့သို့ မပျောက်ကွယ်နိုင်စေရန်, စစ်မှန်သည့် သဒ္ဓမ္မသုံးဖြာ သာသနာတော်ကြီး ထွန်းလင်းတောက်ပလာစေရန် ရည်သန်တောင့်တလျက် ကျမ်းစာအုပ်အဖြစ် ရိုက်နှိပ်လိုသူတို့၏ လျှောက်ထားတောင်းပန်ချက်အရ ဤကျမ်းစာကို ပုံနှိပ် လှူဒါန်းခြင်း ဖြစ်ပါသည်။

တရားစစ် တရားမှန်ကို . .
လိုလားတောင့်တလျက် ရှိကြကုန်သော သူတော်ကောင်း သူမြတ်လောင်း အပေါင်းတို့သည်လည်း . . .
မမှန်ကန်သည့် ပရိယတ္တိသဒ္ဓမ္မပ္ပဋိရူပက ပဋိပတ္တိသဒ္ဓမ္မပ္ပဋိရူပက အဓိဂမသဒ္ဓမ္မပ္ပဋိရူပကတရားတို့
မထွန်းလင်း မတောက်ပနိုင်အောင် . . ,
ဘုရားရှင်၏ စစ်မှန်သည့် ပရိယတ္တိသဒ္ဓမ္မ ပဋိပတ္တိသဒ္ဓမ္မ အဓိဂမသဒ္ဓမ္မတရားတို့
ထွန်းလင်း တောက်ပလာအောင် . .
ကျင့်ကြံကြိုးကုတ် ပွားများအားထုတ်နိုင်ကြပါစေသော် . . . . . . . . .။

**ဖားအောက်တောရဆရာတော်**

[၁၄] (စာမျက်နှာ၊ ၂၄-၂၇-တွင် ကြည့်ပါ။)

## အသာဆုံး အမြတ်ဆုံး တရား

ယာဝတာ ဘိက္ခဝေ ဓမ္မာ သင်္ခတာ ဝါ အသင်္ခတာ ဝါ ..

ဝိရာဂေါ တေသံ ဓမ္မာနံ အဂ္ဂမက္ခာယတိ၊ ယဒိဒံ ...

မဒနိမ္မဒနော ပိပါသဝိနယော အာလယသမုဂ္ဃါတော

ဝဋ္ဋုပစ္ဆေဒေါ တဏှာက္ခယော ဝိရာဂေါ နိရောဓော နိဗ္ဗာနံ။

ချစ်သား ရဟန်းတို့ . . .
အကြင်ရွေ့လောက်ကုန်သော
အကြောင်းတရားတို့သည် ပေါင်းစု၍ပြုပြင်အပ်သည်လည်း ဖြစ်ကုန်သော
သင်္ခတတရားတို့သည်လည်းကောင်း . . ,
အကြောင်းတရားတို့သည် ပေါင်းစု၍ မပြုပြင်အပ်သည်လည်း ဖြစ်ကုန်သော
အသင်္ခတတရားတို့သည်လည်းကောင်း . . ရှိကြကုန်၏။

ထို သင်္ခတ အသင်္ခတ တရားတို့တွင် . .
ရာဂနှင့် တကွသော သံကိလေသဓမ္မတို့၏ သင်္ခါရတရားတို့၏ ကင်းပြတ်ရာ ပျက်ပြယ်ရာဖြစ်သော
အသင်္ခတဓာတ် နိဗ္ဗာန်တရားတော်မြတ်ကို . . အမြတ်ဆုံးဟူ၍ ဆိုအပ်၏။

မာနအစရှိသော ယစ်စေတတ်သော တရားတို့၏ ယစ်စေတတ်သည့် သတ္တိကင်းရာ ဖြစ်သော နိဗ္ဗာန်,
ကာမတို့ကို မွတ်သိပ်ဆာလောင်သော တဏှာ၏ ကင်းပျောက်ရာဖြစ်သော နိဗ္ဗာန်,
ငြိတွယ်စရာ ကာမဂုဏ်ငါးပါးတို့ကို အကြွင်းမဲ့ ဖြတ်ရာဖြစ်သော နိဗ္ဗာန်,
ဝဋ်သုံးပါး၏ ပြတ်ရာဖြစ်သော နိဗ္ဗာန်,
တဏှာ၏ ကုန်ရာဖြစ်သော နိဗ္ဗာန်,
တဏှာ၏ ပျက်ပြယ်ရာ ကင်းရာဖြစ်သော နိဗ္ဗာန်,
တဏှာ၏ ချုပ်ရာဖြစ်သော နိဗ္ဗာန်,
ဝါနဟု ဆိုအပ်သော တဏှာမှ ထွက်မြောက်ရာဖြစ်သော နိဗ္ဗာန် . .
ဤနိဗ္ဗာန်တရားတော်မြတ်သည် အသင်္ခတ တရားတည်း၊
သင်္ခတ အသင်္ခတ တရားတို့တွင် ယင်းအသင်္ခတတရားသည် အသာဆုံး အမြတ်ဆုံး တရားတည်း။

(အံ၊၁၊၃၄၃။ ခု၊၁၊၂၅၄။)



နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

# နိဗ္ဗာန်သို့ သွားရာ တစ်ကြောင်းတည်းသောလမ်း

ဧကာယနော အယံ ဘိက္ခဝေ မဂ္ဂေါ သတ္တာနံ ဝိသုဒ္ဓိယာ သောကပရိဒေဝါနံ သမတိက္ကမာယ ဒုက္ခဒေါမနဿာနံ အတ္ထင်္ဂမာယ ဉာယဿ အဓိဂမာယ နိဗ္ဗာနဿ သစ္ဆိကိရိယာယ၊ ယဒိဒံ စတ္တာရော သတိပဋ္ဌာနာ။

"ရဟန်းတို့ . . . ဤခရီးလမ်းသည် . . သတ္တဝါတို့၏ စိတ်ဓာတ် သန့်ရှင်းစင်ကြယ်ရန်, စိုးရိမ်ပူပန်ခြင်း ငိုကြွေးခြင်းတို့ကို ကျော်လွှားလွန်မြောက်ရန်, ကိုယ်ဆင်းရဲခြင်း စိတ်ဆင်းရဲခြင်းတို့ ချုပ်ငြိမ်းရန်, အရိယမဂ်ကို ရရှိရန်, နိဗ္ဗာန်ကို မျက်မှောက်ပြုရန် တစ်ကြောင်းတည်းသော ခရီးလမ်း . . ဖြစ်ပေ၏၊ ယင်းသည့်ခရီးလမ်းသည်ကား ဤသတိပဋ္ဌာန်တရား လေးပါးတို့ပင်တည်း။"[၂]

ဘုရားရှင်သည် ဤမဟာသတိပဋ္ဌာနသုတ္တန်နိဒါန်းဝယ် နိဗ္ဗာန်သို့ သွားရာ တစ်ကြောင်းတည်းသောလမ်းမှာ သတိပဋ္ဌာန်တရား လေးပါးတည်းဟူသော ကျင့်စဉ်ပင် ဖြစ်ကြောင်းကို ကြေညာထားတော်မူခဲ့၏။ ဤကြေညာချက်အရ နိဗ္ဗာန်သို့သွားရာလမ်းမှာ တစ်ကြောင်းတည်းသော လမ်းသာ ရှိ၏၊ နှစ်လမ်း သုံးလမ်း စသည် မရှိ၊ ကျင့်စဉ်နည်းလမ်း အမျိုးမျိုး မရှိဟု သဘောပေါက်ပါ။ သို့သော် ထိုကဲ့သို့သော တစ်ကြောင်းတည်းသော လမ်းကို လျှောက်သွားရာ၌ မိမိလျှောက်သွားနေသော လမ်းသည် ဘုရားရှင် ညွှန်ကြားထားတော်မူသည့် မှန်ကန်တိကျသည့် သတိပဋ္ဌာန်လမ်းစဉ် ဖြစ်ဖို့ကား အထူးလိုအပ်လှပေသည်။ အကယ်၍ မိမိလျှောက်သွားနေသော လမ်းမှာ ဘုရားရှင် ညွှန်ကြားထားတော်မူသည့် မှန်ကန်တိကျသည့် သတိပဋ္ဌာန်လမ်းစဉ် မဟုတ်ခဲ့ပါမူကား မိမိမျှော်မှန်းထားသည့် နိဗ္ဗာန်ဟူသည့် ပန်းတိုင်သို့ ဆိုက်ရောက်နိုင်မည်ကား မဟုတ်ပေ။[၅] ဂဏကမောဂ္ဂလ္လာနသုတ္တန်တွင် လာရှိသော အောက်ပါ ဂဏကမောဂ္ဂလ္လာန် ပုဏ္ဏားကြီး၏ မေးမြန်းလျှောက်ထားချက်ကို ပြန်လည်ဖြေကြားထားတော်မူသည့် ဘုရားရှင်၏ မိန့်ကြားတော်မူချက်များကို ဆက်လက် ဖတ်ရှုကြည့်ပါ . . ။

[၅] **မှတ်ချက်** — ဤအရာတွင် အထူးသတိပြုရန် အချက်တစ်ရပ် ရှိနေသေး၏။ ဘုရားရှင်သည် ဓမ္မစက္ကပ္ပဝတ္တနသုတ္တန်စသည့် ထိုထိုသုတ္တန်တို့၌ မဂ္ဂင် (၈)ပါး ကျင့်စဉ်တရားတို့ကို ဒုက္ခချုပ်ရာ နိဗ္ဗာန်သို့ ရောက်ကြောင်း ကျင့်စဉ် 'ဒုက္ခနိရောဓဂါမိနီ ပဋိပဒါ အရိယသစ္စာ' အဖြစ် ဟောကြားထားတော်မူခဲ့၏။ သတိပဋ္ဌာန်လေးပါးကျင့်စဉ်နှင့် မဂ္ဂင် (၈)ပါး ကျင့်စဉ်တို့မှာ မတူကွဲပြားခြားနား-သော ကျင့်စဉ်တရားများ ဖြစ်ကြသည်ဟုကား အယူအဆ မမှားစေလိုပါ။ ယင်းကျင့်စဉ်နှစ်မျိုးတို့၏ ဟောကြားထားတော်မူသည့် ဦးတည်ချက် အနက်အဓိပ္ပါယ်မှာ တူညီလျက်ပင် ရှိနေပေသည်။ သတိပဋ္ဌာန်တရား (၄)ပါးတို့ကို ပွားများအားထုတ်နေခြင်းသည် မဂ္ဂင် (၈)ပါး ကျင့်စဉ်တရားတို့ကို ပွားများနေခြင်းပင် ဖြစ်၏၊ မဂ္ဂင် (၈)ပါး ကျင့်စဉ်တရားတို့ကို ပွားများအားထုတ်နေခြင်းသည်လည်း သတိပဋ္ဌာန်တရား (၄)ပါးတို့ကို ပွားများအားထုတ်နေခြင်းပင် ဖြစ်ပေသည်။ စာမျက်နှာ (၁၄၄) တွင် ကြည့်ပါ။

## ဂဏကမောဂ္ဂလ္လာန်ပုဏ္ဏားကြီး၏ မေးမြန်းလျှောက်ထားချက်

တစ်ချိန် . . ဘုရားရှင်သည် သာဝတ္ထိပြည် ပုဗ္ဗာရုံကျောင်းတိုက်တွင် သီတင်းသုံး စံနေတော်မူခိုက် . . ဂဏကမောဂ္ဂလ္လာန်ပုဏ္ဏားကြီးသည် ဘုရားရှင်ထံသို့ ချဉ်းကပ်ကာ သူသိလိုသည့် မေးခွန်းများကို မေးမြန်းလျှောက်ထား-ခဲ့၏၊ ထိုမေးခွန်းများ၏ ဆိုလိုရင်းမှာ ဤသို့ ဖြစ်၏ . .။

အရှင်ဂေါတမ၏ သာသနာတော်၌ အစဉ်အတိုင်း လိုက်နာပြုကျင့်အပ်သည့် ကျင့်စဉ်အရပ်ရပ် ထင်ရှား တည်ရှိပါသလားဟု မေးမြန်းလျှောက်ထားလိုက်၏။ ထိုအခါ ဘုရားရှင်က အစဉ်အတိုင်း လိုက်နာပြုကျင့်အပ်သည့် ကျင့်စဉ်အရပ်ရပ်ကို အကျဉ်းချုပ်ကာ . .

၁။ ရဟန်းတော်တို့ လိုက်နာပြုကျင့်အပ်သည့် ပါတိမောက္ခသံဝရသီလတည်းဟူသော ဝိနည်းသီလကျင့်စဉ်၊

၂။ မျက်စိ နား နှာ လျှာ ကိုယ် နှလုံးတည်းဟူသော ဒွါရ (၆)ပါး တံခါးကြီး (၆)ပေါက်မှ ရာဂ ဒေါသ မောဟ စသည့် ကိလေသာ အညစ်အကြေးတို့ ဝင်ရောက်မလာနိုင်အောင် မိမိ၏ ကမ္မဋ္ဌာန်းအာရုံ၌ ဘာဝနာစိတ်ကို အမြဲသွတ်သွင်းထားလျက် ဣန္ဒြေတို့ကို ထိန်းသိမ်းစောင့်ရှောက်ထားခြင်းတည်းဟူသော ဣန္ဒြိယသံဝရသီလ ကျင့်စဉ်၊

၃။ အစာအာဟာရ၌ အတိုင်းအရှည်ကို သိခြင်း၊ ပစ္စဝေက္ခဏာဆင်ခြင်လျက် အစာအာဟာရကို သုံးဆောင်မှီဝဲခြင်း တည်းဟူသော ပစ္စယသန္နိဿိတသီလကျင့်စဉ်၊

၄။ ညဥ့်သုံးယာမ် တစ်ယာမ်သာ အိပ်စက်လျက် ကြွင်းကျန်သော အချိန်ကာလတို့၌ ကမ္မဋ္ဌာန်းတရားကိုသာ အပြင်းအထန် ကြိုးစားအားထုတ်ခြင်း ဇာဂရိယာနုယောဂကျင့်စဉ်၊

၅။ သတိ၏ တည်ရာ အာရုံဖြစ်ကြကုန်သော သမထကမ္မဋ္ဌာန်းအာရုံနှင့် ဝိပဿနာကမ္မဋ္ဌာန်းအာရုံတို့အပေါ်၌ ခိုင်မြဲသောသတိနှင့် ပိုင်းပိုင်းခြားခြား ကွဲကွဲပြားပြား သိတတ်သော သမ္ပဇဉ်ဉာဏ်တို့နှင့် ပြည့်စုံအောင် ဖြည့်ကျင့် ရမည့် သတိ-သမ္ပဇဉ်ပိုင်းကျင့်စဉ်၊

၆။ ဆိတ်ငြိမ်ရာ တောကျောင်း တောင်ကျောင်းသို့ ချဉ်းကပ်ကာ ရှေးဦးစွာ သမထကမ္မဋ္ဌာန်းကို အောင်အောင် မြင်မြင် ဖြည့်ကျင့်ရမည့် ကျင့်စဉ်၊ ထိုသို့ကျင့်ရာ၌ —

၇။ (က) သက်ရှိသက်မဲ့ ကာမဝတ္ထုအစုစုတို့အပေါ်၌ လိုလားတပ်မက်ခြင်း ကာမစ္ဆန္ဒနီဝရဏ၊

(ခ) သက်ရှိသက်မဲ့ ကာမဝတ္ထုအစုစုတို့ကို ပျက်စီးအောင် ဖျက်ဆီးလိုခြင်း ဗျာပါဒနီဝရဏ၊

(ဂ) ကမ္မဋ္ဌာန်းအာရုံပေါ်၌ စိတ်စေတသိက်တို့၏ တက်တက်ကြွကြွ မရှိဘဲ လေးလံ ထိုင်းမှိုင်းနေခြင်း ထိနမိဒ္ဓ နီဝရဏ၊

(ဃ) ကမ္မဋ္ဌာန်းအာရုံပေါ်၌ စိတ်စေတသိက်တို့ကို စုစည်းလို့ မရနိုင်ဘဲ ပြင်ပအာရုံ အမျိုးမျိုးပေါ်သို့ စိတ်ပျံ့လွင့်နေခြင်း ဥဒ္ဓစ္စနှင့် ပြုပြီးဒုစရိုက် မပြုလိုက်မိသောသုစရိုက်တို့ကို အာရုံပြုကာ နောင်တတစ်ဖန် ပူပန်နေခြင်း ကုက္ကုစ္စတည်းဟူသော နီဝရဏ (ဥဒ္ဓစ္စ + ကုက္ကုစ္စ နီဝရဏ)၊

(င) ရတနာသုံးတန် ကံ-ကံ၏အကျိုးတရားစသည်တို့အပေါ်၌ သို့လော သို့လော တွေးတောယုံမှားနေခြင်း ဝိစိကိစ္ဆာနီဝရဏ —

သမထစျာန်နှင့် ဝိပဿနာဉာဏ်တို့ကို ဖြစ်ပေါ်မလာအောင် တားမြစ်နှောင့်ယှက် ပိတ်ပင်နေသည့် ဤနီဝရဏ တရား (၅)ပါးတို့ကို နှိပ်ကွပ်ဖျက်ဆီးကြောင်းဖြစ်သည့် ပထမစျာန် ဒုတိယစျာန် တတိယစျာန် စတုတ္ထစျာန်သို့ ဆိုက်အောင် အားထုတ်ရမည့် ကျင့်စဉ်၊

၈။ ထိုစတုတ္ထစျာန်သမာဓိကို ဝိပဿနာဉာဏ်၏ အခြေခံသမာဓိအဖြစ် ထူထောင်ကာ အရဟတ္တဖိုလ်ပေါက် အဆင့်ဆင့် လိုက်နာပြုကျင့်ရမည့် ဝိပဿနာကျင့်စဉ် —

## တေဇောကသိုဏ်း = မီးကသိုဏ်း

ရှေးရှေးဘဝထိုထိုက ပြုအပ် ဆည်းပူးအပ်ခဲ့ဖူးသော တေဇောကသိုဏ်း ဘာဝနာလုပ်ငန်း၌ ဘာဝနာကုသိုလ် ပုညသမ္ဘာရ ရှိခဲ့ဖူးသော ပုဂ္ဂိုလ်အား ကသိုဏ်းဝန်းအဖြစ် မပြုပြင်အပ်သေးသော မီး၌ တေဇောကသိုဏ်းနိမိတ်ကို ယူခဲ့သော် ရရှိနိုင်သည်သာ ဖြစ်၏။

၁။ ဆီမီးတောက် ဆီမီးလျှံ၌လည်းကောင်း,

၂။ ချက်ပြုတ်ရာ မီးဖို၌လည်းကောင်း,

၃။ သပိတ်ဖုတ်ရာဌာန၌ တည်ရှိသော မီးပုံ၌လည်းကောင်း,

၄။ တောမီးလောင်ရာ မီးတောက်မီးလျှံ၌လည်းကောင်း —

အမှတ်မရှိ တစ်ခုခုသော မီးတောက်လောင်ရာအရပ်၌ မီးလျှံကို ကြည့်ရှုစဉ် ဥဂ္ဂဟနိမိတ် ပဋိဘာဂနိမိတ် ဖြစ်ပေါ်လာနိုင်၏။

အတိတ်ဘဝထိုထိုက တေဇောကသိုဏ်းကို စီးဖြန်းမှု ပါရမီ ပုညသမ္ဘာရ မရှိသော ယောဂါဝစရပုဂ္ဂိုလ်သည်ကား တေဇောကသိုဏ်းဝန်းကို ပြုလုပ်ထိုက်၏။ ပြုလုပ်ပုံ အစီအရင်ကား — အနှစ်အဆီရှိ၍ ခြောက်သွေ့နေသော ထင်းခွဲခြမ်း-တို့ကို သင့်တော်ရာ တစ်နေရာ၌ သပိတ်ဖုတ်သည့် ပုံစံအနေအထားအားဖြင့် အစုအပုံလိုက် မီးတောက်မီးလျှံ ထွက်ပေါ်လာသည့်တိုင်အောင် မီးရှို့ပါ။

သင်ဖြူးဖျာ, သားရေပိုင်း, ပုဆိုးကြမ်း, သစ်သားပျဉ်ချပ်စသည့် တစ်ခုခုတွင် အချင်းတစ်ထွာခန့်လောက် အတိုင်းအရှည် ပမာဏရှိသော ဝန်းဝိုင်းသော အပေါက်ကို ဖောက်၍ ထိုအပေါက်ဖောက်ထားသော အရာဝတ္ထုကို မိမိ၏ ရှေ့၌ ထား၍ ထိုင်ပြီးလျှင် —

၁။ မီးပုံအောက်၌ လောင်နေသော မြက်ထင်းကိုလည်းကောင်း,

၂။ အထက်သို့ တက်နေသော မီးခိုးညွန့်ကိုလည်းကောင်း —

နှလုံးမသွင်းမူ၍ အလယ်၌ မခဲ့မူ၍ တစ်ခဲနက် တစ်လုံးတည်းအားဖြင့် တောက်လောင်နေသော မီးတောက်မီးလျှံ၌ ဥဂ္ဂဟနိမိတ် ပဋိဘာဂနိမိတ်ကို ယူပါလေ။[၁၃၇]

## အရောင်နှင့် လက္ခဏာကို နှလုံးမသွင်းပါနှင့်

ထိုသို့ တေဇောကသိုဏ်းနိမိတ်ကို ယူရာ၌ ထိုမီးတောက်မီးလျှံ၏ အညို အဝါ အနီ စသည်အားဖြင့် ကွဲပြားသော အရောင်ကို နှလုံးမသွင်းပါနှင့်။ အရောင်ကို နှလုံးသွင်းခဲ့သော် ဝဏ္ဏကသိုဏ်းဘက်သို့ ကူးသွားမည် ဖြစ်၏။ ထို မီးတောက်မီးလျှံ၏ ပူသောလက္ခဏာကိုလည်း နှလုံးမသွင်းပါနှင့်။[၁၃၈] ပူသော လက္ခဏာကို နှလုံးသွင်းပါက ဓာတ်ကမ္မဋ္ဌာန်းလမ်းဘက်သို့ ပြောင်းသွားမည် ဖြစ်၏။

တစ်ဆင့်စကား ကြားဖူးသည်မှာ — ယောဂါဝစရပုဂ္ဂိုလ်တစ်ဦးသည် တေဇောကသိုဏ်းဘာဝနာကို ပွားများ အားထုတ်ရာ၌ သမာဓိအားကောင်းလာသောအခါ မီးတောက်မီးလျှံ၏ ပူလောင်သော သဘောကို အာရုံယူမိသဖြင့် သမာဓိအရှိန်အဝါ အားကောင်း၍ ကသိုဏ်းဝန်းလည်း အရပ်ဆယ်မျက်နှာသို့ ပြန့်သွားသောအခါ မူလ နှလုံး သွင်းမိသော ပူသော သဘောမှာ အလွန် ထင်ရှားလာ၍ ထိုအပူရှိန်၏ ဒဏ်ချက်ကို မခံနိုင်သဖြင့် ထွက်ပြေးရဖူး၏။ မီးတောက်မီးလျှံတွေက ထိုယောဂီ၏ ခန္ဓာကိုယ်ကို ဝိုင်း၍ လောင်နေကြသော ဟူ၏။

ထိုကြောင့် တေဇောကသိုဏ်းကို ပွားများအားထုတ်သော ယောဂါဝစရပုဂ္ဂိုလ်သည် မီးတောက်မီးလျှံ၌ရှိသော အရောင်အဆင်း၏တည်ရာ မီးကို အဆင်းနှင့်တကွသာလျှင် ပြု၍ တေဇောဓာတ် များပြားထူပြောသည်၏ အစွမ်းဖြင့် တေဇော = မီးဟူသော လောကဝေါဟာရပညတ်၌ စိတ်ကိုထား၍ **တေဇော – တေဇော – တေဇော = မီး – မီး – မီး -** ဟု နှလုံးသွင်း ပွားများပါ။ ဤသို့ ပွားများအားထုတ်သော ယောဂါဝစရပုဂ္ဂိုလ်အား ဥဂ္ဂဟနိမိတ်, ပဋိဘာဂနိမိတ် တို့သည် အစဉ်အတိုင်း ဖြစ်ပေါ်လာကြမည် ဖြစ်ပေသည်။[၁၃၉]

---

[၁၃၇] (ဝိသုဒ္ဓိ၊၁၊၁၆၆။)

[၁၃၈] ဝဏ္ဏော န ပစ္စဝေက္ခိတဗ္ဗော၊ ဥဏှတ္တဝသေန လက္ခဏံ န မနသိကာတဗ္ဗံ။ (ဝိသုဒ္ဓိ၊၁၊၁၆၆။)

[၁၃၉] (ဝိသုဒ္ဓိ၊၁၊၁၆၆။)

ဤညွှန်ကြားချက်များနှင့် အညီ တေဇောကသိုဏ်းကို ပွားများအားထုတ်လိုသော ယောဂါဝစရပုဂ္ဂိုလ်သည် မိမိ ရရှိထားပြီးသော စတုတ္ထစျာန်သမာဓိတစ်ခုခုကို တစ်ဖန် ပြန်၍ သမာဓိထူထောင်ပါ။ ရှေ့ဦးစွာ ထမင်း ဟင်းချက်ရာ မီးဖိုဌ တည်ရှိသော မီးတောက်မီးလျှံ၌ အောက်ပိုင်းထင်းစ အပေါ်ပိုင်း မီးညွန့်တို့ကို မကြည့်ဘဲ အလယ် မီးတောက်ကိုသာ ကြည့်၍ တေဇောကသိုဏ်းနိမိတ်ကို ယူကြည့်ပါ။ မအောင်မြင်ခဲ့သော် ဆယ်လက်မခန့် အပေါက်ရှိသော ဇလုံပေါက် တစ်ခုကို မိမိ၏ ရှေ့က ခံထား၍ ထိုဇလုံပေါက်၏ ရှေ့၌ တည်ရှိသော မီးတောက်မီးလျှံ၌ တေဇောကသိုဏ်းနိမိတ်ကို ယူကြည့်ပါ၊ အောင်မြင်တတ်ပါသည်။ နိမိတ် သုံးမျိုး, ဘာဝနာ သုံးမျိုး, သမာဓိ သုံးမျိုးတို့ကို အစဉ်အတိုင်း ရရှိအောင် ကြိုးစားအားထုတ်ပါ။

ရှေးယခင်က အိမ်ကို မီးလောင်ခြင်း, မြို့ရွာကို မီးလောင်ခြင်း, တောမီးလောင်ခြင်း စသည်တို့ကို မြင်ခဲ့ဖူးလျှင်လည်း မိမိ ရရှိထားပြီးသည့် စတုတ္ထစျာန်သမာဓိ တစ်ခုခုကို ထူထောင်ပြီးနောက် ယင်း မြင်ဖူးထားသည့် မီးတောက် မီးလျှံ၏ အလယ်သားကို တစ်ဖန်အာရုံယူ၍လည်း တေဇောကသိုဏ်းဘာဝနာကို ပွားများအားထုတ်နိုင်ပေသည်။

## ဥဂ္ဂဟနိမိတ် – ပဋိဘာဂနိမိတ်

ထိုသို့ တေဇောကသိုဏ်းဘာဝနာကို ပွားများအားထုတ်သော ယောဂါဝစရပုဂ္ဂိုလ်၏ သန္တာန်၌ ဖြစ်ပါလာသော ဥဂ္ဂဟနိမိတ် ပဋိဘာဂနိမိတ် နှစ်မျိုးတို့တွင် ဥဂ္ဂဟနိမိတ်ကား မီးတောက်မီးလျှံသည် ပြတ်၍ပြတ်၍ ကျသည်နှင့်တူသည် ဖြစ်၍ ထင်လာ၏။ ကသိုဏ်းဝန်းအဖြစ် မပြုပြင်အပ်သော မီးပုံ၌ တေဇောကသိုဏ်းနိမိတ်ကိုယူသော ပုဂ္ဂိုလ်အားကား ကသိုဏ်း၏ အပြစ်ဒေါသသည် ထင်ရှား၏၊ မီးအပိုင်းအစ = မီးထင်းစသည်လည်းကောင်း, မီးကျီးစု မီးကျီးခဲပုံသည်လည်းကောင်း, ပြာသည်လည်းကောင်း, မီးခိုးသည်လည်းကောင်း ထင်နေတတ်၏။ ပဋိဘာဂနိမိတ်သည်ကား မတုန်လှုပ်သည်ဖြစ်၍ ကောင်းကင်၌ ဖြန့်ခင်းထားအပ်သော ကမ္ဗလာပိုင်းကဲ့သို့လည်းကောင်း, ရွှေယပ်ဝန်းကဲ့သို့လည်းကောင်း, ရွှေသည်တိုင်ကဲ့သို့လည်းကောင်း ထင်လာ၏။ ထိုယောဂါဝစရပုဂ္ဂိုလ်သည် ထိုပဋိဘာဂနိမိတ်၏ ထင်သည်နှင့် အတူတကွသာလျှင် ဥပစာရစျာန်သို့လည်းကောင်း အပ္ပနာစျာန်သို့လည်းကောင်း ရောက်ရှိနိုင်ပေသည်။[၃၃၉]

## ဝါယောကသိုဏ်း = လေကသိုဏ်း

ဝါယောကသိုဏ်းကို ပွားများအားထုတ်လိုသော ယောဂါဝစရပုဂ္ဂိုလ်သည်လည်း လေ၌ နိမိတ်ကို ယူအပ်၏။ ထိုဝါယောကသိုဏ်းနိမိတ်ကိုလည်း . .

၁။ အမြင်၏ အစွမ်းဖြင့်လည်းကောင်း,

၂။ အတွေ့၏ အစွမ်းဖြင့်လည်းကောင်း — ယူအပ်ပေသည်။[၃၄၀] ထိုကြောင့် . .

၁။ သစ်ပင်ဖျား သစ်ရွက်ဖျား စသည်တို့၌ တိုက်ခတ်၍နေသော လေကို ကြည့်၍ မြင်၍လည်း ဝါယောကသိုဏ်း နိမိတ်ကို ယူနိုင်၏။

၂။ မိမိ၏ ကိုယ်အင်္ဂါ အစိတ်အပိုင်းတစ်နေရာ၌ လာရောက် တွေ့ထိနေသော လေကိုလည်း ဝါယောကသိုဏ်း နိမိတ်အဖြစ် ယူနိုင်၏။

၁။ အကယ်၍ သစ်ပင်ဖျား သစ်ရွက်ဖျား စသည်တို့၌ တိုက်ခတ်၍နေသော လေကို ကြည့်၍ ဝါယောကသိုဏ်း နိမိတ်ကို ယူလိုခဲ့သော် ရှေးဦးစွာ မိမိ ရရှိထားပြီးသော စတုတ္ထစျာန်သမာဓိ တစ်ခုခုကို ထူထောင်ပြီးနောက် လင်းရောင်ခြည်စွမ်းအင်များ အားကောင်းလာသောအခါ ထိုလင်းရောင်ခြည်၏ အကူအညီဖြင့် ထိုလေကို မြင်အောင် ကြည့်၍ ထိုလေ၌ သတိကိုဖြစ်စေ၍ **ဝါယော – ဝါယော – ဝါယော = လေ – လေ – လေ -** ဟု နှလုံးသွင်း ပွားများပါ။ နိမိတ် သုံးမျိုး, ဘာဝနာ သုံးမျိုး, သမာဓိ သုံးမျိုးလုံးကို ရအောင် အစဉ်အတိုင်း ပွားများအားထုတ်ပါ။

၂။ အကယ်၍ မိမိကိုယ်အင်္ဂါ၌ တွေ့ထိလာသော လေကို ဝါယောကသိုဏ်းနိမိတ်အဖြစ် ယူလိုသော် ရှေးဦးစွာ မိမိ ရရှိထားပြီးသော စတုတ္ထစျာန်သမာဓိ တစ်ခုခုကို တစ်ဖန် ပြန်၍ ထူထောင်ပါ။ လင်းရောင်ခြည်စွမ်းအင်များ

[၃၄၀] ဝါယောကသိဏံ ဘာဝေတုကာမေနာပိ ဝါယုသ္မိံ နိမိတ္တံ ဂဏှိတဗ္ဗံ။ တဉ္စ ခေါ ဒိဋ္ဌဝသေန ဝါ ဖုဋ္ဌဝသေန ဝါ။ (ဝိသုဒ္ဓိ၊၁၊ ၁၆၇။)

အားကောင်းလာသောအခါ လေသာပြူတင်းပေါက်စသည်မှ ဝင်လာ၍ ကိုယ်အင်္ဂါအစိတ်အပိုင်း တစ်နေရာ၌ လာရောက် ထိခိုက်သော လေအစု၌ သတိကို ဖြစ်စေ၍ **ဝါယော – ဝါယော – ဝါယော = လေ – လေ – လေ -** ဟု နှလုံးသွင်း ပွားများပါ။ စတုတ္ထဈာန်သမာဓိသို့ ဆိုက်သည်တိုင်အောင် သမာဓိကို အဆင့်ဆင့် ထူထောင်ပါ။ သမာဓိသုံးမျိုး-လုံးကို ရရှိအောင် အစဉ်အတိုင်း ပွားများအားထုတ်ပါ။

## ဥဂ္ဂဟနိမိတ်နှင့် ပဋိဘာဂနိမိတ်

ဥဂ္ဂဟနိမိတ်ကား ခုံလောက် = ဖိုခနောက်မှ ချအပ်ကာမျှဖြစ်သော နို့ယနာဆွမ်း၏ အခိုးအငွေ့အလုံးနှင့်တူစွာ တုန်လှုပ်သည်ဖြစ်၍ ထင်လာ၏။ ပဋိဘာဂနိမိတ်သည်ကား ငြိမ်သက်သော အနေအထိုင်ရှိသည် မတုန်လှုပ်သည်ဖြစ်၍ ထင်လာ၏။ ကြွင်း နည်းတူ မှတ်လေ။[၄၄၁]

## အာလောကကသိုဏ်း = အလင်းရောင်ကသိုဏ်း

အာလောကကသိုဏ်းကို နိမိတ်ယူလိုသော ယောဂါဝစရပုဂ္ဂိုလ်သည် . .

၁။ နံရံပေါက်ဖြင့် ဝင်၍ ထင်လာသော လရောင် နေရောင် အဝန်း,

၂။ သံကောက်ပေါက်ဖြင့် ဝင်၍ ထင်လာသော လရောင် နေရောင် အဝန်း,

၃။ လေသောက်တံခါးပေါက်ဖြင့် ဝင်၍ ထင်လာသော လရောင် နေရောင် အဝန်း —

ဤအဝန်းတစ်ခုခု၌ နိမိတ်ကို ယူနိုင်၏။[၄၄၂]

အာလောကကသိုဏ်း ဘာဝနာလုပ်ငန်း၌ ပြုအပ်ခဲ့ဖူးသော အဓိကာရ ကောင်းမှုကုသိုလ် ပါရမီရှိသောပုဂ္ဂိုလ်အား နံရံပေါက်စသည်တို့တွင် တစ်ခုခုသော အပေါက်ဖြင့် နေရောင်သည်လည်းကောင်း, လရောင်သည်လည်းကောင်း ဝင်၍ နံရံပေါ်၌လည်းကောင်း, မြေ (= ကြမ်းပြင်)ပေါ်၌လည်းကောင်း ထင်လာသော အလင်းရောင် အဝန်းကို မြင်၍သာလျှင် ဥဂ္ဂဟနိမိတ် ပဋိဘာဂနိမိတ်သည် ဖြစ်ပေါ်လာနိုင်၏။ တစ်ခဲနက် ထူသော အရွက်ရှိသော သစ်ပင်၏ အခက်အကြားဖြင့်သော်လည်းကောင်း, တစ်ခဲနက် ထူသော သစ်ခက်မဏ္ဍပ်ကြားဖြင့်သော်လည်းကောင်း ထွက်၍ မြေပေါ်၌သာလျှင် ထင်လာသော အရောင်အဝန်းကို မြင်၍သာလျှင်လည်း ဥဂ္ဂဟနိမိတ် ပဋိဘာဂနိမိတ်သည် ဖြစ်ပေါ်လာနိုင်၏။[၄၄၂]

အာလောကကသိုဏ်း ဘာဝနာလုပ်ငန်း၌ ဖြည့်ကျင့်ဆည်းပူးခဲ့သော ပါရမီအရှိန်အဝါ အားပျော့သော ယောဂါဝစရပုဂ္ဂိုလ်သည်ကား အထက်တွင် တင်ပြထားသော အလင်းရောင်သုံးမျိုးတို့တွင် တစ်မျိုးမျိုး၌ **အာလောကော – အာလောကော – အာလောကော = အလင်းရောင် – အလင်းရောင် – အလင်းရောင် -** ဟု နှလုံးသွင်း ပွားများပါ။ မအောင်မြင်ခဲ့သော် အိုးတစ်လုံး၏ အတွင်း၌ ဆီမီးကို ညှိထွန်း၍ အိုးဝကို ပိတ်၍ အိုး၌ အပေါက်ငယ်တစ်ခု ပြုလုပ်၍ နံရံသို့ ရှေးရှုတည်ထားပါ။ ထိုဖောက်ထားသော အိုးပေါက်မှ ဆီမီးရောင်သည် ထွက်၍ နံရံပေါ်၌ အဝန်းအဝိုင်း ထင်နေပေမည်။ ထိုနံရံပေါ်၌ ထင်နေသော ဆီမီးရောင် အဝန်းအဝိုင်းကို **အာလောကော – အာလောကော – အာလောကော = အလင်းရောင် – အလင်းရောင် – အလင်းရောင် -** ဟု နှလုံးသွင်း ပွားများပါလေ။ ဤသို့ ပြုပြင်စီမံထားသော အလင်းရောင်ကသိုဏ်းဝန်းကား လရောင် နေရောင်တို့ကြောင့် ထင်နေသော ကသိုဏ်းဝန်းထက် ပို၍ တာရှည်ခံပေသည်။[၄၄၂]

အထက်တွင် တင်ပြထားသော စတုတ္ထဈာန်သမာဓိအမျိုးမျိုးတို့ကို အောင်အောင်မြင်မြင် ထူထောင်ထားပြီးသော ယောဂါဝစရပုဂ္ဂိုလ်သည်ကား ညနေချမ်းအခါဝယ် သို့မဟုတ် နံနက်ခင်းအခါဝယ် ထူထဲသော သစ်ခက် သစ်ရွက်ရှိသော သစ်ပင်၏ အကြားမှ မြင်တွေ့ရသော နေရောင်ခြည်၏ အလင်းရောင်ကို အာရုံယူ၍ အာလောကကသိုဏ်းနိမိတ်ကို ရယူခဲ့သော် လွယ်လွယ်ကူကူပင် နိမိတ်ကို ယူ၍ ရတတ်ပေ၏၊ အလင်းရောင်စွမ်းအင်မှာလည်း ပို၍ အားကောင်းတတ်ပေသည်။ မှောင်မိုက်နေသော ညဥ့်အခါဝယ် ယင်းကဲ့သို့သော ကသိုဏ်းဝန်းနိမိတ်ကို ဖြန့်ကြက်ခဲ့သော် ကသိုဏ်းဝန်းကို ဖြန့်ကြက်ထားပြီးရာ အရပ်အတွင်း၌ တည်ရှိနေသော အလင်းရောင်မှာ နေ့အခါ၌ကဲ့သို့ပင် လင်းနေသော ဟူ၏။

[၄၄၁] (ဝိသုဒ္ဓိ၊၁၊၁၆၇။) [၄၄၂] (ဝိသုဒ္ဓိ၊၁၊၁၆၉။)

အင်္ဂုတ္တရနိကာယ် သတ္တကနိပါတ် ပစလာယမာနသုတ္တန်[၄၄၃]၌ လာရှိသော ဘုရားရှင်၏ အရှင်မဟာမောဂ္ဂလ္လာန်မထေရ်မြတ်ကြီးအား ညွှန်ကြားထားတော်မူချက်နှင့် ညီညွတ်လျက်ပင် ရှိပေသည်။

## ဥဂ္ဂဟနိမိတ်နှင့် ပဋိဘာဂနိမိတ်

ဤအာလောကကသိုဏ်း၌ ဥဂ္ဂဟနိမိတ်သည် နံရံပေါ်၌လည်းကောင်း, မြေ = ကြမ်းပြင်ပေါ်၌လည်းကောင်း, သစ်ခက်သစ်ရွက်ကြားစသည်၌လည်းကောင်း ထင်နေသော ပကတိ အလင်းရောင် အဝန်းအဝိုင်းနှင့် တူ၏။ ပဋိဘာဂနိမိတ်သည်ကား ဘုရားရှင်၏ တစ်လံမျှလောက်သော ရောင်ခြည်တော်ဝန်းကဲ့သို့ တစ်ခဲနက် အတုံးလိုက် အခဲလိုက် ဖြစ်၍ အထူး ကြည်လင်သော အလင်းရောင်အစုနှင့် တူ၏။ ကြွင်း နည်းတူ မှတ်ပါလေ။[၄၄၄]

## ထိနမိဒ္ဓ ပယ်ဖျောက်ရေး

ဤ အာလောကသညာ ခေါ် အာလောကကသိုဏ်းမှာ . . ထိနမိဒ္ဓ = စိတ်စေတသိက်တို့၏ ထိုင်းမှိုင်းမှုကို ပယ်ဖျောက်ရေးအတွက် အကောင်းဆုံးသော လက်နက်တစ်မျိုး ဖြစ်၏။ အင်္ဂုတ္တိုရ်ပါဠိတော် သတ္တကနိပါတ် ပစလာယမာနသုတ္တန်[၄၄၃]၌ ဘုရားရှင်သည် ထိနမိဒ္ဓ ပျောက်ကင်းကြောင်းတရား (၇)မျိုးတို့ကို ခွဲခြားကာ ဟောကြားထားတော်မူခဲ့၏။ ယင်း (၇)မျိုးတို့တွင် ဤအာလောကသညာသည်လည်း တစ်ခုအပါအဝင် ဖြစ်သည်။ နိဗ္ဗာန်ကို လိုလားတောင့်တလျက်ရှိသော ယောဂါဝစရပုဂ္ဂိုလ်တိုင်း လက်ကိုင်ထားသင့်သော ကမ္မဋ္ဌာန်း တစ်မျိုးပင် ဖြစ်သည်။ ဒိဗ္ဗစက္ခုအဘိညာဏ်၏ အခြေခံကသိုဏ်းတို့တွင် ဤအာလောကကသိုဏ်းမှာ အကောင်းဆုံး အသာဆုံး အမြတ်ဆုံးသော ကသိုဏ်းတစ်ခုပင် ဖြစ်သည်။

## အာကာသကသိုဏ်း = ကောင်းကင်ကသိုဏ်း

၁။ နံရံပေါက်၌သော်လည်းကောင်း,

၂။ သံကောက်ပေါက်၌သော်လည်းကောင်း,

၃။ လေသာပြူတင်းပေါက်ကြား၌သော်လည်းကောင်း

အာကာသကသိုဏ်း = အကြားအပေါက်ကသိုဏ်း = ကောင်းကင်ကသိုဏ်းနိမိတ်ကို ရယူနိုင်ပေသည်။

ရှေးရှေးဘဝက အာကာသကသိုဏ်း ဘာဝနာလုပ်ငန်း၌ ပြုအပ်ခဲ့ဖူးသော အဓိကာရကောင်းမှုကုသိုလ်ရှိသူအား နံရံပေါက်စသော အကြားအပေါက် တစ်ခုခုကို တွေ့မြင်ခဲ့သော် ဥဂ္ဂဟနိမိတ် ပဋိဘာဂနိမိတ်သည် လွယ်ကူစွာပင် ဖြစ်ပေါ်လာနိုင်၏။ အဓိကာရကောင်းမှုကုသိုလ် အားနည်းသသူကား နေပြောက်မထိုးရအောင် ကောင်းစွာ မိုးထားအပ်သော မဏ္ဍပ်၌သော်လည်းကောင်း, သားရေ, ဖျာ စသည်တို့တွင် တစ်ခုခု၌သော်လည်းကောင်း, တစ်ထွာ လက်လေးသစ် စသည် ပမာဏရှိသော ဝန်းဝိုင်းသော အပေါက်ကို ပြုလုပ်၍ ထိုကသိုဏ်းဝန်းအဖြစ် ပြုလုပ်ထားအပ်သော အပေါက်ကိုသော်လည်းကောင်း, နံရံပေါက် စသော တစ်ခုခုသော အပေါက်ကိုသော်လည်းကောင်း အာကာသနိမိတ်အဖြစ် အာရုံယူ၍ **အာကာသော – အာကာသော – အာကာသော = ကောင်းကင် – ကောင်းကင် – ကောင်းကင်** ဟူ၍ နှလုံးသွင်း ပွားများအပ်၏။

အကယ်၍ အောင်မြင်မှုကို မရရှိခဲ့လျှင် တစ်ထွာခန့် တစ်ပေခန့် အချင်းရှိသော အပေါက်အဝိုင်းတစ်ခုကို သစ်သားပျဉ်ချပ်တွင် စက်ဝိုင်းကျကျ ဖောက်ပါ။ ထိုအာကာသကသိုဏ်းဝန်းပါသော ပျဉ်ချပ်ကို သစ်ပင်, မိုးသား, တိမ်ရိပ် စသော အပြစ်ကင်းစင်သည့် ကောင်းကင်ဘက်သို့ မြှောက်၍ ကိုင်ထားပါ။ ထိုအဝန်းအဝိုင်း အာကာသနိမိတ်ကို စိတ်စိုက်၍ အာရုံယူကြည့်ပါ။ ကသိုဏ်းဝန်းအပေါက်ကို ကျော်လွန်၍ ကောင်းကင်ဘက်သို့ လိုက်မကြည့်ပါနှင့်။ ပျဉ်ပြားချပ်တွင် ဖောက်ထွင်းထားသော ကသိုဏ်းဝန်း၌သာ အာကာသကသိုဏ်းနိမိတ်ကို ယူပါ။ အကယ်၍ လွယ်ကူစွာဖြင့် နိမိတ်ကို ယူ၍ မရနိုင် ဖြစ်နေသေးလျှင် မိမိ ရရှိထားပြီးသော စတုတ္ထစျာန်သမာဓိတစ်ခုခုကို တစ်ဖန်ပြန်၍ ထူထောင်ပါ။ ထိုနောင် ပုံစံတူပင် အာကာသကသိုဏ်းဝန်းနိမိတ်ကို ပုံစံတူပင် မျက်စိဖွင့်၍ ပြန်ယူကြည့်ပါ။ မျက်စိမှိတ်လိုက်သောအခါ ဥဂ္ဂဟနိမိတ်သည် ထင်လာပါက အောင်မြင်မှုကို ရရှိပေပြီ။ အောင်မြင်မှု ရရှိသောအခါ

---

[၄၄၃] (အံ၊ ၂၊ ၄၆၃။) [၄၄၄] (ဝိသုဒ္ဓိ၊ ၁၊ ၁၆၉။)

အာကာသနိမိတ်ကို ခိုင်ခံ့အောင် အနည်းငယ် ဆက်လက် လေ့ကျင့်၍ မိမိ အလိုရှိရာအရပ်သို့ သွား၍ ထိုင်လျက် ပွားများနိုင်ပေပြီ။

မိမိ ကြိုက်နှစ်သက်ရာ တစ်နေရာ၌ သွားရောက်ထိုင်သောအခါ မိမိ ရရှိထားပြီးသည့် စတုတ္ထဈာန်သမာဓိ တစ်ခုခုကို တစ်ဖန် ပြန်၍ ထူထောင်ပါ။ ထိုနောင် မိမိ ရရှိထားပြီးဖြစ်သည့် အာကာသကသိုဏ်းဝန်းနိမိတ်ကိုပင် တစ်ဖန် ပြန်၍ အာရုံယူပါ။ ရှေးရှေး ဘာဝနာသမာဓိတို့၏ အားကြီးသော မှီရာ ဥပနိဿယသတ္တိဖြင့် ကျေးဇူးပြုပေးမှု အရှိန်အဝါသတ္တိထူးကို ဆက်ခံရသော နောက်နောက်သော ဘာဝနာသမာဓိမှာလည်း လွယ်ကူချောမောလျက်ပင် ရှိနေတတ်ပါသည်။

## ဥဂ္ဂဟနိမိတ်နှင့် ပဋိဘာဂနိမိတ်

ဤအာကာသကသိုဏ်း၌ ဥဂ္ဂဟနိမိတ်သည် နံရံပေါက် စသည်တို့နှင့် အတူတကွ ထိုမူလနံရံပေါက် စသည်တို့နှင့် တူသည်သာလျှင် ဖြစ်ပေသည်။ ဥဂ္ဂဟနိမိတ်အခိုက်၌ ဘာဝနာစွမ်းအား နည်းပါးသည့်အတွက်ကြောင့် ကသိုဏ်းဝန်းကို တိုးပွားအောင် ပြုလုပ်သော်လည်း မတိုးပွားနိုင်သေးပေ။ ပဋိဘာဂနိမိတ်ကား အပေါက်ဖောက်ထားသည့် စက်ဝိုင်း အာကာသနိမိတ်၏ နံရံစွန်းစသည် မထင်တော့ဘဲ ကောင်းကင်အာကာသအဝန်းသက်သက်သာဖြစ်၍ ထင်လာ တော့သည်။ ထိုအခါ အာကာသကသိုဏ်း ဘာဝနာလုပ်ငန်း အာကာသကသိုဏ်း ဘာဝနာသမာဓိသည် မြဲမြံသွားပြီ ဖြစ်သောကြောင့် ကသိုဏ်းဝန်းကို တိုးပွားစေသော်လည်း ကသိုဏ်းဝန်းသည် တိုးပွားလာနိုင်ပေသည်။ ကွင်းနည်းတူပြီ။[၃၄၅]

## ကသိုဏ်း (၁၀) ပါး

စတုတ္ထဈာန်သမာဓိ ဆိုက်သည်တိုင်အောင်သော — ကသိုဏ်း (၁၀)ပါး ရှုကွက်ကား ဤတွင် ပြီးဆုံးသွားပြီ ဖြစ်ပေသည်။ ဤကဲ့သို့ အောင်မြင်မှုကို ရရှိပြီးသော ယောဂါဝစရပုဂ္ဂိုလ်သည် ပထဝီ, အာပေါ, တေဇော, ဝါယော, နီလ, ပီတ, လောဟိတ, ဩဒါတ, အာလောက, အာကာသဟူသော ဘုရားဟော ဒေသနာစဉ်အတိုင်း . . ကသိုဏ်း (၁၀)ပါးတို့၌ ကသိုဏ်းတိုင်း ကသိုဏ်းတိုင်းဝယ် စတုတ္ထဈာန်သမာဓိသို့ ဆိုက်သည်တိုင်အောင် ကြိမ်ဖန်များစွာ ထပ်ကာ ထပ်ကာ ပွားများအားထုတ်ပါ။

ထိုသို့ ကြိုးစားအားထုတ်နိုင်ပါက မည်သည့်အရာဝတ္ထုနှင့် တွေ့ကြုံရသည် ဖြစ်စေ ကသိုဏ်းဝန်းနိမိတ်အဖြစ် အာရုံယူ၍ ရနိုင်သည့် အရာဝတ္ထု မှန်ပါက ယင်းဝတ္ထုကို ကသိုဏ်းနိမိတ်အဖြစ် လှမ်း၍ အာရုံယူလိုက်သည်နှင့် တစ်ပြိုင်နက် ကသိုဏ်းနိမိတ်ကို လွယ်လွယ်ကူကူပင် ရယူနိုင်ပေသည်။ ကသိုဏ်း (၁၀)ပါးလုံးတို့ကို စတုတ္ထဈာန် သမာဓိသို့ ဆိုက်သည်တိုင်အောင် ကျွမ်းကျွမ်းကျင်ကျင် ရှုနိုင်သူ ယောဂီတစ်ဦးအား အလွန်သေးငယ်သော စကားဝါပန်း တစ်ပွင့်ကလည်း အဝါရောင်ကသိုဏ်း ဖြစ်ပေါ်လာအောင် အာရမ္မဏပစ္စယသတ္တိဖြင့် ကျေးဇူးပြုပေးနေမည်သာ ဖြစ်၏။ နီမြန်းသော နှင်းဆီပန်းတစ်ပွင့်ကလည်း အနီရောင်ကသိုဏ်း ဖြစ်ပေါ်လာအောင်, အလွန်သေးငယ်သော စံပယ်ပန်း တစ်ပွင့်ကလည်း အဖြူရောင်ကသိုဏ်း ဖြစ်ပေါ်လာအောင် အာရမ္မဏပစ္စယသတ္တိဖြင့် အလားတူပင် ကျေးဇူးပြုပေး နေမည်သာ ဖြစ်၏။

သက်ရှိ သက်မဲ့ ကာမဝတ္ထုအစုစုမှ, အနှစ်သာရ ဘာမျှ ရှာမရသော ဤခန္ဓာကိုယ်ယုတ် အကောင်ပုပ်ကြီးမှ ဘာဝနာဟူသော အနှစ်သာရကို ထုတ်ယူတတ်ပါက ယခုကဲ့သို့ နည်းမှန်လမ်းမှန် နှလုံးသွင်းတတ်သည့် ယောနိသော မနသိကာရတရား ထင်ရှားရှိနေသော ယောဂါဝစရပုဂ္ဂိုလ် တစ်ဦးအဖို့ စတုတ္ထဈာန်သမာဓိကဲ့သို့သော ဘာဝနာ အနှစ်သာရများကား လွယ်လွယ်ကူကူပင် ထွက်ပေါ်လာမည် ဖြစ်ပေသည်။ ယင်းစတုတ္ထဈာန်သမာဓိကို အခြေခံ၍ ဝိပဿနာသို့ ကူးတက်သွားပါက ယင်းသမာဓိတရားတို့က အရဟတ္တဖိုလ်ကို ရသည်တိုင်အောင် ကျေးဇူးပြုပေး နေမည်သာ ဖြစ်ပေသည်။ သို့သော် ယခုအခါ၌ကား ကသိုဏ်းပညတ်ကို အာရုံယူ၍ ရရှိသော စတုတ္ထဈာန်သမာဓိကို အခြေခံ၍ အရူပဈာန်များကို ပွားများအားထုတ်ပုံအပိုင်းကို ဆက်လက်၍ ရေးသားတင်ပြအပ်ပါသည်။



[၃၄၅] (ဝိသုဒ္ဓိ၊၁၊၁၆၉။)

## အရူပါဝစရဈာန်ပိုင်း

## အာကာသာနဉ္စာယတနဈာန်

အရူပါဝစရဈာန်သည် . .

၁။ အာကာသာနဉ္စာယတနဈာန် = အာကာသ (= ကောင်းကင်)ပညတ်လျှင် တည်ရာအာရုံရှိသောဈာန်,
၂။ ဝိညာဏဉ္စာယတနဈာန် = အာကာသာနဉ္စာယတနဝိညာဏ်လျှင် တည်ရာအာရုံရှိသောဈာန်,
၃။ အာကိဉ္စညာယတနဈာန် = အာကာသာနဉ္စာယတနဝိညာဏ်၏ မရှိခြင်း (= နတ္ထိဘော)ပညတ်လျှင် တည်ရာအာရုံရှိသောဈာန်,
၄။ နေဝသညာနာသညာယတနဈာန် = သညာရှိသည်လည်း မဟုတ်, မရှိသည်လည်း မဟုတ်သော = ရုန့်ရင်းကြမ်းတမ်းသော သညာကား မရှိ၊ အလွန့်အလွန် သိမ်မွေ့နူးညံ့သော သညာသာ ရှိသော, အာကိဉ္စညာယတနဝိညာဏ်လျှင် တည်ရာအာရုံရှိသောဈာန် —

ဤသို့လျှင် လေးမျိုးပြား၏။ ထိုတွင် အာကာသာနဉ္စာယတနဈာန်ကို ရရှိအောင် ပွားများအားထုတ်လိုသော ယောဂါဝစရပုဂ္ဂိုလ်သည် ရှေးဦးစွာ ရုပ်တရားတို့၏ အပြစ်ကို မြင်အောင် ရှုဆင်ခြင်အပ်၏ . .။

မိဘတို့၏ သုက်သွေးကို အမှီပြုကာ ကံ-စိတ်-ဥတု-အာဟာရတည်းဟူသော အကြောင်းတရားလေးပါးတို့ကြောင့် ထင်ရှားဖြစ်ပေါ်လာရသော ဤခန္ဓာကိုယ်ကို ကရဇကာယဟု ခေါ်ဆို၏။ ဤကရဇကာယ ထင်ရှား ရှိခြင်းကြောင့် (၁) တုတ်ဓားစသော လက်နက်ကို စွဲကိုင်လျက် သတ်ပုတ်ကြ၏၊ ရိုက်နှက်ကြ၏၊ ညှဉ်းပန်းနှိပ်စက်ကြ၏၊ (၂) ခိုက်ရန်ဖြစ်ကြ၏၊ ငြင်းခုံကြ၏၊ (၃) မျက်စိရောဂါ, နားရောဂါ စသည်ဖြင့် ရောဂါအမျိုးမျိုးကို ခံစားရ၏။ ဤ ကရဇကာယ အမည်ရသော ရုပ်တရားသာ မရှိပါက ထိုကဲ့သို့သော ဒုက္ခမျိုးစုံမှ လွတ်ပေလိမ့်မည်ဟု ပညာဖြင့် ဆင်ခြင်၍ ရုပ်တရား-ကိုသာလျှင် ငြီးငွေ့ခြင်းငှာ, စက်ဆုပ်ခြင်းငှာ, ချုပ်စေခြင်းငှာ အာကာသာနဉ္စာယတနဈာန်ကို ရရှိအောင် ကြိုးစားအားထုတ်ရ၏။ အာကာသာနဉ္စာယတနဈာန်ဟူသည် အာကာသ (= ကောင်းကင်)ပညတ်လျှင် တည်ရာအာရုံရှိသောဈာန်တည်း။ ကရဇကာယ အမည်ရသော ရုပ်တရား၌ အပြစ်ကို မြင်အောင်ရှု၍ ထိုရုပ်တရားကို ကျော်လွှားလွန်မြောက်ဖို့ရန် အာကာသကသိုဏ်းမှ တစ်ပါး ကြွင်းကျန်သော ပထဝီကသိုဏ်းစသော ကသိုဏ်း (၉)ပါးတို့တွင် တစ်ပါးပါးသော ကသိုဏ်း၌ စတုတ္ထဈာန်ကို ဖြစ်စေအပ်၏။[၃၄၆]

### ထပ်မံ ရှင်းလင်းချက်

ဥပမာ ဩဒါတ (= အဖြူရောင်)ကသိုဏ်း ဆိုကြစို့ . .။ ယောဂါဝစရပုဂ္ဂိုလ်၏ မူလ နိမိတ်ယူရာဖြစ်သော ဩဒါတကသိုဏ်း၏တည်ရာ ဦးခေါင်းခွံကဲ့သို့သော အရိုးကား သက်ရှိယောဂီတစ်ဦး၏ ဦးခေါင်းခွံအရိုး ဖြစ်ခဲ့ပါမူ အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း ကာယဒွါရ၌ တည်ရှိသည့် (၅၃)မျိုးသော ရုပ်တရားတို့၏ အပေါင်းအစုသာ ဖြစ်သည်။ (ရုပ်ကမ္မဋ္ဌာန်းပိုင်းဇယားများ[၃၄၇]တွင် ကြည့်ပါ။) ကံ-စိတ်-ဥတု-အာဟာရတည်းဟူသော အကြောင်းတရားလေးပါးကြောင့် ထင်ရှားဖြစ်ပေါ်လာကြရသည့် ကရဇကာယ အမည်ရသည့် ရုပ်အစစ်တို့ပင်တည်း။

သို့သော် ဩဒါတကသိုဏ်းလျှင် အာရုံရှိသော စတုတ္ထဈာန်သို့တိုင်အောင်သော ရူပါဝစရဈာန်တရားတို့၏အာရုံမှာ ဩဒါတကသိုဏ်း ပဋိဘာဂနိမိတ်တည်း။ ယင်းပဋိဘာဂနိမိတ်ကား မူလအဖြူရောင်နိမိတ်ကို ယူရာ ဦးခေါင်းခွံအရိုးဟု ခေါ်ဝေါ်အပ်သော ကရဇကာယရုပ်ဟူသော ပရမတ္ထဓမ္မမှ အလွတ်ဖြစ်သော, ယောဂါဝစရပုဂ္ဂိုလ်၏ ဘာဝနာသညာကြောင့် ဖြစ်ပေါ်လာရသော ပညတ်သာတည်း။ ရုပ်အစစ်ကား မဟုတ်ပေ။ ရူပါဝစရစတုတ္ထဈာန်သို့ တိုင်အောင်သော ဈာန်တရားတို့သည် ယင်းပညတ်ပဋိဘာဂနိမိတ်ကိုသာ အာရုံပြုကြ၏။ မူလကသိုဏ်းဝန်း၏ တည်ရာ ဦးခေါင်းခွံအရိုးဟူသော ကရဇကာယရုပ်တို့၏ အပေါင်းအစုဖြစ်သည့် ရုပ်အစစ်ကို အာရုံ မပြုကြပေ။ ထိုကြောင့် ရူပါဝစရဈာန်တို့သည်လည်း ကရဇရူပ (= ကရဇကာယ) ခေါ်သည့် ရုပ်အစစ်တို့ကို (= ရုပ်တရားတို့ကို) ကျော်လွှားလွန်မြောက်ပြီးသာ ဖြစ်ကြသည်။

---

[၃၄၆] (ဝိသုဒ္ဓိ၊၁၊၃၂၀။) [၃၄၇] (ရုပ်ကမ္မဋ္ဌာန်းပိုင်း စာမျက်နှာ၊၂၇၃-၂၇၈။)

## နှိုင်းခိုင်းဖွယ်ရာ လောကဥပမာ

ထိုယောဂါဝစရပုဂ္ဂိုလ်အား ရူပါဝစရစတုတ္ထဈာန်၏ အစွမ်းအားဖြင့် ယင်းဈာန်က ကရဇရုပ်ကို အာရုံမပြုခြင်း, ပဋိဘာဂနိမိတ်ကိုသာ အာရုံပြုခြင်းကြောင့် — ကရဇရုပ်ကို ကျော်လွှားလွန်မြောက်ခြင်းသည် အကယ်၍ကား ဖြစ်ပါပေ၏။ ထိုသို့ပင် ဖြစ်ပါသော်လည်း ကသိုဏ်းရုပ်သည်လည်း ဈာန်၏ အာရုံအဖြစ်ဖြင့် အာရုံယူ၍ ရနိုင်ခြင်းကြောင့် ထိုကရဇရုပ်နှင့် တူသည်သာလျှင် ဖြစ်၏။ ထိုကြောင့် ထိုကသိုဏ်းရုပ်ကိုလည်း ကျော်လွှားလွန်မြောက်ဖို့ရန် အလို ရှိအပ်ပေ၏။ ဥပမာ — မြွေကြောက်တတ်သော ယောက်ျားသည် တောတွင်း၌ မြွေက နောက်မှ လိုက်သဖြင့် အပန်းတကြီး လျင်လျင်မြန်မြန် ပြေးလေသော် ပြေးရာအရပ်၌ မြွေနှင့်တူအောင် ဆေးရောင်အမျိုးမျိုးဖြင့် ခြယ်သထားအပ်သော ဆန်းကြယ်သော ထန်းရွက်ကိုလည်းကောင်း, နွယ်ကိုလည်းကောင်း, ကြိုးကိုလည်းကောင်း, မြေကြီး၌ ကွဲအက်နေသော အက်ကြောင်းကိုလည်းကောင်း အဝေးက လှမ်းမြင်လိုက်လျှင် ကြောက်ရွံ့ထိတ်လန့်သွား၏၊ ထိုဝတ္ထုကို မကြည့်လို ဖြစ်သွား၏။ နောက်ဥပမာ တစ်မျိုးကား — မိမိ၏ အကျိုးစီးပွားမဲ့ကို ပြုလုပ်တတ်သော ရန်သူယောက်ျား တစ်ဦးနှင့်အတူ တစ်ရွာတည်း၌ နေထိုင်ရသော ယောက်ျားသည် ထိုရန်သူယောက်ျားက ပုတ်ခတ်ခြင်း, နှောင်ဖွဲ့ခြင်း, အိမ်ကို မီးတိုက်ခြင်း စသည်တို့ဖြင့် နှိပ်စက်အပ်သည်ဖြစ်၍ အခြားတစ်ရွာသို့ ပြောင်းရွှေ့နေထိုင်လိုက်၏။ ထိုရွာ၌လည်း ထိုရန်သူ ယောက်ျားနှင့် အဆင်းသဏ္ဌာန် အသံ အပြုအမူ ပယောဂတူသော ယောက်ျားကို တွေ့မြင်ပြန်သော် ကြောက်ရွံ့ ထိတ်လန့်သည်သာ ဖြစ်ပြန်၏။ ထိုသူ့ကိုလည်း မကြည့်လို ဖြစ်နေတတ်၏။

ဤဥပမာများအတူ — ယောဂါဝစရပုဂ္ဂိုလ်သည် ကရဇရုပ်ကိုသာမက ထိုကရဇရုပ်ကို အခြေခံ၍ ဖြစ်ပေါ် လာသော ကသိုဏ်းရုပ်ကိုလည်း ဤကသိုဏ်းရုပ်သည် ထိုကရဇရုပ်နှင့် တူသည်သာလျှင်တည်းဟု စွဲမြဲစွာ မှတ်သား၍ ထိုကသိုဏ်းရုပ်ကိုလည်း ကြောက်ခြင်း လန့်ခြင်း မမြင်လိုခြင်း သဘောတရားသည် ထင်ရှားဖြစ်ပေါ်လာကာ ယင်းကသိုဏ်းရုပ်ကိုလည်း ကျော်လွှားလွန်မြောက်ခြင်းငှာ အလိုရှိမှုကို မှတ်သားပါ။[၃၄၈]

## ပြုကျင့်ရမည့် လုပ်ငန်းစဉ်

ဩဒါတကသိုဏ်းကို အခြေခံကာ အာကာသာနဉ္စာယတနဈာန်ကို ပွားများအားထုတ်လိုသော ယောဂါဝစရ ပုဂ္ဂိုလ်သည် ရှေးဦးစွာ ဩဒါတကသိုဏ်းလျှင် အာရုံရှိသော ပထမဈာန်, ဒုတိယဈာန်, တတိယဈာန်, စတုတ္ထဈာန်တို့ကို အစဉ်အတိုင်း ဝင်စားထားပါ။ ထိုနောင် အောက်ပါအတိုင်း ဆက်လက်ကာ လိုက်နာပြုကျင့်ပါ။ —

ဤဆိုအပ်ခဲ့ပြီးသည့်နည်းအတိုင်း ထိုယောဂါဝစရပုဂ္ဂိုလ်သည် စတုတ္ထဈာန်၏ အာရုံဖြစ်သော ထိုဩဒါတကသိုဏ်း ရုပ်မှ ငြီးငွေ့၍ ကျော်လွှားလွန်မြောက်လိုသည်ဖြစ်၍ ဝသီဘော်ငါးတန်ကို နိုင်နင်းအောင် လေ့ကျက်အပ်ပြီးသည်ဖြစ်၍ အဝါးဝစွာ လေ့လာအပ်ပြီးသော ဩဒါတကသိုဏ်းလျှင် အာရုံရှိသော စတုတ္ထဈာန်မှ ထ၍ ထိုစတုတ္ထဈာန်၌ ဤသို့ အပြစ်ကို မြင်အောင် ရှုပါ။ —

၁။ ဤရူပါဝစရစတုတ္ထဈာန်သည် ငါ ငြီးငွေ့အပ်သော ကသိုဏ်းရုပ်ကို အာရုံပြုဘိ၏။
၂။ သောမနဿဝေဒနာဟူသော နီးကပ်သော ရန်သူရှိ၏။
၃။ ငြိမ်သက်သော ဝိမောက္ခဖြစ်သော အရူပဈာန်အောက် ရုန့်ရင်း၏။

ဤသို့ အပြစ်ကို မြင်အောင် ရှုပါ။ ဤရူပါဝစရစတုတ္ထဈာန်သည် ဥပေက္ခာ ဧကဂ္ဂတာဟူသော ဈာန်အင်္ဂါ နှစ်ပါးသာ ရှိသကဲ့သို့ အလားတူပင် အရူပါဝစရဈာန်တို့သည်လည်း ဥပေက္ခာ ဧကဂ္ဂတာဟူသော ဈာန်အင်္ဂါ နှစ်ပါးတို့သာ ရှိကြသောကြောင့် ဤရူပါဝစရစတုတ္ထဈာန်၌ ဈာန်အင်္ဂါ၏ ရုန့်ရင်းကြမ်းတမ်းမှု သဘောတရားကား မရှိပေ။ ထို ယောဂါဝစရပုဂ္ဂိုလ်သည် ထိုရူပါဝစရစတုတ္ထဈာန်၌ ဤဆိုအပ်ခဲ့ပြီးသောနည်းအတိုင်း အပြစ်ကို မြင်အောင်ရှုပြီးလျှင်

၄။ ထိုစတုတ္ထဈာန်၌ တွယ်တာငဲ့ကွက် တသက်သက်ရှိခြင်းကို ကုန်စေ၍,
၅။ အာကာသာနဉ္စာယတနဈာန်ကို ငြိမ်သက်သောအားဖြင့် အဆုံးမရှိသောအားဖြင့် နှလုံးသွင်း၍,
၆။ စကြဝဠာဆုံးသည်တိုင်အောင်လည်းကောင်း, အလိုရှိသမျှအရပ်သို့ တိုင်အောင်လည်းကောင်း မိမိ ပွားများ ထားပြီးသော ဩဒါတကသိုဏ်းရုပ်ကို ဖြန့်ကြက်၍,

[၃၄၈] (ဝိသုဒ္ဓိ၊၁၊၃၂၀။)

၇။ ထိုကသိုဏ်းရုပ်ဖြင့် တွေ့ထိရာအရပ်ကို **အာကာသ – အာကာသ** ဟူ၍လည်းကောင်း, **အနန္တအာကာသ – အနန္တအာကာသ** ဟူ၍လည်းကောင်း နှလုံးသွင်း၍ . .

ရူပါဝစရစတုတ္ထဈာန်၏ အာရုံဖြစ်သော ဩဒါတကသိုဏ်းရုပ်ကို ခွာ၏။ ထင်ရှားစေအံ့ — ထိုဩဒါတကသိုဏ်းရုပ်ကို ခွာသော ယောဂါဝစရပုဂ္ဂိုလ်သည် ဖျာတစ်ချပ်ကို ခေါက်လိပ်သကဲ့သို့ ဩဒါတကသိုဏ်းရုပ်ကို ခေါက်လိပ်သည်လည်း မဟုတ်။ မုန့်အိုးကင်းမှ မုန့်ကို ခွာသကဲ့သို့ ဩဒါတကသိုဏ်းဝန်းရုပ်ကို ခွာထုတ်သည်လည်း မဟုတ်။ အဟုတ်သော်ကား ဩဒါတကသိုဏ်းကို မဆင်ခြင်ခြင်းတည်း၊ နှလုံးမသွင်းခြင်းတည်း၊ မသုံးသပ်ခြင်းတည်း။ ဩဒါတကသိုဏ်းကို မဆင်ခြင်ဘဲ နှလုံးမသွင်းဘဲ မသုံးသပ်ဘဲ စင်စစ်မှာမူ ထိုဩဒါတကသိုဏ်းရုပ်ဖြင့် တွေ့ထိရာအရပ်ကိုပင် — **အာကာသ – အာကာသ**ဟူ၍ တစ်ဖက်သတ် နှလုံးသွင်းသော ယောဂါဝစရပုဂ္ဂိုလ်သည် ကသိုဏ်းကို ခွာသည်မည်၏။ ယင်းသို့ ခွာအပ်သော ဩဒါတကသိုဏ်းသည်လည်း မထမက္ခ မနစ်မဆုတ်။ ဤယောဂါဝစရပုဂ္ဂိုလ်၏ ဩဒါတကသိုဏ်းကို သက်သက် နှလုံးမသွင်းခြင်းကိုလည်းကောင်း, အာကာသ အာကာသဟု တစ်ဖက်သတ် နှလုံးသွင်းခြင်းကိုလည်းကောင်း အစွဲပြု၍ ဩဒါတကသိုဏ်းကို ခွာသည် မည်ပေ၏။ ကသိုဏ်းကို ခွာရာခွာကြောင်း အာကာသ ကောင်းကင်ပညတ်မျှသည်သာလျှင် ထင်လာ၏။

၁။ ကသိဏုဂ္ဃါဋိမာကာသ = ကသိုဏ်းကို ခွာ၍ ရရှိအပ်သော အာကာသ၊
၂။ ကသိဏဖုဋ္ဌောကာသ = ကသိုဏ်းဖြင့် တွေ့ထိမိရာ အာကာသ၊
၃။ ကသိဏဝိဝိတ္တာကာသ = ကသိုဏ်းမှ ကင်းဆိတ်သွားသော အာကာသ၊

ဤသုံးပုဒ်လုံးသည် ပရိယာယ်နှင့်နှင့် ဖြစ်သောကြောင့် အနက်အားဖြင့် တူသည်သာတည်း။[၃၄၉]

## အကြံပေးချက်

ဤအထက်ပါ ညွှန်ကြားချက်အတိုင်း ယောဂါဝစရပုဂ္ဂိုလ်သည် နှလုံးသွင်းကြည့်ပါ။ အောင်မြင်မှုကို ရရှိနိုင်ပါသည်။ အကယ်၍ အောင်မြင်မှုကို  မရရှိပါက ဤသို့လည်း နှလုံးသွင်းကြည့်ပါ — ဩဒါတကသိုဏ်းဝန်းကို စကြဝဠာ တစ်ခုလုံး ပြည့်အောင် ဖြန့်ကြက်ပါ။ အလိုရှိခဲ့လျှင် အနန္တစကြဝဠာသို့ တိုင်အောင်လည်း ဩဒါတကသိုဏ်းဝန်းကို ဖြန့်ကြက်ပါ။ ဖြန့်ကြက်ပြီးနောက် ထိုဩဒါတကသိုဏ်းလျှင် အာရုံရှိသော ဈာန်များကို စတုတ္ထဈာန်သို့ တိုင်အောင် ဝင်စားပါ။ ထိုစတုတ္ထဈာန်မှ ထ၍ အထက်တွင် ရေးသားတင်ပြထားသည့်အတိုင်း (၁) မှ (၅)သို့ တိုင်အောင်သော ဆင်ခြင်ရမည့်အချက်များကို ဆင်ခြင်ပါ။ ထိုနောင် ဩဒါတကသိုဏ်းရုပ်ကို အဆုံးအစ မရှိအောင် ဖြန့်ကြက်ပါ။

ထိုနောင် ထိုဩဒါတကသိုဏ်း၏ တစ်နေရာတွင် စိတ်စိုက်ကာ ဩဒါတကို နှလုံးမသွင်းဘဲ အာကာသကို တစ်ဖက်သတ် နှလုံးသွင်းပါ။ မကြာမီအချိန်ကာလအတွင်းမှာပင် အာကာသအကြားအပေါက်ကို မြင်လာတတ်ပါသည်။ ထိုအခါတွင် အာကာသ မဖြစ်သေးသော ဩဒါတကသိုဏ်းကို လုံးဝ နှလုံးမသွင်းတော့ဘဲ ထင်လာသော အာကာသကို သာလျှင် တစ်ဖက်သတ် နှလုံးသွင်းလျက် အာကာသ အာကာသဟု ရှုနေပါ။ အာကာသသည် ထင်ရှားသထက် ထင်ရှားလာ၍ ငြိမ်သက်လာသောအခါ ယင်းအာကာသကိုပင် ဖြန့်ကြက်၍ အာကာသ အာကာသဟု ရှုပါ။ အာကာသ ကျယ်ပြန့်လာသည်နှင့်အမျှ ဩဒါတကသိုဏ်းဝန်းမှာ တဖြည်းဖြည်း နောက်သို့ ဆုတ်သွားကာ အာကာသက နေရာယူလာပေလိမ့်မည်။ အာကာသကို အရပ် (၁၀)မျက်နှာသို့ တဖြည်းဖြည်း ဖြန့်ပါ။ နောက်ဆုံးတွင် ဩဒါတကသိုဏ်း ပျောက်၍ အာကာသချည်းသက်သက် ကျန်ရှိပေလိမ့်မည်။ ယင်းသို့ ကျန်ရှိနေသော အာကာသကား ဩဒါတကသိုဏ်းကို ခွာ၍ ရရှိလာသော အာကာသနိမိတ်ပင်တည်း။ ထိုအခါတွင် အောက်ပါ ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ၏ ညွှန်ကြားချက်အတိုင်း ဆက်လက်လေ့ကျင့်ပါ။

## အာကာသာနဉ္စာယတနဈာန်သို့

ထိုယောဂါဝစရပုဂ္ဂိုလ်သည် ထိုဩဒါတကသိုဏ်းကို ခွာ၍ ရရှိလာသော အာကာသနိမိတ်ကို **အာကာသ – အာကာသ**ဟူ၍ အဖန်ဖန် အထပ်ထပ် ဆင်ခြင်၏၊ ဝိတက်ဖြင့် အာကာသ - အာကာသဟု ရှေးရှုခေါက်သည်ကို

[၃၄၉] (ဝိသုဒ္ဓိ၊၁၊၃၂၀-၃၂၁။)

ထက်ဝန်းကျင် လှည့်လည်ခေါက်သည်ကို ပြု၏။ ဤသို့ အဖန်ဖန် အထပ်ထပ် ဆင်ခြင်သော ဝိတက်ဖြင့် အာကာသ - အာကာသဟု ရှေးရှုခေါက်သည်ကို ထက်ဝန်းကျင် လှည့်လည်ခေါက်သည်ကိုပြုသော ထိုယောဂါဝစရပုဂ္ဂိုလ်၏ သန္တာန်၌ နီဝရဏ ကိလေသာ အညစ်အကြေးတို့သည် ကွာကျသွားကြကုန်၏၊ အာကာသနိမိတ်လျှင် တည်ရာအာရုံ ရှိသော သတိသည် အလွန်ထင်သည်ဖြစ်၍ ကောင်းစွာ တည်၏၊ ဥပစာရဈာန်သမာဓိဖြင့် ဘာဝနာစိတ်သည် အာကာသနိမိတ်၌ ကောင်းစွာ တည်ကြည်နေ၏။ ထိုယောဂါဝစရပုဂ္ဂိုလ်သည် ထိုအာကာသနိမိတ်ကို အဖန်ဖန် အထပ်ထပ် မှီဝဲ၏, ပွားများ၏, ကြိမ်ဖန်များစွာ အလေ့အလာပြု၏။ ဤသို့ အဖန်ဖန် အထပ်ထပ် ဆင်ခြင်သော နှလုံးသွင်းသော ထိုယောဂါဝစရပုဂ္ဂိုလ်အား အာကာသနိမိတ်အာရုံ၌ **အာကာသာနဉ္စာယတနစိတ်**သည် အပ္ပနာဈာန်၏ အစွမ်းဖြင့် ဖြစ်ပေါ်လာ၏၊ ဩဒါတကသိုဏ်းစသော ကသိုဏ်းပညတ်အာရုံတို့၌ ရူပါဝစရဈာန်စိတ်သည် အပ္ပနာဈာန်၏ အစွမ်းဖြင့် ဖြစ်သကဲ့သို့တည်း။ မှန်ပေသည် . . ဤအာကာသာနဉ္စာယတနဈာန်စိတ်၌လည်း ဈာန်၏ ရှေးအဖို့၌ သုံးကြိမ်သော ဥပစာရဇောသို့မဟုတ် လေးကြိမ်သော ဥပစာရဇောတို့ကား ကာမာဝစရဇောတို့တည်း။ ယင်း ကာမာဝစရ ဥပစာရဇောတို့သည် ဥပေက္ခာဝေဒနာနှင့် ယှဉ်ကုန်သည်သာလျှင် ဖြစ်ကုန်၏။ လေးကြိမ်မြောက်ဇော, သို့မဟုတ် ငါးကြိမ်မြောက်ဇောသည် အာကာသာနဉ္စာယတန အမည်ရသော အရူပါဝစရဇော ဖြစ်၏။ အကြွင်းကား ဩဒါတကသိုဏ်း၌ ဖွင့်ဆိုခဲ့သည့်အတိုင်းသာတည်း။[၃၅၀]

## အထူးမှာထားချက်

ဤသို့လျှင် အရူပါဝစရဈာန်စိတ်သည် ဖြစ်ပေါ်လာလတ်သော် ထိုယောဂါဝစရရဟန်းသည် အိုးဝတွင် ဖုံးလွှမ်းထားအပ်သော အဝတ်ကို ဖွင့်လှစ်လိုက်သည့်အခါ အဝတ်ကွယ်ပျောက်၍ မျက်နှာဝ ဟင်းလင်းပေါက် အာကာသသည် ပေါ်ပေါက်လာသကဲ့သို့ — ဤဥပမာအတူပင်လျှင် ရှေး၌ ကသိုဏ်းဝန်းကို ရူပါဝစရဈာန်စက္ခုဖြင့် ကြည့်ရှုလျက် နေပြီးနောက် ယင်း ဩဒါတကသိုဏ်းဝန်းကို နှလုံးမသွင်းတော့ဘဲ အာကာသ အာကာသဟူ၍ ဤ ပရိကမ်ဖြစ်သော ဥပစာရဈာန် မနသိကာရဖြင့် အဆောတလျင် ထိုပထဝီကသိုဏ်းနိမိတ်အာရုံကို ခွာအပ်ပြီးလတ်သော် ထင်လာသော အာကာသနိမိတ်အာရုံကိုသာလျှင် အရူပါဝစရဈာနစက္ခုဖြင့် ရှုလျက် နေ၏။ ဤမျှ အတိုင်းအရှည်ရှိသော စကား အစဉ်ဖြင့် ဤယောဂါဝစရပုဂ္ဂိုလ်ကို ဤသို့ ဆိုအပ်ပေ၏။

“၁။ ကုန်အောင်စုံသော **ရူပသညာ** အမည်ရသော ဩဒါတကသိုဏ်းရုပ် စသည်တို့ကို အာရုံပြုသော ရူပါဝစရ ဈာန်တို့ကိုလည်းကောင်း, ထိုရူပါဝစရဈာန်တို့၏ အာရုံဖြစ်သော ဩဒါတကသိုဏ်းစသော အာရုံတို့ကို လည်းကောင်း ကျော်လွှားလွန်မြောက်၍ သွားခြင်းကြောင့်,

၂။ ရူပသညာ သဒ္ဒသညာ ဂန္ဓသညာ ရသသညာ ဖောဋ္ဌဗ္ဗသညာဟူသော ဝတ္ထု-အာရုံ ထိခိုက်ခြင်းကြောင့် ဖြစ်ပေါ်လာကုန်သော **ပဋိဃသညာ**တို့၏ ချုပ်ငြိမ်းသွားခြင်းကြောင့်, (ဒွေပဉ္စဝိညာဏ်နှင့် ယှဉ်သော သညာ များတည်း။)

၃။ ဒွေပဉ္စဝိညာဏ်နှင့် ယှဉ်သော သညာ (၁၀)မျိုးမှ တစ်ပါးသော ကာမာဝစရ ကုသိုလ် အကုသိုလ် ဝိပါက် ကြိယာဟူသော (၄၄)မျိုးသော စိတ်နှင့်ယှဉ်သော (၄၄)မျိုးသော သညာဟူသော အထူးထူးသော **နာနတ္တသညာ** တို့ကို နှလုံးမသွင်းခြင်းကြောင့် အနန္တအာကာသဟု နှလုံးသွင်းတတ်သော အာကာသာနဉ္စာယတနဈာန်ကို ပြည့်စုံစေ၍ နေထိုင်၏”[၃၅၁]ဟူ၍ ဆိုအပ်ပေ၏။[၃၅၂] [၃၅၃]

---

[၃၅၀] (ဝိသုဒ္ဓိ၊၁၊၃၂၁။)

[၃၅၁] သဗ္ဗသော ရူပသညာနံ သမတိက္ကမာ ပဋိဃသညာနံ အတ္ထင်္ဂမာ နာနတ္တသညာနံ အမနသိကာရာ ‘အနန္တော အာကာသော’တိ အာကာသာနဉ္စာယတနံ ဥပသမ္ပဇ္ဇ ဝိဟရတိ။ (အဘိ၊၂၊၂၅၄။ ဒီ၊၂၊၆၀။)

[၃၅၂] (ဝိသုဒ္ဓိ၊၁၊၃၂၂။)

[၃၅၃] **မှတ်ချက်** — ဤအထက်ပါ ပါဠိတော်ဖြင့် အာကာသာနဉ္စာယတနဈာန်၏ ခပ်သိမ်းကုန်သော (၅၄)မျိုးကုန်သော ကာမာဝစရ စိတ်-စေတသိက်တို့ကို ပယ်ခြင်းကိုလည်းကောင်း, နှလုံးမသွင်းခြင်းကိုလည်းကောင်း ဟောတော်မူအပ်၏ဟု သိရှိပါလေ။ ကသိုဏ်းကို ခွာ၍ ရရှိအပ်သော အာကာသသက်သက်ကိုသာ တစ်ဖက်သတ် နှလုံးသွင်းနေသောကြောင့် ဖြစ်သည်။

## ဝိညာဏဉ္စာယတနစျာန်

ဝိညာဏဉ္စာယတနစျာန်ဟူသည် . . အာကာသာနဉ္စာယတနဝိညာဏ်လျှင် တည်ရာအာရုံ ရှိသော စျာန်တည်း၊ အာကာသာနဉ္စာယတနဝိညာဏ်ကို အရှုခံအာရုံ ထား၍ ရှုပွားသုံးသပ်သဖြင့် ရရှိလာသော စျာန်တည်း။ ထို ဝိညာဏဉ္စာယတနစျာန်ကို ရရှိအောင် ပွားများအားထုတ်လိုသော ယောဂါဝစရပုဂ္ဂိုလ်သည် အာကာသာနဉ္စာယတန စျာန်သမာပတ်ကို ဝသီဘော်ငါးတန် နိုင်နင်းအောင် လေ့ကျင့်အပ်၏။ အာကာသာနဉ္စာယတနစျာန်သမာပတ်၌ ဝသီဘော်ငါးတန်ကို နိုင်နင်းအောင် လေ့ကျင့်ပြီးသော ယောဂါဝစရပုဂ္ဂိုလ်သည် . .

၁။ ဤ ငါရရှိထားသော အာကာသာနဉ္စာယတန စျာန်သမာပတ်သည် ရူပါဝစရစျာန်ဟူသော နီးကပ်သော ရန်သူရှိ၏။

၂။ ဝိညာဏဉ္စာယတနစျာန်သမာပတ်ကဲ့သို့ ငြိမ်သက်သည်လည်း မဟုတ်ခဲ့။ ဤသို့လျှင် အာကာသာနဉ္စာယတန စျာန်သမာပတ်၌ အပြစ်မြင်အောင် ရှု၍,

၃။ ထိုအာကာသနဉ္စာယတနစျာန်၌ ခုံမင်တပ်မက်ခြင်း တဏှာကို ကုန်စေ၍,

၄။ ဝိညာဏဉ္စာယတနစျာန်ကို ငြိမ်သက်၏ဟူ၍ နှလုံးသွင်းပြီးလျှင် —

ထိုပထဝီကသိုဏ်းကို ခွာ၍ ရအပ်သော အာကာသနိမိတ်ကို ပျံ့နှံ့၍ ဖြစ်ပေါ်လာသော ထိုအာကာသာနဉ္စာယတနဝိညာဏ်ကို **ဝိညာဏံ – ဝိညာဏံ**ဟူ၍ အဖန်ဖန် အထပ်ထပ် ဆင်ခြင်အပ်၏ နှလုံးသွင်းအပ်၏ ဉာဏ်ဖြင့် သက်ဝင်၍ ဆင်ခြင်အပ်၏။ ဝိတက်ဖြင့် **ဝိညာဏံ – ဝိညာဏံ**ဟု ရှေးရှုခေါက်သည်ကို ထက်ဝန်းကျင် လှည့်လည်၍ ခေါက်သည်ကို ပြုအပ်၏။ အနန္တံ အနန္တံဟူ၍ သက်သက် နှလုံးမသွင်းကောင်း၊ ဝိညာဏံ - ဝိညာဏံဟုလည်းကောင်း, အနန္တံ ဝိညာဏံ - အနန္တံ ဝိညာဏံဟုလည်းကောင်း နှလုံးသွင်းကောင်း၏။

ဤသို့သောနည်းအားဖြင့် ထိုအာကာသာနဉ္စာယတနဝိညာဏ်ဟူသော ဝိညာဏနိမိတ်၌ အဖန်တလဲလဲ ဘာဝနာ စိတ်ကို ဖြစ်စေသော ထိုယောဂါဝစရပုဂ္ဂိုလ်အား နီဝရဏကိလေသာအညစ်အကြေးတို့သည် ကွာကျသွားကြကုန်၏။ အာကာသာနဉ္စာယတနဝိညာဏ်လျှင် တည်ရာအာရုံရှိသော သတိသည် ကောင်းစွာ တည်လာ၏၊ ဥပစာရစျာန် သမာဓိဖြင့် ဘာဝနာစိတ်သည် ကောင်းစွာ တည်ကြည်လာ၏။ ထိုယောဂါဝစရပုဂ္ဂိုလ်သည် ထိုအာကာသာနဉ္စာယတန ဝိညာဏ်နိမိတ်ကို အဖန်ဖန် အထပ်ထပ် မှီဝဲ၏ ပွားများ၏ ကြိမ်ဖန်များစွာ အလေ့အလာပြု၏။ ဤသို့သောနည်းဖြင့် အကြိမ်များစွာပြုသော ထိုယောဂါဝစရပုဂ္ဂိုလ်၏ သန္တာန်၌ ကသိုဏ်းကို ခွာ၍ ရရှိလာသော အာကာသနိမိတ်၌ အာကာသာနဉ္စာယတနစျာန်စိတ်သည် အပ္ပနာစျာန်၏ အစွမ်းဖြင့် ဖြစ်သကဲ့သို့ – ပထဝီကသိုဏ်းကို ခွာ၍ ရရှိလာသော အာကာသနိမိတ်ကို ပျံ့နှံ့၍ အာရုံပြု၍ ဖြစ်ပေါ်လာသော အာကာသာနဉ္စာယတနဝိညာဏ်အာရုံ၌ ဝိညာဏဉ္စာယတန စျာန်စိတ်သည် အပ္ပနာစျာန်၏ အစွမ်းဖြင့် ဖြစ်ပေါ်လာ၏။[၃၁၄]

### ပရမတ်အာရုံဖြစ်သည်ကို သတိပြုပါ

ဤ၌ အရှုခံအာရုံမှာ အာကာသာနဉ္စာယတနစျာန်ဝိညာဏ်ဖြစ်၏၊ ပရမတ်အာရုံတည်း။ ထိုအာကာသာနဉ္စာယတနစျာန်ဝိညာဏ်ကို ဝိညာဏံ ဝိညာဏံဟု ရှုခဲ့သော် ထိုအာကာသာနဉ္စာယတနဝိညာဏ်အာရုံ၌ ငြိမ်ဝပ်စွာ ကပ်၍ တည်နေသော ဘာဝနာစိတ်တို့တွင် ဥပစာရစျာန်ဇောတို့၏ နောက်၌ အပ္ပနာစျာန်၏ အစွမ်းဖြင့် ဖြစ်ပေါ်လာသော စျာန်စိတ်သည် ဝိညာဏဉ္စာယတနစျာန်စိတ်တည်း။ အာကာသာနဉ္စာယတနဝိညာဏ်လျှင် တည်ရာအာရုံ ရှိသော စျာန်စိတ် ဟူလိုသည်။ အရှုခံအာရုံဖြစ်သော စျာန်စိတ်မှာ အာကာသာနဉ္စာယတနစျာန်စိတ်, ရှုတတ်သော စျာန်စိတ်မှာ ဝိညာဏဉ္စာယတနစျာန်စိတ်တည်း။ နှစ်မျိုးလုံးသည် စျာန်စိတ်ချည်းသာတည်း။ ပရမတ်တရားချည်းသာတည်း။

### အခက်အခဲတစ်ရပ်

အရှုခံအာရုံမှာ ပရမတ်တရား ဖြစ်နေသဖြင့် နာမ်ကမ္မဋ္ဌာန်းကို မရှုဖူးသေးသော အချို့အချို့သော ယောဂါဝစရ ပုဂ္ဂိုလ်တို့အဖို့ ယင်းအာကာသာနဉ္စာယတနဝိညာဏ်ကို မသိမ်းဆည်းတတ် ဖြစ်နေကြ၏။ ထိုအခါတွင် — ယင်း အာကာသာနဉ္စာယတနစျာန်၏ ဥပေက္ခာ+ဧကဂ္ဂတာဟူသော စျာန်အင်္ဂါ နှစ်ပါးကို သိမ်းဆည်းတတ်ပါသလားဟု

---

[၃၁၄] (ဝိသုဒ္ဓိ၊၁၊၃၂၅။)

ထိုပုဂ္ဂိုလ်တို့ကို မေးကြည့်လိုက်သောအခါ သိမ်းဆည်းတတ်ပါကြောင်းကို ဝန်ခံကြ၏။ ထိုအခါတွင် ယင်းစျာန်အင်္ဂါ နှစ်ပါးတို့နှင့် စိတ္တက္ခဏ တစ်ခုတစ်ခုအတွင်းဝယ် အတူယှဉ်တွဲ ဖြစ်နေသော ယင်းစျာန်စိတ်ကို မြင်အောင်ရှုပါဟု အကြံပြုလိုက်သောအခါ ယင်းစျာန်စိတ်ကို ရှုတတ်သွားကြ၏။ သို့သော် နောက်ထပ် ထပ်ဆင့် မေးခွန်း တစ်ခု မေးလာတတ်ကြပြန်၏။ ယင်းအာကာသာနဉ္စာယတနစျာန်စိတ်မှာ ယောဂါဝစရပုဂ္ဂိုလ်၏ နှလုံးအိမ်အတွင်း၌ တည်ရှိသော ဟဒယဝတ္ထုရုပ်ကိုသာ မှီ၍ဖြစ်နေသော စိတ်တစ်မျိုးဖြစ်သဖြင့် ယင်းစျာန်စိတ်ကို ဝိညာဏံ - ဝိညာဏံ ဟု ရှုနေသောအခါ နှလုံးအိမ်အတွင်း ဟဒယဝတ္ထု ရှိသည့်နေရာကို စိုက်ရှုနေရမှာလားဟု မေးတတ်ကြပြန်၏။ ဟုတ်ပါသည်ဟုပင် အဖြေပေးရ၏။ သို့သော် ဦးခေါင်းကို ငုံ့ကာ နှလုံးအိမ်ဘက်သို့ စိုက်ကြည့်ရမည်ဟုကား မဆိုလိုကြောင်းကိုလည်းကောင်း, စိတ်ဖြင့်သာ စိုက်ရှုရန်ကိုလည်းကောင်း ထပ်မံ၍ အကြံပြုရပြန်သည်။

## ဝိညာဏဉ္စာယတနစျာန်သို့ ဆိုက်ရောက်နေသူ

ဤမျှ အတိုင်းအရှည်ရှိသော ဘာဝနာအစဉ်ဖြင့် ဤပုဂ္ဂိုလ်ကို ဤသို့ ခေါ်ဆိုအပ်ပေ၏။

"အကြွင်းမရှိ အလုံးစုံသော အာကာသာနဉ္စာယတနစျာန်နှင့် အာကာသနိမိတ်အာရုံကို ကျော်လွှားလွန်မြောက်၍ 'အနန္တံ ဝိညာဏံ - အနန္တံ ဝိညာဏံ"ဟု ဤသို့ နှလုံးသွင်းသည်ဖြစ်၍ ဝိညာဏဉ္စာယတနစျာန်ကို ပြည့်စုံစေ၍ နေသူ"[၃၅၅] ဟူ၍ ဆိုအပ်၏။[၃၅၆]

ဤ၌ အာကာသာနဉ္စာယတနစျာန်ကိုလည်းကောင်း, ယင်းအာကာသာနဉ္စာယတနစျာန်၏ တည်ရာအာရုံ ဖြစ်သည့် အာကာသနိမိတ်ကိုလည်းကောင်း — ဤ နှစ်မျိုးလုံးကိုပင် အာကာသာနဉ္စာယတနဟု ဆိုလို၏။ ထို နှစ်မျိုးလုံးကိုပင် မဖြစ်ခြင်းကို ပြုသဖြင့်လည်းကောင်း, နှလုံးမသွင်းသဖြင့်လည်းကောင်း — အချင်းခပ်သိမ်း ကျော်လွှား လွန်မြောက်သွားပါမှသာလျှင် ဤ ဝိညာဏဉ္စာယတနစျာန်ကို ပြည့်စုံစေ၍ နေနိုင်သောကြောင့် ဤစျာန်နှင့် အာရုံ နှစ်ပါးစုံကိုလည်း တစ်ပေါင်းတည်းပြု၍ **အာကာသာနဉ္စာယတနံ သမတိက္ကမ္မ** = အာကာသာနဉ္စာယတနစျာန်နှင့် အာကာသာနဉ္စာယတနစျာန်၏ အာရုံ (= အာကာသနိမိတ်)ကို ကျော်လွှားလွန်မြောက်၍ဟု ဘုရားရှင် ဟောကြားတော်မူပေသည်။[၃၅၇]

## ဆိုလိုရင်းသဘော

စိတ်တို့မည်သည် တစ်ခုသော စိတ္တက္ခဏအတွင်း၌ နှစ်ခုပြိုင်တူ ဖြစ်ရိုးဓမ္မတာကား မရှိပေ။ စိတ္တက္ခဏတစ်ခုပြီးမှ နောက်စိတ္တက္ခဏတစ်ခု ဖြစ်နိုင်၏။ ဤ၌ အရှုခံအာရုံဖြစ်သည့် အာကာသာနဉ္စာယတနစျာန်ဝိညာဏ်နှင့် ရှုတတ်သည့် ဝိညာဏဉ္စာယတနစျာန်ဝိညာဏ်တို့သည် တစ်ခုသော စိတ္တက္ခဏအတွင်း၌ နှစ်ခုပြိုင်တူကား မဖြစ်နိုင်ကြပေ။ အာကာသာနဉ္စာယတနစျာန်စိတ်က ဥပါဒ်-ဌီ-ဘင်အားဖြင့် ထင်ရှားဖြစ်နေချိန်ဝယ် ဝိညာဏဉ္စာယတနစျာန်စိတ်ကား ဥပါဒ်-ဌီ-ဘင်အားဖြင့် ထင်ရှားမဖြစ်နိုင်သေးပေ။ ဝိညာဏဉ္စာယတနစျာန်စိတ်က ဥပါဒ်-ဌီ-ဘင်အားဖြင့် ထင်ရှား ဖြစ်နေချိန်ဝယ် အာကာသာနဉ္စာယတနစျာန်စိတ်သည် ဥပါဒ်-ဌီ-ဘင်အားဖြင့် ထင်ရှား မဖြစ်နိုင်တော့ပြီ ဖြစ်၏။ ယင်း အရှုခံအာရုံဖြစ်သည့် အာကာသာနဉ္စာယတနစျာန်စိတ်က ဥပါဒ်-ဌီ-ဘင်အားဖြင့် ထင်ရှားမဖြစ်သည့်အခါမှ = ဥပါဒ်-ဌီ-ဘင်အားဖြင့် ထင်ရှားဖြစ်မှုကို ကျော်လွှားသွားနိုင်ပါမှ ဝိညာဏဉ္စာယတနစျာန်စိတ်က ဥပါဒ်-ဌီ-ဘင်အားဖြင့် ပြည့်ပြည့်စုံစုံ ဖြစ်ပေါ်လာနိုင်မည်ဖြစ်သည်။ အာကာသာနဉ္စာယတနစျာန်ဝိညာဏ် (= စိတ်)ကို ယခုကဲ့သို့ ကျော်လွှား လွန်မြောက်သွားခဲ့လျှင် ယင်းစျာန်စိတ်ကလည်း ကသိုဏ်းကို ခွာ၍ ရရှိလာသည့် အာကာသနိမိတ်ကိုသာ သိနေသည် ဖြစ်ရကား ယင်းအာကာသကို သိနေသည့် စျာန်စိတ်ကို ကျော်လွှားလွန်မြောက်သွားပါက ယင်းအာကာသနိမိတ်ကို သိမှုသဘောလည်း မရှိတော့သဖြင့် တစ်ပါတည်း ယင်းအာကာသနိမိတ်အာရုံကိုပါ ကျော်လွှားလွန်မြောက်သွားသည်ဟု ဆိုရပေသည်။ ယင်းကဲ့သို့ စျာန်စိတ်နှင့် စျာန်၏အာရုံ နှစ်ပါးစုံကို ကျော်လွှားလွန်မြောက်သွားသော်လည်း ချုပ်ဆုံး လေပြီးသော အတိတ်ဖြစ်သော ထိုအာကာသာနဉ္စာယတနဝိညာဏ်ကို ဝိညာဏဉ္စာယတနစျာန်ဝိညာဏ်စိတ်က တစ်ဖန် ပြန်၍ အာရုံပြုနိုင်သည် သိနိုင်သည်ဟု မှတ်ပါလေ။[၃၅၈]

---

[၃၅၅] သဗ္ဗသော အာကာသာနဉ္စာယတနံ သမတိက္ကမ္မ "အနန္တံ ဝိညာဏ"န္တိ ဝိညာဏဉ္စာယတနံ ဥပသမ္ပဇ္ဇ ဝိဟရတိ။ (အဘိ၊၂၊၂၅၄။ ဒီ၊၂၊၆၀။)

[၃၅၆] (အဘိ၊၂၊၂၅၄။ ဒီ၊၂၊၆၀။ ဝိသုဒ္ဓိ၊၁၊၃၂၅။) [၃၅၇] (ဝိသုဒ္ဓိ၊၁၊၃၂၅-၃၂၆။) [၃၅၈] (မ၊၃၊၇၈၊ စာပိုဒ်၊၉၅ အနုပဒသုတ္တန်-တွင် ကြည့်ပါ။)

## အနန္တံ ဝိညာဏံ

အာကာသာနဉ္စာယတနဝိညာဏ်သည် အဆုံးအပိုင်းအခြား မရှိသည့် အနန္တဖြစ်သော ကောင်းကင်ပညတ် = အာကာသနိမိတ်ကို အာရုံပြု၏။ ထိုအကြောင်းအာရုံ၏ အနန္တဟူသောအမည်ကို အကျိုးဖြစ်သော အာရုံယူတတ်သည့် အာရမ္မဏိကဝိညာဏ်အပေါ်၌ တင်စား၍ ကာရဏူပစာရအားဖြင့် (တစ်နည်း ဖလူပစာရအားဖြင့်) အာကာသာနဉ္စာယတနဝိညာဏ်ကိုပင် အနန္တံ ဝိညာဏံဟု ဆိုသည်။ ဝိညာဏဉ္စာယတနစျာန်ကို အလိုရှိသော ယောဂါဝစရပုဂ္ဂိုလ်သည် ထိုအာကာသာနဉ္စာယတနဝိညာဏ်ကိုပင် "အနန္တံ ဝိညာဏံ"ဟု နှလုံးသွင်းရ၏ဟု ဆိုလိုသည်။ ဤနည်းအလို — အနန္တံ ဝိညာဏံ = အနန္တမည်သော ဉပါဒ်-ဘင်အားဖြင့် အပိုင်းအခြား မရှိသော ကောင်းကင်ပညတ်ကို (= အာကာသနိမိတ်)ကို အာရုံပြုသော ဝိညာဏ် = အာကာသာနဉ္စာယတနဝိညာဏ်ဟု ဆိုလိုသည်။

တစ်နည်း — ဝိညာဏဉ္စာယတနစျာန်ကို ရရှိအောင် အားထုတ်သော ဘာဝနာစိတ်သည် အာကာသာနဉ္စာယတနဝိညာဏ်ကို အာရုံပြုသည့်အခါ ဉပါဒ်ကို ပိုင်းခြား၍ဖြစ်စေ, ဌီကို ပိုင်းခြား၍ဖြစ်စေ, ဘင်ကို ပိုင်းခြား၍ဖြစ်စေ အာရုံပြုသည်ကား မဟုတ်၊ အဟုတ်သော်ကား အပိုင်းအခြား မထားဘဲ အာကာသာနဉ္စာယတနဝိညာဏ်တစ်ခုလုံးကိုပင် အာရုံပြုသည်။ ဤသို့ အာရုံယူတတ်သော အာရမ္မဏိကဘာဝနာစိတ်က အထူးသဖြင့် ဝိညာဏဉ္စာယတန ဘာဝနာစိတ်က အနန္တဖြစ်အောင် = အပိုင်းအခြား မရှိအောင် အာရုံပြုအပ်သောကြောင့် အစွန်းအစ ဘင်မျှမကျန် အချင်းခပ်သိမ်း အလုံးစုံသော အာကာသာနဉ္စာယတနဝိညာဏ်ကို နှလုံးသွင်းရသည်၏ အစွမ်းဖြင့် ယင်းအာကာသာနဉ္စာယတနဝိညာဏ်ကို အနန္တံ ဝိညာဏံဟု ဆိုသည်။ ဤနည်းအလို — အနန္တံ ဝိညာဏံ = အပိုင်းအခြား မရှိဘဲ အာရုံပြုအပ်သော အာကာသာနဉ္စာယတနဝိညာဏ်ဟု ဆိုလိုသည်။[၃၅၉]

## အာကိဉ္စညာယတနစျာန်

အာကိဉ္စညာယတနစျာန်ဟူသည် အာကာသာနဉ္စာယတနစျာန်၏ မရှိခြင်း = နတ္ထိဘာဝပညတ်လျှင် တည်ရာ အာရုံရှိသော စျာန်ဟု ဆိုလိုသည်။ အာကိဉ္စညာယတနစျာန်ကို ရရှိအောင် ပွားများအားထုတ်လိုသော ယောဂါဝစရပုဂ္ဂိုလ်သည် ဝိညာဏဉ္စာယတနစျာန်သမာပတ်၌ ဝသီဘော်ငါးတန် နိုင်နင်းအောင် လေ့ကျင့်အပ်၏။ ဝသီဘော်ငါးတန် နိုင်နင်းအောင် လေ့ကျင့်ပြီးသော ယောဂါဝစရပုဂ္ဂိုလ်သည် ဤသို့ ဆင်ခြင်အပ်၏။ —

၁။ ဤ ငါရရှိထားသော ဝိညာဏဉ္စာယတနစျာန်သမာပတ်သည် အာကာသာနဉ္စာယတနစျာန်ဟူသော နီးကပ်သော ရန်သူရှိ၏။ (အချိန်မရွေး အာကာသာနဉ္စာယတနစျာန်သို့ ပြန်လည်ကာ လျောကျနိုင်၏ဟု ဆိုလိုသည်။)

၂။ အာကိဉ္စညာယတနစျာန်ကဲ့သို့ ငြိမ်သက်သည်လည်း မဟုတ်ခဲ့။ ဤသို့လျှင် ဝိညာဏဉ္စာယတနစျာန်၌ အပြစ်ကို မြင်အောင် ရှု၍,

၃။ ထိုဝိညာဏဉ္စာယတနစျာန်၌ တွယ်တာငဲ့ကွက် တသက်သက် ရှိခြင်း = နိကန္တိကို ကုန်စေ၍,

၄။ အာကိဉ္စညာယတနစျာန်ကို ငြိမ်သက်သောအားဖြင့် နှလုံးသွင်း၍,

၅။ အကြင် အာကာသာနဉ္စာယတနစျာန်ဝိညာဏ်ကို အာရုံပြု၍ ဝိညာဏဉ္စာယတနစျာန်သည် ဖြစ်ပေါ်လာရ၏၊ ထိုဝိညာဏဉ္စာယတနစျာန်၏ပင်လျှင် အာရုံဖြစ်၍ဖြစ်သော အာကာသာနဉ္စာယတနဝိညာဏ်၏ မရှိခြင်းဟူသော နတ္ထိဘာဝပညတ်ကို, ဆိတ်သည်၏ အဖြစ်ကို, ကင်းသော အခြင်းအရာကို နှလုံးသွင်းအပ်၏။[၃၆၀]

---

[၃၅၉] (ဝိသုဒ္ဓိ၊၁၊၃၂၆-ကြည့်ပါ။)

[၃၆၀] **မှတ်ချက်** — အထက်တွင် ရှင်းပြခဲ့သည့်အတိုင်း စိတ်တို့မည်သည် စိတ္တက္ခဏတစ်ခုအတွင်းဝယ် နှစ်ခုပြိုင်တူ ဖြစ်ရိုးဓမ္မတာ မရှိသောကြောင့် အာကာသာနဉ္စာယတနဝိညာဏ်က ဉပါဒ်-ဌီ-ဘင်အားဖြင့် ထင်ရှားဖြစ်နေချိန်ဝယ် ဝိညာဏဉ္စာယတနစျာန်ဝိညာဏ်ကား ဉပါဒ်-ဌီ-ဘင်အားဖြင့် ထင်ရှားမဖြစ်သေးပေ။ တစ်ဖန် ဝိညာဏဉ္စာယတနစျာန်ဝိညာဏ်က ဉပါဒ်-ဌီ-ဘင်အားဖြင့် ထင်ရှားဖြစ်နေချိန်ဝယ် အာကာသာနဉ္စာယတနစျာန်ဝိညာဏ်ကား ဉပါဒ်-ဌီ-ဘင်အားဖြင့် ထင်ရှား မဖြစ်တော့ပြီ ဖြစ်၏။ ယင်းဝိညာဏ်၏ ယင်းကဲ့သို့ ဉပါဒ်-ဌီ-ဘင်အားဖြင့် ထင်ရှားမရှိမှုသဘောကို နတ္ထိဘာဝပညတ်ဟု ဆိုသည်။ ယင်းနတ္ထိဘာဝပညတ်ကို နှလုံးသွင်းရမည် ဖြစ်သည်။

အဘယ်သို့ နှလုံးသွင်းအပ်သနည်း? ထိုအာကာသာနဉ္စာယတနစျာန်ဝိညာဏ်ကို အချင်းခပ်သိမ်း နှလုံးမသွင်းမူ၍ ထိုအာကာသာနဉ္စာယတနဝိညာဏ်၏ မရှိခြင်းသဘော နတ္ထိဘာဝပညတ်ကိုသာ အာရုံပြု၍ . .

၁။ **နတ္ထိ – နတ္ထိ** = **မရှိ – မရှိ**ဟူ၍လည်းကောင်း,

= **နတ္ထိ ကိဉ္စိ – နတ္ထိ ကိဉ္စိ** = **ဘာမျှမရှိ ဘာမျှမရှိ**ဟူ၍လည်းကောင်း,

၂။ **သုညံ – သုညံ** = **ဆိတ်၏ – ဆိတ်၏**ဟူ၍လည်းကောင်း,

၃။ **ဝိဝိတ္တံ – ဝိဝိတ္တံ** = **ကင်း၏ – ကင်း၏**ဟူ၍လည်းကောင်း —

အဖန်ဖန် အထပ်ထပ် ဆင်ခြင်အပ်၏၊ နှလုံးသွင်းအပ်၏၊ ဉာဏ်ဖြင့် သက်ဝင်၍ ရှုအပ်၏။ ဝိတက်ဖြင့် "နတ္ထိ ကိဉ္စိ - နတ္ထိ ကိဉ္စိ = ဘာမျှမရှိ ဘာမျှမရှိ"ဟု ရှေးရှုခေါက်သည်ကို ထက်ဝန်းကျင် လှည့်လည်၍ ခေါက်သည်ကို ပြုအပ်၏။[၃၆၁]

ဤဆိုအပ်ခဲ့ပြီးသည့်နည်းအတိုင်း ထိုအာကာသာနဉ္စာယတနဝိညာဏ်၏ မရှိခြင်း နတ္ထိဘာဝပညတ်ဟု ဆိုအပ်သော စျာန်ဖြစ်ကြောင်းနိမိတ်၌ ဘာဝနာစိတ်ကို ဖြစ်စေသော ထိုယောဂါဝစရပုဂ္ဂိုလ်၏ သန္တာန်ဝယ် နီဝရဏ ကိလေသာအညစ်အကြေးတို့သည် ကွာကျသွားကြကုန်၏။ အာကာသာနဉ္စာယတနဝိညာဏ်၏ မရှိခြင်း နတ္ထိဘာဝပညတ်လျှင် တည်ရာအာရုံရှိသော သတိသည် ကောင်းစွာ တည်လာ၏။ ဥပစာရစျာန်သမာဓိဖြင့် ဘာဝနာစိတ်သည် ကောင်းစွာ တည်ကြည်လာ၏။ ထိုယောဂါဝစရပုဂ္ဂိုလ်သည် ထိုအာကာသာနဉ္စာယတနဝိညာဏ်၏ မရှိခြင်း နတ္ထိဘာဝပညတ်ဟု ဆိုအပ်သော စျာန်ဖြစ်ကြောင်းနိမိတ်ကို အဖန်တလဲလဲ မှီဝဲ၏ ပွားများ၏ ကြိမ်ဖန်များစွာ အလေ့အလာပြု၏။ ဤသို့သောနည်းဖြင့် ပြုကျင့်သော ထိုယောဂါဝစရပုဂ္ဂိုလ်၏ သန္တာန်၌ ပထဝီကသိုဏ်းကို ခွာ၍ ရအပ်သော အာကာသနိမိတ်ကို ပုံ့နှံ၍ ဖြစ်ပေါ်လာသော ထိုမဟဂ္ဂုတ် အာကာသာနဉ္စာယတနဝိညာဏ်၏ သာလျှင် ဆိတ်သည်၏အဖြစ်, ကင်းသည်၏အဖြစ်, မရှိသည်၏အဖြစ်ဟူသော နတ္ထိဘာဝပညတ်၌ အာကိဉ္စညာယတနစျာန်စိတ်သည် အပ္ပနာစျာန်၏ အစွမ်းဖြင့် ဖြစ်ပေါ်လာ၏။ အာကာသနိမိတ်၌ ပုံ့နှံ၍ဖြစ်သော အာကာသာနဉ္စာယတနဝိညာဏ်နိမိတ်ကို အာရုံပြု၍ ဝိညာဏဉ္စာယတနဝိညာဏ်သည် ဖြစ်ပေါ်လာသကဲ့သို့ပင်တည်း။[၃၆၂]

## မှတ်သားစေလိုသော ထူးခြားချက်

ဤဆိုလတ္တံ့သည်ကား အထူးတည်း။ ထိုအာကာသာနဉ္စာယတနဝိညာဏ်၏ မရှိခြင်းဟူသော နတ္ထိဘာဝပညတ် အာရုံ၌ အာကိဉ္စညာယတနစျာန်စိတ်သည် ဖြစ်ပေါ်လာသည်ရှိသော် ထိုယောဂါဝစရပုဂ္ဂိုလ်သည် အာကာသာနဉ္စာယတနဝိညာဏ်၏ မရှိခြင်းဟူသော နတ္ထိဘာဝပညတ်ကိုသာလျှင် ရှုလျက်နေ၏။

နှိုင်းခိုင်းဖွယ်ရာ လောကဥပမာ မည်သည်ကား — ယောက်ျား တစ်ယောက်သည် စည်းဝေးညီမူရာ တန်ဆောင်းဝန်းစသည်တို့၌ တစ်စုံတစ်ခုသော ပြုဖွယ်ကိစ္စကြောင့် စည်းဝေးညီမူနေသော ရဟန်းသံဃာတော်ကို ဖူးမြော်ပြီးနောက် တစ်ခုသော အရပ်ဒေသသို့ ထွက်ခွာသွား၏။ တစ်ဖန် ရဟန်းသံဃာတော်များ၏ စည်းဝေးညီမူရာ တန်ဆောင်းဝန်းသို့ ပြန်လာပြန်၏။ စည်းဝေးခြင်းကိစ္စ၏ ပြီးဆုံးသောအခါ၌ ရဟန်းတော်တို့သည် မိမိတို့ စည်းဝေး ညီမူရာအရပ်မှ ထကုန်၍ ယင်းနေရာမှ ဖဲခွာသွားကြကုန်သည်ရှိသော်, ထိုယောက်ျားသည် ထိုစည်းဝေးညီမူရာအရပ်သို့ ဆိုက်ရောက်လာ၍ တံခါးဝ၌ ရပ်လျက် တစ်ဖန် ထိုစည်းဝေးညီမူရာအရပ်ကို ကြည့်လိုက်သည်ရှိသော် ရဟန်းတို့မှ ဆိတ်သည်ကိုသာလျှင် မြင်သကဲ့သို့ ရဟန်းတို့မှ ကင်းသည်ကိုသာလျှင် မြင်သကဲ့သို့, ထိုယောက်ျား၏ သန္တာန်၌ ဤမျှလောက်ကုန်သော ရဟန်းတော်တို့သည် သေမူလည်း သေလေကုန်သလော၊ အရပ်တစ်ပါးသို့မူလည်း သွားလေကုန် သလောဟု ဤသို့သော ကြံယောင်ကြံမှား အခြားသောစိတ်သည် မဖြစ်သကဲ့သို့ — တကယ်စင်စစ်သော်ကား ဤစည်းဝေး ညီမူရာအရပ်သည် ရဟန်းတို့မှ ဆိတ်၏၊ ရဟန်းတို့မှ ကင်း၏ဟု မရှိသည်၏ အဖြစ်ကိုသာလျှင် ရှုသကဲ့သို့ — ဤဥပမာအတူပင်လျှင် ရှေး၌ ဩဒါတကသိုဏ်းကို ခွာ၍ ရရှိလာသော အာကာသနိမိတ်၌ ဖြစ်စေအပ်ပြီးသော အာကာသာနဉ္စာယတနဝိညာဏ်ကို ဝိညာဏဉ္စာယတနစျာန်စက္ခုဖြင့် ဝိညာဏံ - ဝိညာဏံဟု ရှုလျက်နေပြီး၍

---

[၃၆၁] (ဝိသုဒ္ဓိ၊၁၊၃၂၆-၃၂၇။) [၃၆၂] (ဝိသုဒ္ဓိ၊၁၊၃၂၇။)

နောက်ကာလရောက်ရှိလာပါမှ ထိုအာကာသာနဉ္စာယတနဝိညာဏ်၏ မရှိခြင်းသဘော = နတ္ထိဘာဝပညတ်ကို အာရုံယူ၍ နတ္ထိ နတ္ထိ, သုညံ သုညံ, ဝိဝိတ္တံ ဝိဝိတ္တံ - ဟူသော ပရိကမ်ဖြစ်သော နှလုံးသွင်းခြင်း မနသိကာရဖြင့် ထိုအာကာသာနဉ္စာယတနဝိညာဏ်သည် ကွယ်ပျောက်သည်ရှိသော် ထိုအာကာသာနဉ္စာယတနဝိညာဏ်၏ ကင်းခြင်း ပျောက်ခြင်းဟု ဆိုအပ်သော မရှိခြင်း နတ္ထိဘာဝပညတ်ကိုသာလျှင် ဘာဝနာစိတ်ဖြင့် အဖန်ဖန် ရှုလျက်နေ၏။[၃၆၃]

## နတ္ထိ – နတ္ထိ, သုညံ – သုညံ, ဝိဝိတ္တံ – ဝိဝိတ္တံ

**“နတ္ထိ – နတ္ထိ, သုညံ – သုညံ, ဝိဝိတ္တံ – ဝိဝိတ္တံ**ဟူသော ပရိကမ်ဖြစ်သော နှလုံးသွင်းခြင်း မနသိကာရဖြင့် ထိုအာကာသာနဉ္စာယတနဝိညာဏ်သည် ကွယ်ပျောက်သည်ရှိသော်”ဟူသော ဤစကားရပ်ဖြင့် ထိုအာကာသာနဉ္စာယတနဝိညာဏ်ကို အာရုံပြုခြင်း၏ မရှိခြင်းကြောင့် ထိုအာကာသာနဉ္စာယတနဝိညာဏ်၏ ကွယ်ပျောက်ခြင်းသည် ဖြစ်ပေါ်လာ၏။ ပျက်စီးသွားသည်၏ အဖြစ်ကြောင့် ကွယ်ပျောက်သွားသည်ကား မဟုတ်ပေ။ (ဆိုလိုသည်မှာ — ဝိညာဏဉ္စာယတနဝိညာဏ်သည် အာကာသာနဉ္စာယတနဝိညာဏ်ကို အာရုံပြုနေ၏ နှလုံးသွင်းနေ၏။ ထိုကြောင့် ဝိညာဏဉ္စာယတနဝိညာဏ် ဖြစ်ပေါ်နေခိုက်၌ ယင်းအာကာသာနဉ္စာယတနဝိညာဏ်သည် အာရုံအဖြစ် ရပ်တည်ကာ ကျေးဇူးပြုပေးနေသဖြင့် အာရုံအကြောင်းတရားအဖြစ်ဖြင့် ထင်ရှားရှိနေ၏။ သို့သော် ဤအာကိဉ္စညာယတနစျာန်-ဝိညာဏ်ကား ယင်းအာကာသာနဉ္စာယတနဝိညာဏ်ကို လုံးအာရုံမယူပေ၊ နှလုံးမသွင်းပေ။ ယင်းအာကာသာနဉ္စာယတနဝိညာဏ်၏ မရှိမှုသဘောကိုသာ = နတ္ထိဘာဝပညတ်ကိုသာ အာရုံပြုနေ၏ နှလုံးသွင်းနေ၏။ ထို့ကြောင့် အာကိဉ္စညာယတနဝိညာဏ်က ထိုအာကာသာနဉ္စာယတနဝိညာဏ်ကို အာရုံပြုခြင်း၏ မရှိခြင်းကြောင့် = အာရုံမပြုခြင်းကြောင့်, နှလုံးမသွင်းခြင်းကြောင့်, ယင်းအာကာသာနဉ္စာယတနဝိညာဏ်၏ မရှိမှုသဘောကိုသာ အာရုံပြုနေခြင်းကြောင့် နှလုံးသွင်းနေခြင်းကြောင့် ထိုအာကာသာနဉ္စာယတနဝိညာဏ်၏ ကွယ်ပျောက်ခြင်းသည် ဖြစ်ပေါ်လာရ၏၊ ပျက်စီးသွားသည်၏အဖြစ်ကြောင့် ကွယ်ပျောက်သွားသည်ကား မဟုတ်ဟု ဆိုလိုပေသည်။)

## နှိုင်းခိုင်းဖွယ်ရာ လောကဥပမာကို နှီးနှောပြခြင်း

ထိုအထက်တွင် တင်ပြထားသော ဥပမာစကားရပ်၌ ဤဆိုလတ္တံ့သည်ကား ဥပမာ ဥပမေယျ နှီးနှောခြင်းတည်း။ ထိုယောက်ျားသည် ထိုတန်ဆောင်းဝန်းအစရှိသော အရပ်၌ စည်းဝေးညီမူနေသော ရဟန်းသံဃာတော်အပေါင်းကို ဖူးမြင်ပြီးနောက် အရပ်တစ်ပါးသို့ ဖဲခွာသွားလေ၏။ ထိုနောင်မှ ရဟန်းသံဃာတော်အားလုံးတို့သည် တစ်စုံတစ်ခုသာလျှင် ဖြစ်သော ပြုဖွယ်ကိစ္စဖြင့် ယင်း တန်ဆောင်းဝန်းမှ ဖဲခွာသွားကြကုန်သည်ရှိသော် ထိုယောက်ျားသည် တစ်ဖန် ပြန်လာ၍ ယင်းတန်ဆောင်းဝန်းကို ကြည့်လေက ထိုစည်းဝေးညီမူရာအရပ်ကို ရဟန်းသံဃာတော်တို့မှ ဆိတ်သုဉ်းသည်ကိုသာလျှင် တွေ့မြင်၏၊ ရဟန်းသံဃာတော်တို့၏ ထိုစည်းဝေးညီမူရာအရပ်မှလည်း ဖဲခွာသွားခြင်း၏ အကြောင်းရင်းကို မရှုသကဲ့သို့ — ဤဥပမာအတူ ဤယောဂါဝစရပုဂ္ဂိုလ်သည် ရှေး၌ ဝိညာဏဉ္စာယတနစျာန်မျက်စိဖြင့် အာကာသာနဉ္စာယတန-စျာန်ဝိညာဏ်ကို ရှု၍ နောက်ကာလ၌ ယင်းအာကာသာနဉ္စာယတနဝိညာဏ်ကိုပင် “နတ္ထိ = မရှိ”ဟူ၍ ပရိကမ်ဟူသော ဘာဝနာမနသိကာရဖြင့် ရှုလေသော် ထိုအာကာသာနဉ္စာယတနဝိညာဏ်သည် ကင်းသွား၏။ ကင်းသည်ရှိသော် တစ်ဖန် အာကိဉ္စညာယတနစျာန်မျက်စိဖြင့် ထိုအာကာသာနဉ္စာယတနဝိညာဏ်၏ မရှိခြင်းဟူသော နတ္ထိဘာဝပညတ်ကိုသာလျှင် ရှုလျက်နေ၏၊ ထိုအာကာသာနဉ္စာယတနဝိညာဏ်၏ ကင်းခြင်း ချုပ်ခြင်း မရှိခြင်း၏ အကြောင်းရင်းကို မစူးစမ်း မဆင်ခြင်။ အဘယ်ကြောင့်နည်းဟူမူ အာကိဉ္စညာယတနစျာန်၏ ထိုသို့သဘောရှိသော ယင်းဝိညာဏ်၏ ကင်းခြင်း ချုပ်ခြင်း မရှိခြင်း၏ အကြောင်းရင်းကို နှလုံးသွင်းခြင်း၏ မရှိခြင်းကြောင့်တည်း။[၃၆၄]

## အာကိဉ္စညာယတနစျာန်သို့ ဆိုက်ပြီ

ဤမျှ အတိုင်းအရှည်ရှိသော စကားအစဉ်ဖြင့် ထိုယောဂါဝစရပုဂ္ဂိုလ်ကို အလုံးစုံသော ဝိညာဏဉ္စာယတန စျာန်ကိုလည်းကောင်း, ထိုဝိညာဏဉ္စာယတနစျာန်၏ တည်ရာအာရုံဖြစ်သော အာကာသာနဉ္စာယတနဝိညာဏ်ကို လည်းကောင်း ကောင်းစွာကျော်လွှားလွန်မြောက်၍ အာကာသာနဉ္စာယတနဝိညာဏ်၏ မရှိခြင်း = နတ္ထိဘာဝပညတ်ကို အာရုံယူ၍ နတ္ထိ -နတ္ထိ, သုညံ - သုညံ, ဝိဝိတ္တံ - ဝိဝိတ္တံဟူ၍ ဤအခြင်းအရာအားဖြင့် နှလုံးသွင်းသည်ဖြစ်၍

[၃၆၃] (ဝိသုဒ္ဓိ၊၁၊၃၂၇။) [၃၆၄] (မဟာဋီ၊၁၊၄၀၂။)

အာကိဉ္စညာယတနစျာန်ကို ပြည့်စုံစေ၍ နေ၏[၃၆၅]ဟူ၍ ဆိုအပ်၏။[၃၆၆]

## ဝိညာဏဉ္စာယတနံ သမတိက္ကမ္မ

ဤဆိုအပ်ခဲ့ပြီးသောနည်းဖြင့် ဝိညာဏဉ္စာယတနစျာန်ကိုလည်းကောင်း, ထိုဝိညာဏဉ္စာယတနစျာန်၏ တည်ရာ အာရုံဖြစ်သော အာကာသာနဉ္စာယတနစျာန်ကိုလည်းကောင်း ဤသို့လျှင် စျာန်နှင့်အာရုံ နှစ်ပါးစုံကိုလည်း မဖြစ်ခြင်းကို ပြုသဖြင့်လည်းကောင်း နှလုံးမသွင်းခြင်းကို ပြုခြင်းဖြင့်လည်းကောင်း ကောင်းစွာ ကျော်လွှားလွန်မြောက်၍ သွားပါမှ-သာလျှင် ဤ အာကိဉ္စညာယတနစျာန်ကို ပြည့်စုံစေ၍ နေသင့်၏။ ထို့ကြောင့် ဤ စျာန်နှင့် အာရုံ နှစ်ပါးစုံကိုလည်း တစ်ပေါင်းတည်းပြု၍ **ဝိညာဏဉ္စာယတနံ သမတိက္ကမ္မ**ဟူသော ဤစကားတော်ကို ဟောကြားထားတော်မူအပ်၏ဟု သိရှိပါလေ။[၃၆၇]

## နတ္ထိ ကိဉ္စိ = ဘာမျှမရှိ

နတ္ထိ - နတ္ထိ, သုညံ - သုညံ, ဝိဝိတ္တံ - ဝိဝိတ္တံဟူ၍ ဤသို့ နှလုံးသွင်းလျက်ဟု ဆိုလို၏။ ဝိဘင်းပါဠိတော်၌ကား "ထိုရှေး၌ အနန္တံ ဝိညာဏံဟု နှလုံးသွင်းအပ်ပြီးသော အာကာသာနဉ္စာယတနဝိညာဏ်ကိုပင်လျှင် မထင်သည်ကို ပြု၏၊ ထင်ခြင်းကို ကင်းပျောက်စေ၏ = ပျောက်ပျက်စေ၏၊ ကွယ်ပျောက်စေ၏၊ အာကာသာနဉ္စာယတနဝိညာဏ်၏ စိုးစဉ်းဘင်မျှ အကျန်သည် မရှိ" ဤသို့ ရှု၏၊ ထို့ကြောင့် "နတ္ထိ ကိဉ္စိ"ဟူ၍ ဆိုအပ်၏။ ဤသို့လျှင် ဟောကြား-ထားတော်မူအပ်သော ထိုစကားကို "ခယတော သမ္မသန"ဟူသော သင်္ခါရတရားတို့၏ အပျက် = ဘင်ကို ရှုတတ်သော ဘင်္ဂါနုပဿနာကဲ့သို့ အကယ်၍ကား ဟောတော်မူအပ်ပါပေ၏။ ထိုသို့ပင် ဟောတော်မူသော်လည်း ထိုဝိဘင်းပါဠိတော်၏ ဆိုလိုရင်းသဘောတရားကို ဤဆိုခဲ့ပြီးသည့်အတိုင်းသာလျှင် မှတ်သားပါ။ ထိုအာကာသာနဉ္စာယတနဝိညာဏ်ကို မဆင်ခြင်မူ၍, နှလုံးမသွင်းမူ၍, ဉာဏ်ဖြင့် သက်ဝင်၍ မရှုမူ၍ သက်သက် ထိုဝိညာဏ်၏ မရှိခြင်းသဘော = နတ္ထိဘာဝပညတ်ကိုသာလျှင် = မရှိသည်၏အဖြစ်ကိုသာလျှင် နှလုံးသွင်းသည်ဖြစ်၍ မထင်သည်ကို ပြု၏၊ ထင်ခြင်းကို ကင်းပျောက်စေ၏၊ ကွယ်ပျောက်စေ၏၊ ဤသို့ ဆိုလို၏။ ဤဆိုအပ်ခဲ့ပြီးသော အနက်အဓိပ္ပာယ်မှ အခြားတစ်ပါးသော အနက်အဓိပ္ပာယ်အားဖြင့် ဤပါဠိတော်၏ အနက်အဓိပ္ပာယ်ကို မမှတ်သားထိုက်ပေ။[၃၆၈]

## အာကိဉ္စညာယတနစျာန်ဟူသည်

ယောဂါဝစရပုဂ္ဂိုလ်သည် အာကာသာနဉ္စာယတနဝိညာဏ်၏ မရှိခြင်းသဘော = နတ္ထိဘာဝပညတ်ကို အာရုံပြု၍ ဤအာကိဉ္စညာယတနစျာန်ကို ရရှိအောင် ကြိုးစားအားထုတ်ရ၏၊ ထိုသို့ အားထုတ်ရာ၌ အရှုခံအာရုံဖြစ်သော အာကာသာနဉ္စာယတနဝိညာဏ်၏ အောက်ထစ်ပိုင်းခြား အယုတ်ဆုံးအားဖြင့် စိုးစဉ်းအနည်းငယ် ဘင်မျှသော်လည်း အကြွင်းအကျန် မရှိသောကြောင့် ယင်းအာကာသာနဉ္စာယတနဝိညာဏ်သည် **အကိဉ္စန** မည်၏။

စိုးစဉ်းအနည်းငယ် ဘင်မျှသော်လည်း အကြွင်းအကျန် မရှိသော အာကာသာနဉ္စာယတနဝိညာဏ်၏ ရှုနေသော ယောဂါဝစရပုဂ္ဂိုလ်၏ ဉာဏ်အား မထင်ဘဲ ကင်းကွာ ပျောက်ကွယ်ခြင်းသဘောသည် **အာကိဉ္စည** မည်၏။

ယင်းမရှိခြင်းသဘောကို နတ္ထိဘာဝဟု ဆို၏။ ထိုမရှိခြင်းသည် ပရမတ် အထည်ကိုယ် မဟုတ်, ပညတ်မျှသာ ဖြစ်သောကြောင့် နတ္ထိဘာဝပညတ် = နတ္ထိဘောပညတ်ဟု ဆိုအပ်၏။ နတ်တို့၏တည်ရာ ဘုံဗိမာန်နေရာသည် ဒေဝါယတနမည်သကဲ့သို့ — ထိုစိုးစဉ်းအနည်းငယ် ဘင်မျှသော်လည်း အကြွင်းအကျန်မရှိသော အာကာသာနဉ္စာ-ယတနဝိညာဏ်၏ မရှိသည်၏ အဖြစ်တည်းဟူသော နတ္ထိဘောပညတ်သည် ထိုတတိယအရူပစျာန် (= အာကိဉ္စညာ-ယတနစျာန်)၏ တည်ရာဖြစ်သောကြောင့် **အာယတန** မည်၏။ ထို့ကြောင့် ယင်းနတ္ထိဘောပညတ်ကို အာရုံပြု၍ ဖြစ်ပေါ်လာသော တတိယ အရူပါဝစရစျာန်သည် **အာကိဉ္စညာယတနစျာန်** မည်၏။[၃၆၉]

---

[၃၆၅] သဗ္ဗသော ဝိညာဏဉ္စာယတနံ သမတိက္ကမ္မ "နတ္ထိ ကိဉ္စီ"တိ အာကိဉ္စညာယတနံ ဥပသမ္ပဇ္ဇ ဝိဟရတိ။ (အဘိ၊၂၊၂၅၄။ ဒီ၊၂၊၆၀)
[၃၆၆] (အဘိ၊၂၊၂၅၄။ ဒီ၊၂၊၆၀။ ဝိသုဒ္ဓိ၊၁၊၃၂၇။) [၃၆၇] (ဝိသုဒ္ဓိ၊၁၊၃၂၈။) [၃၆၈] (ဝိသုဒ္ဓိ၊၁၊၃၂၈။) [၃၆၉] (ဝိသုဒ္ဓိ၊၁၊၃၂၈။)

## နေဝသညာနာသညာယတနစျာန်

ရုန့်ရင်းကြမ်းတမ်းသော သညာကား မရှိ၊ အလွန့်အလွန် သိမ်မွေ့နူးညံ့သော သညာသာ ရှိသောကြောင့် သညာရှိသည်လည်းမဟုတ် မရှိသည်လည်းမဟုတ်သော စျာန်သည် နေဝသညာနာသညာယတနစျာန် မည်၏။ သညာကို အဦးမူသဖြင့် ဒေသနာတော်ကို ဟောကြားထားတော်မူခြင်း ဖြစ်၏။ ယင်းသမာပတ်အတွင်း၌ တည်ရှိကြကုန်သော အသိစိတ်, ဖဿ, ဝေဒနာ, စေတနာစသော (၃၁)မျိုးသော နာမ်တရားစုအားလုံးတို့သည်လည်း အလွန့်အလွန် သိမ်မွေ့ နူးညံ့ကြကုန်၏။ ရုန့်ရင်းကြမ်းတမ်းသော နာမ်တရားကား မရှိ၊ အလွန့်အလွန် သိမ်မွေ့နူးညံ့သော နာမ်တရားစုသာ ယင်းသမာပတ်၌ တည်ရှိသည်။ ထိုကြောင့် ယင်းသမာပတ်ကို **သင်္ခါရာဝသေသသမာပတ်** = အပိုင်းအခြားကို လွန်၍ သိမ်မွေ့သည်၏အဖြစ်သို့ ရောက်လျက် မပြောစလောက် သင်္ခါရမျှသာဖြစ်သော = အသိမ်မွေ့ဆုံးအဖြစ်သို့ရောက်သော သင်္ခါရမျှသာဖြစ်သော = အသိမ်မွေ့ဆုံးအဖြစ်သို့ရောက်သော သင်္ခါရမျှသာ ကြွင်းကျန်သော စတုတ္ထအရူပါဝစရ သမာပတ်ဟု ခေါ်ဆို၏။

## လုပ်ငန်းခွင် အဆင့်ဆင့်

ယင်းနေဝသညာနာသညာယတနစျာန်ကို ရရှိအောင် ပွားများအားထုတ်လိုသော ယောဂါဝစရပုဂ္ဂိုလ်သည် အာကိဉ္စညာယတနစျာန်သမာပတ်၌ ဝသီဘော်ငါးတန်ကို နိုင်နင်းအောင် လေ့ကျင့်ရ၏၊ လေ့ကျင့်ပြီးသော် ဤသို့ ဆင်ခြင်အပ်၏။ —

၁။ ဤ ငါရရှိထားသော အာကိဉ္စညာယတနစျာန်သမာပတ်သည် ဝိညာဏဉ္စာယတနစျာန်သမာပတ်ဟူသော နီးကပ်သော ရန်သူရှိ၏ဟုလည်းကောင်း,

၂။ နေဝသညာနာသညာယတနသမာပတ်ကဲ့သို့ ငြိမ်သက်သည်လည်း မဟုတ်ခဲ့ဟုလည်းကောင်း, "သညာသည် ရောဂါတည်း၊ သညာသည် အိုင်းအမာနှင့် တူ၏၊ သညာသည် မြားငြောင့်နှင့် တူ၏၊ အကြင် နေဝသညာနာသညာသည် ရှိ၏၊ ဤနေဝသညာနာသညာယတနစျာန်သည် ငြိမ်သက်၏၊ ဤနေဝသညာနာသညာယတန စျာန်သည် မွန်မြတ်၏" – ဟုလည်းကောင်း —

ဤသို့လျှင် အာကိဉ္စညာယတနစျာန်၌ အပြစ်ဒေါသကိုလည်းကောင်း, အထက်ဖြစ်သော နေဝသညာနာသညာယတနစျာန်၌ အကျိုးအာနိသင်ကိုလည်းကောင်း မြင်အောင်ရှု၍ —

၃။ အာကိဉ္စညာယတနစျာန်၌ တွယ်တာငဲ့ကွက် တသက်သက်ရှိခြင်း နိကန္တိတရားကို ကုန်ခန်းစေ၍,

၄။ နေဝသညာနာသညာယတနစျာန်ကို ငြိမ်သက်သောအားဖြင့် နှလုံးသွင်း၍,

၅။ အာကာသာနဉ္စာယတနဝိညာဏ်၏ မရှိခြင်းသဘော (= နတ္ထိဘာဝပညတ်)ကို အာရုံပြု၍ ဖြစ်ပေါ်လာသော ထိုအာကိဉ္စညာယတနစျာန်သမာပတ်ကိုပင် အာရုံပြု၍ —

**သန္တာ – သန္တာ = ငြိမ်သက်ပေစွ – ငြိမ်သက်ပေစွ**ဟု အဖန်ဖန် အထပ်ထပ် ဆင်ခြင်အပ်၏၊ နှလုံးသွင်းအပ်၏၊ ဉာဏ်ဖြင့် သက်ဝင်၍ ရှုအပ်၏၊ ဝိတက်ဖြင့် သန္တာ - သန္တာ = ငြိမ်သက်ပေစွ - ငြိမ်သက်ပေစွဟု ရှေးရှုခေါက်သည်ကို, ထက်ဝန်းကျင် လှည့်လည်၍ ခေါက်သည်ကို ပြုအပ်၏။[၃၃၀]

ဤဆိုအပ်ခဲ့ပြီးသည့် နည်းအတိုင်း ထိုအာကိဉ္စညာယတနစျာန်သမာပတ် အာရုံနိမိတ်၌ အဖန်ဖန် အထပ်ထပ် ဘာဝနာမနသိကာရကို ဖြစ်စေသော ယောဂါဝစရပုဂ္ဂိုလ်၏ သန္တာန်၌ နီဝရဏ ကိလေသာအညစ်အကြေးတို့သည် ကွာကျသွားကြကုန်၏၊ အာကိဉ္စညာယတနဝိညာဏ်လျှင် တည်ရာအာရုံရှိသော သတိသည် ကောင်းစွာ တည်လာ၏၊ ဥပစာရစျာန်သမာဓိဖြင့် ဘာဝနာစိတ်သည် ကောင်းစွာ တည်ကြည်လာ၏။

ထိုယောဂါဝစရပုဂ္ဂိုလ်သည် နေဝသညာနာသညာယတနစျာန်ဖြစ်ကြောင်းဖြစ်သည့် ထိုအာကိဉ္စညာယတန စျာန်သမာပတ်နိမိတ်ကို အဖန်တလဲလဲ မှီဝဲ၏, ပွားများ၏, ကြိမ်ဖန်များစွာ အလေ့အလာပြု၏, အဖန်ဖန် အထပ်ထပ်

[၃၃၀] (ဝိသုဒ္ဓိ၊၁၊၃၂၈-၃၂၉။)

အာရုံပြုနေ၏, ယင်းအာရုံ၌ ဘာဝနာစိတ်ကို ငြိမ်ဝပ်စွာ ကပ်တည်နေအောင် သမာဓိကို ထူထောင်၏။ ဤသို့သော နည်းဖြင့် ပြုကျင့်သော ထိုယောဂါဝစရပုဂ္ဂိုလ်၏ သန္တာန်၌ — အာကာသာနဉ္စာယတနဝိညာဏ်၏ ကင်းခြင်း = မရှိခြင်းသဘော = နတ္ထိဘာဝပညတ်အာရုံ၌ အာကိဉ္စညာယတနဈာန်သည် အပ္ပနာ၏ အစွမ်းဖြင့် ဖြစ်ပေါ်လာသကဲ့သို့ အာကိဉ္စညာယတနဈာန်သမာပတ်ဟု ခေါ်ဆိုအပ်ကုန်သော နာမ်ခန္ဓာလေးပါးတို့၌ အာရုံပြု၍ နေဝသညာ-နာသညာယတနဈာန်စိတ်သည် အပ္ပနာ၏အစွမ်းဖြင့် ဖြစ်ပေါ်လာ၏။[၄၄၀]

## နေဝသညာနာသညာယတနဈာန်သို့ ဆိုက်ပြီ

ဤမျှ အတိုင်းအရှည်ရှိသော စကားအစဉ် တရားအယဉ်ဖြင့် ထိုယောဂါဝစရပုဂ္ဂိုလ်ကို အလုံးစုံသော အာကိဉ္စ-ညာယတနဈာန်ကိုလည်းကောင်း, ထိုအာကိဉ္စညာယတနဈာန်၏ တည်ရာအာရုံဖြစ်သော အာကာသာနဉ္စာယတန ဝိညာဏ်၏ မရှိခြင်းသဘောဟူသော နတ္ထိဘာဝပညတ်အာရုံကိုလည်းကောင်း ကောင်းစွာ ကျော်လွှားလွန်မြောက်၍ အာကိဉ္စညာယတနဝိညာဏ်ကိုပင် သန္တာ - သန္တာဟု နှလုံးသွင်းသည်ဖြစ်၍ နေဝသညာနာသညာယတနဈာန်ကို ပြည့်စုံစေ၍နေ၏ဟူ၍ ဆိုအပ်ပေ၏။[၄၄၂]

## အာကိဉ္စညာယတနံ သမတိက္ကမ္မ

ဤ၌ အာကိဉ္စညာယတနဈာန်သည်လည်းကောင်း, အာကိဉ္စနညာယတနဈာန်၏ အာရုံဖြစ်သော နတ္ထိဘာဝ ပညတ်သည်လည်းကောင်း ဤဈာန်နှင့်အာရုံ နှစ်မျိုးစုံသည်ပင် အာကိဉ္စညာယတနမည်၏။ အာကိဉ္စညာယတနဈာန်၏ အာရုံဖြစ်သော နတ္ထိဘာဝပညတ်သည် အထက်တွင် ဆိုခဲ့သည့်အတိုင်း **အာကိဉ္စည**လည်း မည်၏။ ထိုအာကိဉ္စည အမည်ရသော နတ္ထိဘာဝပညတ်အာရုံသည် တတိယအရူပါဝစရဈာန် = အာကိဉ္စညာယတနဈာန်၏ တည်ရာအာရုံ ဖြစ်သောကြောင့် — နတ်တို့၏ တည်ရာ ဘုံဗိမာန်သည် ဒေဝါယတန မည်သကဲ့သို့ — တည်ရာဟူသော အနက်သဘောကြောင့် **အာယတန**လည်း မည်၏။ ထိုကြောင့် နတ္ထိဘာဝပညတ်အာရုံသည် **အာကိဉ္စညာယတန** မည်၏။ ကမ္ဘောဇတိုင်းသည် မြင်းတို့၏ ဖြစ်ထွန်းရာဒေသ အာယတနဖြစ်သကဲ့သို့ အလားတူပင် နတ္ထိဘာဝပညတ်သည် အာကိဉ္စညလည်း ဟုတ်၏၊ ထိုအာကိဉ္စညဟူသည် ထိုတတိယအရူပါဝစရဈာန် = အာကိဉ္စညာယတနဈာန်၏ ဖြစ်ပေါ်လာခြင်း၏ အကြောင်းရင်းစစ် ဖြစ်သောကြောင့် အာယတနလည်း ဟုတ်၏။ ထိုကြောင့်လည်း အာကိဉ္စညာယတန မည်၏။

ဤသို့လျှင် ဈာန်သည်လည်းကောင်း, နတ္ထိဘာဝပညတ်အာရုံသည်လည်းကောင်း — ဤဈာန်နှင့်အာရုံ နှစ်မျိုးလုံးကိုလည်း မဖြစ်ခြင်းကို ပြုသဖြင့်လည်းကောင်း, နှလုံးမသွင်းခြင်းကို ပြုခြင်းဖြင့်လည်းကောင်း ကောင်းစွာ ကျော်လွှားလွန်မြောက်၍ သွားမှသာလျှင် ဤနေဝသညာနာသညာယတနဈာန်ကို ပြည့်စုံစေ၍ နေသင့်၏။ ထိုကြောင့် ဤဈာန်နှင့်အာရုံ နှစ်ပါးစုံကိုလည်း တစ်ပေါင်းတည်းပြု၍ — **အာကိဉ္စညာယတနံ သမတိက္ကမ္မ** — ဟူသော ဤစကားကို ဟောကြားတော်မူအပ်၏ဟု သိရှိပါလေ။[၄၄၄]

## ငြိမ်သက်ပါ၏ မွန်မြတ်ပါ၏

နေဝသညာနာသညာယတနဈာန်ကို ရရှိအောင် ကြိုးစားအားထုတ်ရာ၌ အရှုခံအာရုံဖြစ်သော အာကိဉ္စညာ-ယတနဈာန်ကို . .

၁။ **ဧတံ သန္တံ ဧတံ ပဏီတံ** = **ဤဝိညာဏ်သည် ငြိမ်သက်၏, ဤဝိညာဏ်သည် မွန်မြတ်၏**ဟုလည်းကောင်း,

၂။ **သန္တံ – သန္တံ** = **သန္တာ – သန္တာ** = **ငြိမ်သက်၏ ငြိမ်သက်၏**ဟု လည်းကောင်း,

---

[၄၄၀] (ဝိသုဒ္ဓိ၊၁၊၃၂၉။)

[၄၄၂] ဧတ္တာဝတာ စေသ "သဗ္ဗသော အာကိဉ္စညာယတနံ သမတိက္ကမ္မ နေဝသညာနာသညာယတနံ ဥပသမ္ပဇ္ဇ ဝိဟရတီ"တိ ဝုစ္စတိ။ (အဘိ၊၂၊၂၅၄။ ဒီ၊၂၊၆၀။ ဝိသုဒ္ဓိ၊၁၊၃၂၉။)

[၄၄၄] (ဝိသုဒ္ဓိ၊၁၊၃၂၉။)

ဖြစ်ခြင်းကို ဆက်စပ်မိစေ၏။[၄၈၅]

ပရိကမ္မသမာဓိ ဥပစာရသမာဓိ အပ္ပနာသမာဓိဟူသော သမထဘာဝနာစိတ်, ဝိပဿနာဘာဝနာစိတ်, မဂ်စိတ်, ဖိုလ်စိတ် - ဤမွန်မြတ်သော ပဏီတစိတ်တို့ကြောင့်ဖြစ်သော စိတ္တဇရုပ်များတွင် ပါဝင်သော တေဇောဓာတ် = ဥတုကား ဥတုဇသြဇဋ္ဌမက ရုပ်ကလာပ် အဆက်ဆက်ကို အဇ္ဈတ္တတွင်သာမက ဗဟိဒ္ဓသို့ တိုင်အောင်, သမထဘာဝနာစိတ် ဝိပဿနာဘာဝနာစိတ်တို့နှင့် ယှဉ်တွဲလျက် ရှိသော ဉာဏ်၏အာနုဘော်က ကြီးလျှင် ကြီးသလို, သေးလျှင် သေးသလို, သမာဓိ အားကောင်းလျှင် ကောင်းသလို, အားနည်းလျှင် နည်းသလို ပျံ့နှံ့လျက် အကြိမ်များစွာတို့ပတ်လုံးလည်း ရှေးနှင့်နောက် ဆက်စပ်လျက် အထပ်ထပ် ဖြစ်စေပေသည်။[၄၈၆]

အဆင့်မြင့်နေသော သမထဘာဝနာစိတ် ဝိပဿနာဘာဝနာစိတ်တို့နှင့် မဟဂ္ဂုတ် လောကုတ္တရာစိတ်တို့ကား အလွန်မွန်မြတ်သော ပဏီတစိတ်တို့ ဖြစ်ကြ၏။ ယင်းမွန်မြတ်သော စိတ်တို့၏ စွမ်းအင်ကား ကြီးမားလှ၏။ အထူးသဖြင့် ဈာနသမာပတ္တိဝီထိအတွင်း၌ တည်ရှိကြသော ဈာန်ဇောဖလသမာပတ္တိဝီထိအတွင်း၌ တည်ရှိကြသော ဖိုလ်ဇောတို့ကား နာရီပေါင်းများစွာ ရက်ပေါင်းများစွာသော်လည်း ဖြစ်နိုင်သည့် စွမ်းအားရှိကြ၏။ ယင်းကဲ့သို့ စွမ်းအင်ကြီးမားကြသော မိနစ်ပေါင်းများစွာ နာရီပေါင်းများစွာ အဆက်မပြတ် ဆက်တိုက် ဖြစ်နေကြသော မွန်မြတ်သော စိတ်တို့ကြောင့် ဖြစ်ပေါ်လာကြကုန်သော စိတ္တဇရုပ်တို့သည်လည်း မွန်မြတ်သော ပဏီတစိတ္တဇရုပ်တို့သာ ဖြစ်ကြ၏။ ယင်းစိတ္တဇရုပ်တို့၏ ပြန့်ပြောကြီးကျယ် မွန်မြတ်မှုကြောင့် ယင်းစိတ္တဇရုပ်တို့တွင် ပါဝင်သော တေဇောဓာတ် = ဥတုကြောင့် ဖြစ်သော ရုပ်တို့သည် အဇ္ဈတ္တတွင်သာမက ဗဟိဒ္ဓသို့တိုင်အောင်ပင် ရှေးနှင့်နောက် ဆက်စပ်လျက် အကြိမ်များစွာ အထပ်ထပ် ဖြစ်နေကြပေသည်။[၄၈၇] ထိုသို့ ဖြစ်စေရာ၌လည်း ယင်း တေဇောဓာတ် = ဥတုသည် ရုပ်၏ ဌီကာလသို့ ရောက်ရှိခိုက်၌သာ ဖြစ်စေနိုင်သည်ဟု မှတ်ပါ။[၄၈၈] [၄၈၉]

တစ်ဖန် နောက်တွင် ဆက်လက်ဖော်ပြလတ္တံ့သော အာဟာရဇရုပ်ကလာပ်များတွင်လည်း တေဇောဓာတ် = ဥတုပါဝင်လျက်ပင် ရှိ၏။ ယင်းအာဟာရဇတေဇောဓာတ် = ဥတုကလည်း ရုပ်၏ ဌီကာလသို့ ရောက်ရှိခိုက်ဝယ် အခြားသော ဥတုဇသြဇဋ္ဌမကရုပ်ကို ဖြစ်စေပြန်၏ (သားရပြီ ဟူလို)။

ယင်း သားရင်းဖြစ်သော ဥတုဇရုပ်ကလာပ်တွင် ပါဝင်သော တေဇောဓာတ် = ဥတုကလည်း အခြားသော ဥတုဇသြဇဋ္ဌမကရုပ်ကို ဖြစ်စေပြန်၏ (မြေးရပြန်ပြီ ဟူလို)။ ယင်းမြေးရင်းဖြစ်သော ဥတုဇသြဇဋ္ဌမကရုပ်ကလာပ်တွင် ပါဝင်သော တေဇောဓာတ် = ဥတုကလည်း အခြားသော ဥတုဇသြဇဋ္ဌမကရုပ်ကို ဖြစ်စေပြန်၏ (မြစ်ရပြန်ပြီ ဟူလို)။ ဤသို့သော နည်းဖြင့် (၁၀)ကြိမ် (၁၂)ကြိမ်သော ရုပ်ကလာပ်တို့၏ဖြစ်ခြင်းကို ဆက်စပ်စေ၏။ သို့သော် နတ်သြဇာ စသည်တို့ကဲ့သို့သော မွန်မြတ်သော အာဟာရဇသြဇာ၏ အထောက်အပံ့ကို ရရှိခဲ့ပါမူ ယင်းအာဟာရဇသြဇဋ္ဌမက ရုပ်ကလာပ်တို့တွင် တည်ရှိသော တေဇောဓာတ် = ဥတုသည် ရှည်မြင့်စွာသော ကာလပတ်လုံးသော်လည်း ဥတုဇသြဇဋ္ဌမကရုပ်များကို ဖြစ်စေနိုင်သည်သာတည်း။[၄၉၀] [၄၉၁]

---

[၄၈၅] ဧဝံ ဒွေ တိသ္သော ပဝတ္တိယော ဃဋ္ဋေတိ။ (ဝိသုဒ္ဓိ၊၂၊၂၅၁။)

[၄၈၆] စိတ္တသမုဋ္ဌာနာနံ ပန ဝသေန ဒွတ္တိပ္ပဝတ္တိဃဋ္ဋနံ တံပါကတိကစိတ္တဝသေန၊ မဟဂ္ဂတာနုတ္တရစိတ္တဝသေန ပန ဗဟုတရာပိ ပဝတ္တိယော ဣစ္ဆိတဗ္ဗာ။ တံနိဗ္ဗတ္တာနံ စိတ္တဇရူပါနံ ဥဠာရပဏီတဘာဝတော။ (မဟာဋီ၊၂၊၄၀၃။)

[၄၈၇] (မဟာဋီ၊၂၊၄၀၃။ ၄၂၈-၄၂၉-လည်း ကြည့်ပါ။) [၄၈၈] (မဟာဋီ၊၂၊၄၀၃။)

[၄၈၉] **မှတ်ချက်** — ယင်းစိတ္တဇတေဇောဓာတ် = ဥတုကြောင့်ဖြစ်သော ဥတုဇရုပ်ကလာပ်များတွင် ပါဝင်တည်ရှိသော သြဇာကလည်း ကမ္မဇဝမ်းမီးနှင့် အာဟာရဇသြဇာ၏ အထောက်အပံ့ကို ရရှိပါက အာဟာရဇသြဇဋ္ဌမကရုပ်များကို အဇ္ဈတ္တ၌ ဖြစ်စေနိုင်ပြန်သည်ဟု မှတ်ပါ။

[၄၉၀] အာဟာရပစ္စယဥတုနောပိ ဥတုပစ္စယာဟာရဿ ဝိယ ဒသ ဒွါဒသ ဝါရေ ပဝတ္တိဃဋ္ဋနာ ဝေဒိတဗ္ဗာ။ ဝုတ္တနယတ္တာ န ဥဒ္ဓတန္တိ ဝဒန္တိ။ (မဟာဋီ၊၂၊၄၀၃။)

[၄၉၁] **မှတ်ချက်** — ယင်းဥတုဇသြဇဋ္ဌမကရုပ်တို့တွင် ပါဝင်သော သြဇာကလည်း ကမ္မဇဝမ်းမီးနှင့် အာဟာရဇသြဇာ၏ အထောက်အပံ့ကို ရရှိပါက အခြားသော အာဟာရဇသြဇဋ္ဌမကရုပ်များကို ရုပ်၏ ဌီကာလသို့ ရောက်ခိုက်၌ အဇ္ဈတ္တသန္တာန်ဝယ် ဖြစ်စေသည်သာဟု မှတ်ပါ။

## အစာအိမ်တွင်ရှိသော အစာသစ်ကောဋ္ဌာသမှ အာဟာရဇရုပ်များ စတင်ဖြစ်ပေါ်လာပုံ ဇယား



**ကမ္မဇရုပ်ကလာပ်အတွင်း၌ တည်ရှိသော တေဇောနှင့် ဩဇာမှ ဥတုဇရုပ်နှင့် အာဟာရဇရုပ်များ (၄-၅) ကြိမ်တိုင်အောင် နှစ်ခွ နှစ်ခွ ပွားပုံ ဇယား**




**မှတ်ချက်** —စိတ္တဇ-, ဥတုဇ-, အာဟာရဇ-ရုပ်ကလာပ်အတွင်း၌ တည်ရှိသော တေဇောနှင့် ဩဇာမှ ဥတုဇရုပ်နှင့် အာဟာရဇရုပ်များ နှစ်ခွ နှစ်ခွ ပွားပုံကိုလည်း နည်းတူသဘောပေါက်ပါ။

## အာဟာရဇရုပ် ရှုပုံ

ကမ္မဇရုပ်ကလာပ်, စိတ္တဇရုပ်ကလာပ်, ဥတုဇရုပ်ကလာပ်, အာဟာရဇရုပ်ကလာပ်ဟူသော ရုပ်ကလာပ် အသီးအသီး၌ ပါဝင်တည်ရှိသော ဩဇာသည် အာဟာရ မည်၏။ ထိုသို့ စတုသမုဋ္ဌာန်ရုပ်တို့၌ ပါဝင်သော ဩဇာ အသီးအသီးသည် အာဟာရမည်ပါသော်လည်း ထိုစတုသမုဋ္ဌာန်ဩဇာဟူသော အာဟာရသည် ထမင်းလုတ်စသည့် စားဖွယ် ခဲဖွယ် သောက်ဖွယ် လျက်ဖွယ်ကို အလုတ်အလွေးပြုလုပ်၍ ရေးရှု ဆောင်ယူအပ် စားမျိုအပ်သည် ဖြစ်မှသာလျှင် အာဟာရဇရုပ်ကို ဖြစ်စေခြင်းဖြင့် အာဟာရကိစ္စကို ပြုလုပ်ပေးနိုင်၏။ ယင်းထမင်းလုတ် စသည့် စားဖွယ် ခဲဖွယ် သောက်ဖွယ် လျက်ဖွယ်သည် ခန္ဓာကိုယ်ပြင်ပ ဗဟိဒ္ဓ တစ်နေရာ၌ တည်နေသည် ဖြစ်လတ်သော် ယင်းစတုသမုဋ္ဌာန် ဩဇာသည် အာဟာရဇရုပ်ကို ဖြစ်စေခြင်းဟူသော အာဟာရကိစ္စကို ပြုလုပ် မပေးနိုင်။ ထိုကြောင့် "အာဟာရော" ဟူ၍သာ မဟောမူ၍ **ကဗဠီကာရော အာဟာရော**ဟု ပဋ္ဌာန်းပါဠိတော်[၄၉၂]၌ ဘုရားရှင်သည် ဟောကြားထားတော် မူပေသည်။

တစ်နည်း — အလုတ်အလွေး မပြုအပ်သော်လည်း ပြုအပ်သကဲ့သို့ စားမျိုထိုက်သော အစာ (= အာဟာရ) ဟူသော တည်ရာဝတ္ထုရှိသောကြောင့် ယင်းအာဟာရ၏ အထောက်အပံ့ကို ရရှိပါမှ အာဟာရဇရုပ်ကို ဖြစ်စေခြင်းဟူသော အာဟာရကိစ္စကို ရွက်ဆောင်နိုင်သောကြောင့် ထိုကဗဠီကာရအာဟာရဟူသော ဤအမည်သည် ထိုစတုသမုဋ္ဌာနိက ဩဇာ၏ အမည် ဖြစ်သည်။ ဆိုလိုသည်မှာ ဤသို့ ဖြစ်၏။ ကဗဠီကာရအာဟာရဟူသော ဤအမည်သည် စားမျိုထိုက်သော အစာဟူသော တည်ရာရှိသော စတုသမုဋ္ဌာနိကဩဇာတည်း။ ထိုစတုသမုဋ္ဌာနိကဩဇာဟူသော အာဟာရက အလုတ် အလွေးပြု၍ စားမျိုအပ်သော အစာ၌ တည်သောကြောင့် တည်ရာဖြစ်သော အစာ၏ ကဗဠီကာရအာဟာရဟူသော အမည်ကို တည်တတ်သော စတုသမုဋ္ဌာနိကဩဇာ၌ တင်စား၍ စတုသမုဋ္ဌာနိကဩဇာဟူသော အာဟာရကိုလည်း ဌာနူပစာရအားဖြင့် ကဗဠီကာရအာဟာရဟု ခေါ်ဆိုထားသည် ဟူလို။[၄၉၃]

ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ[၄၉၄]၏ ဖွင့်ဆိုချက်နှင့် အညီ (၁) အစာသစ်, (၂) အစာဟောင်း, (၃) ပြည်, (၄) ကျင်ငယ် ဤကောဋ္ဌာသ (၄)မျိုးတို့ကား ဥတုကြောင့်ဖြစ်သော ဥတုသမုဋ္ဌာန်ရုပ် = ဥတုဇဩဇဋ္ဌမကရုပ်တို့၏ အပေါင်းအစု သာတည်း။ ယင်းကောဋ္ဌာသတို့၌ တည်ရှိသော ဓာတ်ကြီး (၄)ပါးတို့ကို ဉာဏ်ဖြင့် ပိုင်းခြားယူကာ စိုက်ရှုလိုက်ခဲ့သော် ယင်းကောဋ္ဌာသတို့မှာ ရုပ်ကလာပ်တို့၏ အပေါင်းအစုသာ ဖြစ်သည်ကို တွေ့ရှိနိုင်၏။ ယင်းရုပ်ကလာပ်တိုင်းတွင် ရုပ်သဘောတရား (၈)မျိုးစီရှိရာ တေဇောဓာတ် ဥတုလည်း ပါဝင်၏။ ယင်းတေဇောဓာတ် ဥတုကြောင့် ရုပ်ကလာပ်များ ရှေးနှင့်နောက် ဆက်စပ်လျက် အထပ်ထပ် ဖြစ်နေကြပေသည်။

ထို့ကြောင့် စားမျိုထိုက်သော အစာဟူသည် . . ဥတုဇဩဇဋ္ဌမကရုပ်တို့၏ အပေါင်းအစုမျှသာတည်း။ ယင်းဥတုဇရုပ်တို့၌ တည်သော ဩဇာကား အာဟာရတည်း။ ယင်းအာဟာရသည် မိမိချည်းသက်သက် = ဩဇာချည်း သက်သက် အခြား ကလာပ်တူရုပ်တို့ မပါဘဲ ဝါးမျို စားမျို၍ ရထိုက်သော တရားကား မဟုတ်ပေ။ အခြား ကလာပ်တူ

---

[၄၉၂] (ပဋ္ဌာန၊၁၊၇။)

[၄၉၃] တတ္ထ **အာဟာရော** နာမ ကဗဠီကာရော အာဟာရော။ (ဝိသုဒ္ဓိ၊၂၊၅၁။)

**ကဗဠီကာရော အာဟာရော**တိ စတုသန္တတိသမုဋ္ဌာနေ ရူပေ ဩဇာ အာဟာရော နာမ။ သော ပန ယသ္မာ ကဗဠံ ကရိတွာ အဇ္ဈောဟရိတောဝ အာဟာရကိစ္စံ ကရောတိ၊ န ဗဟိ ဌိတော၊ တသ္မာ အာဟာရောတိ အဝတွာ "ကဗဠီကာရော အာဟာရော"တိ ဝုတ္တံ။ ကဗဠံ ကရိတွာ အဇ္ဈောဟရိတဗ္ဗဝတ္ထုကတ္တာ ဝါ ကဗဠီကာရောတိ နာမမေတံ တဿ။ (အဘိဋ္ဌ၊၃၊၃၇၇။)

**ကဗဠံ ကရိတွာ အဇ္ဈောဟရိတောဝ**ါတိ အသိတပီတာဒိဝတ္ထုံပိ သဟ အဇ္ဈောဟရိတောဝါတိ ဝုတ္တံ ဟောတိ။ ပါတဗ္ဗ-သာယိတဗ္ဗာနိပိ ဟိ သဘာဝဝသေန ကဗဠာယေဝ ဟောန္တီတိ။ (မူလဋီ၊၃၊၁၉၀။)

ကေဝလာယ ဩဇာယ အဇ္ဈောဟရဏဿ အဘာဝါ **"အသိတပီတာဒိ ဝတ္ထုံပိ သဟ အဇ္ဈောဟရိတောဝါ"**တိ ဝုတ္တံ။ ခါဒနီယဘောဇနီယပ္ပဘေဒေ အသိတေ တာဝ ကဗဠီကာရတာ ဟောတု၊ ပါတဗ္ဗာဒိကေ ပန ကထန္တိ အာဟ **"ပါတဗ္ဗ။ ပ။ ဟောန္တီ"**တိ။ ယေဘုယျဝသေန ဝါ ဧဝံ ဝုတ္တန္တိ ဝေဒိတဗ္ဗံ။ (အနုဋီ၊၃၊၂၅၈။)

[၄၉၄] ဥဒရိယံ ကရီသံ ပုဗ္ဗော မုတ္တန္တိ ဣမေသု စတူသု ဥတုသမုဋ္ဌာနေသု ဥတုသမုဋ္ဌာနသောဇဋ္ဌမကဿ ဝသေန အဋ္ဌ အဋ္ဌ ရူပါနိ ပါကဋ္ဌာနိ ဟောန္တိ။ (ဝိသုဒ္ဓိ၊၂၊၂၃။)

ရုပ်တို့နှင့်တကွ ယင်းဥတုဇသြဇဋ္ဌမကရုပ်တို့၏ များစွာသော အပေါင်းအစုကိုသာ အလုတ်ပြု၍ စားမျိုနိုင်၏။ ထို့ကြောင့် ယင်းသြဇာကို ကဗဠီကာရ-သဒ္ဒါဖြင့် ကူစွက်၍ ကဗဠီကာရအာဟာရဟု ဟောကြားထားတော်မူ၏။ ဤရှင်းလင်းချက်မှာလည်း သမုတိသစ္စာနယ်နှင့် မကင်းသေးသော ရှင်းလင်းချက်သာတည်း။ ထပ်မံ၍ အနည်းငယ် ရှင်းလင်းတင်ပြအပ်ပါသည်။

ယောဂါဝစရပုဂ္ဂိုလ်သည် အစာသစ်ကောဋ္ဌာသကို မစားမီ ပန်းကန် သပိတ်အတွင်း စသည်၌ တည်ရှိခိုက်၌ပင် ဖြစ်စေ, စားပြီး၍ အစာသစ်ကောဋ္ဌာသအဖြစ် အစာအိမ်အတွင်း၌ တည်ရှိခိုက်၌ပင်ဖြစ်စေ, စားခိုက် ဝါးခိုက် ခံတွင်း၌ တည်ရှိခိုက်၌ပင်ဖြစ်စေ ယင်းကောဋ္ဌာသ၌ တည်နေသော ဓာတ်ကြီးလေးပါးကို မြင်အောင် စိုက်ရှုပါ။ ရုပ်ကလာပ် အမှုန်များကိုသာ တွေ့ရှိမည် ဖြစ်၏။ ယင်းရုပ်ကလာပ်တို့ကား သို့မဟုတ် ယင်းရုပ်ကလာပ်တို့၌ တည်ရှိသော ရုပ်တရားတို့ကား ဖြစ်ပြီးသည်နှင့် အလွန် လျင်လျင်မြန်မြန် ဖြစ်သည့်နေရာ၌ပင် ပျက်သွားကြ၏။

အနုဋီကာ[၄၉၅]၏ ဖွင့်ဆိုချက်နှင့်အညီ ရုပ်ပရမတ်တရားတို့ကား ဖြစ်သည့်နေရာ၌သာ ပျက်သွားကြ၏။ တစ်နေရာမှ တစ်နေရာသို့ ပြောင်းနိုင်သည့် စွမ်းအား မရှိကြပေ။ ထို့ကြောင့် သပိတ်အတွင်း ပန်းကန်အတွင်း၌ တည်ရှိကြသော ဥတုဇသြဇဋ္ဌမကရုပ်တို့သည် ပါးစပ်အတွင်းသို့ မရောက် မပြောင်း၊ ပါးစပ်အတွင်း၌ တည်ရှိကြသော ဥတုဇသြဇဋ္ဌမကရုပ်တို့သည်လည်း အစာအိမ်အတွင်းသို့ မပြောင်းနိုင်၊ အစာသစ်ကောဋ္ဌာသအဖြစ်နှင့် ပြောင်းရွှေ့၍ မတည်နိုင်၊ ထိုမျှလောက် ပြောင်းရွှေ့နိုင်လောက်အောင် ပြောင်းရွှေ့၍ တည်နေနိုင်လောက်အောင် သက်တမ်း မရှိကြပေ။ စိတ္တက္ခဏ (၁၇)ချက် သက်တမ်းစေ့သည်နှင့် ချုပ်ပျက်သွားကြ၏။ သို့သော် ယင်းဥတုဇသြဇဋ္ဌမကရုပ်ကလာပ်တိုင်း၌ တေဇောဓာတ် = ဥတု ပါဝင်၏။ ယင်းတေဇောဓာတ် = ဥတုတိုင်းသည် ယေဘုယျအားဖြင့် ရုပ်ကလာပ် အသစ်အသစ်ကို ဖြစ်စေနိုင်သည့် စွမ်းအား ရှိသည်ချည်းပင် ဖြစ်၏။ ယင်းဥတုဇတေဇောဓာတ်၏ ကျေးဇူးပြုပေးမှု အရှိန်အဝါသတ္တိ မကုန်သေးသမျှ ကာလပတ်လုံး ပန်းကန်အတွင်း၌ဖြစ်စေ, သပိတ်အတွင်း၌ဖြစ်စေ, ပါးစပ်အတွင်း၌ ဖြစ်စေ, အစာသစ်အိမ်အတွင်း၌ ဖြစ်စေ ရှေးနှင့်နောက် ဆက်စပ်လျက် အဆက်မပြတ် အထပ်ထပ် ဖြစ်နေကြသည်သာ ဖြစ်၏။ ထို့ကြောင့် ပရမတ္ထသစ္စာနယ်မှ အတိအကျပြောဆိုရလျှင် ပရမတ်ရုပ်တရားတို့ကို = ပရမတ်ဥတုဇသြဇဋ္ဌမက ရုပ်တရားတို့ကို ထမင်းလုတ် စသည်ဖြင့် အလုတ်အလွေးပြု၍ တကယ် ဝါးမျို စားမျို၍ကား မရနိုင်။ ထို့ကြောင့် သိတော်မူ မြင်တော်မူကြကုန်သော ကျေးဇူးတော်ရှင် ရှေးရှေး ဆရာတော်ဘုရားကြီးများက . . **ကဗဠီကာရော အာဟာရော** = အလုတ်အလွေး မပြုအပ်သော်လည်း ပြုအပ်သကဲ့သို့သော အာဟာရသြဇာသည်ဟု ဘာသာပြန်ဆိုတော်မူကြသည်။ ဤရှင်းလင်းချက်များအရ ယင်းဥတုဇရုပ်တို့တွင် ပါဝင်သော သြဇာချည်းသက်သက်လည်း စားမျို ဝါးမျို၍ မရနိုင်၊ ယင်းဥတုဇသြဇဋ္ဌမကရုပ်တို့၏ အပေါင်းအစုကိုလည်း စားမျို ဝါးမျို၍ မရနိုင်ဟု မှတ်ပါ။ သို့သော် ယင်းဥတုဇသြဇဋ္ဌမက ရုပ်ကလာပ်တိုင်း၌ တည်ရှိသော တေဇောဓာတ် = ဥတု၏ သားစဉ်မြေးဆက် အဆက်ဆက်ဟူသော ရုပ်အစဉ်အတန်း သန္တတိအတုံးအခဲကိုသာလျှင် စားမျို ဝါးမျိုသည်ဟု သမုတိသစ္စာနယ်မှ ခေါ်ဝေါ်ခြင်း ဖြစ်သည်ဟု မှတ်ပါ။

အစာသစ်ကောဋ္ဌာသဟု ခေါ်ဆိုအပ်သော ယင်းဥတုဇသြဇဋ္ဌမကရုပ်တို့သည် အထက်တွင် ရှင်းပြထားသည့်အတိုင်း ရုပ်ကလာပ်တစ်ခု၌ တည်ရှိသော တေဇောဓာတ်ကြောင့် အသစ်အသစ် ဖြစ်ပေါ်နေရသော ရုပ်တရားတို့သာ ဖြစ်ကြ၏။ တေဇောဓာတ်တည်းဟူသော မဟာဘုတ်ကြောင့် အဆက်မပြတ် အထပ်ထပ် ဖြစ်နေရသော ရုပ်တရားတို့သာ ဖြစ်ကြ၏။ ယင်းသို့ ဖြစ်မှုကို ဘုတ်အဆက်ဆက် ရိုက်ခတ်၍ ဖြစ်ခြင်းဟု ရှေးရှေးဆရာတော်ကြီးများက ခေါ်ဝေါ် သုံးစွဲထားတော်မူကြသည်။ ဤ ရုပ်ကမ္မဋ္ဌာန်းရှုကွက်၌ အထူးသဖြင့် စိတ္တဇရုပ် ဥတုဇရုပ် အာဟာရဇရုပ်တို့၏ ရှုကွက်၌ ယင်းကဲ့သို့ ဘုတ်အဆက်ဆက် ရိုက်ခတ်လျက် ဖြစ်မှုသဘောကို နက်ရှိုင်းစွာ ရှုမြင်တတ်ဖို့ အထူး လိုအပ်ပေသည်။ ထိုသို့ ရှုမြင်တတ်ဖို့ရန် ပဋ္ဌာန်းပါဠိတော် ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ မဟာဋီကာတို့[၄၉၆]၌ လာရှိသည့် အဆိုအမိန့်များကို

---

[၄၉၅] **ဥပ္ပတ္တိဝသေန အာဂတာနီ**တိ ဧတေန ရူပဓမ္မာပိ ယတ္ထ ဥပ္ပဇ္ဇန္တိ၊ တတ္ထေဝ ဘိဇ္ဇန္တိ၊ န ဒေသန္တရံ သင်္ကမန္တီတိ ဒဿေတိ။ (အနုဋီ၊၁၊၁၆၂။)

[၄၉၆] ရူပါရူပါနံ ဥပတ္ထမ္ဘကဋ္ဌေန ဥပကာရကာ စတ္တာရော အာဟာရာ အာဟာရပစ္စယော။ ယထာဟ "ကဗဠီကာရော အာဟာရော ဣမဿ ကာယဿ အာဟာရပစ္စယေန ပစ္စယော။ အရူပိနော အာဟာရာ သမ္ပယုတ္တကာနံ ဓမ္မာနံ တံသမုဋ္ဌာနာနဉ္စ ရူပါနံ အာဟာရပစ္စယေန ပစ္စယော"တိ။ (ပဋ္ဌာန၊၁၊၇။) ပဉှာဝါရေ ပန (ပဋ္ဌာန၊၁၊၁၅၆။) "ပဋိသန္ဓိက္ခဏေ ဝိပါကာဗျာကတာ အာဟာရာ

ထပ်မံဖော်ပြအပ်ပါသည်။ ယင်းကျမ်းဂန်တို့၏ သဘောအဓိပ္ပါယ်ကို နားလည်အောင် ကြိုးစားပါ။ ယင်း ပါဠိတော် အဋ္ဌကထာ ဋီကာတို့၏ ဆိုလိုရင်းကို ခြုံ၍ ရှုကွက်ကို ရေးသားတင်ပြပေအံ့ . .။

အထက်တွင် ရှင်းပြခဲ့သည့်အတိုင်း ကလာပ်တူရုပ်တရားတို့နှင့် တကွ စားမျိုထိုက်သော အလုတ်အလွေး မပြုအပ်သော်လည်း ပြုအပ်သကဲ့သို့သော အစာသစ်ကား အစာသစ်အိမ် စသည်တို့၏အတွင်း၌ အစာသစ်ကောဋ္ဌာသ အဖြစ် တည်ရှိခိုက် ခန္ဓာအိမ်အတွင်းသို့ မပျံ့နှံ့မီ၌ ဘုတ်အဆက်ဆက် ရိုက်ခတ်၍ ဖြစ်နေသော ဥတုဇသြဇဋ္ဌမက ရုပ်တို့၏ အပေါင်းအစုမျှသာတည်း။ ယင်းဥတုဇရုပ်တို့တွင် ပါဝင်သော သြဇာကား ဥတုဇသြဇာပင်တည်း။ ယင်း ဥတုဇသြဇာကား တိုက်ရိုက်အားဖြင့် ကဗဠီကာရ-အာဟာရ မည်၏။

တစ်ဖန် ယင်းကဗဠီကာရ-အာဟာရ အမည်ရသော ယင်းဥတုဇရုပ်တို့တွင် ပါဝင်တည်ရှိသော အဆီအစေး သြဇာသည် အစာကို ကြေကျက်စေတတ်သော (အစာအိမ်ပတ်ဝန်းကျင်စသည့် ထိုထိုအရပ်၌ တည်ရှိသော ဇီဝိတ-နဝကရုပ်ကလာပ်တို့၌ တည်ရှိသော) ပါစကတေဇောဓာတ်ဟူသော ကမ္မဇဝမ်းမီး၏ တစ်နည်း - ကမ္မဇမဟာဘုတ်၏ အားပေးထောက်ပံ့မှုကို ရရှိသောအခါ အခြားအခြားသော သြဇာလျှင် (၈)ခုမြောက်ရှိသော သြဇဋ္ဌမကရုပ်ကို ဖြစ်စေ၏။ ယင်းရုပ်တို့ကား ဥတုဇသြဇာကြောင့် ဖြစ်ပေါ်လာကြရသော အာဟာရဇသြဇဋ္ဌမကရုပ်တို့တည်း။ (စားမျိုလိုက်သော ကဗဠီကာရာဟာရ = ဥတုဇသြဇာ၏ သားတည်း။)

အစာသစ်ကောဋ္ဌာသဟု အမည်တပ်ထားသော ဖခင်ဖြစ်သော ယင်း ဥတုဇရုပ်ကလာပ်တို့၏ အရေအတွက် = ယင်းဥတုဇသြဇာတို့၏ အရေအတွက်က များလျှင်များသလို သားသမီးဖြစ်ကြသော အာဟာရဇသြဇဋ္ဌမကရုပ်တို့၏ အရေအတွက်လည်း ယေဘုယျအားဖြင့် များပြားနိုင်၏။ ယင်းသားရင်း သမီးရင်း ဖြစ်ကြသော အာဟာရဇသြဇဋ္ဌမက ရုပ်ကလာပ်တို့တွင် တည်ရှိသော သြဇာအသီးအသီးသည် ကလာပ်ပြား ဥပတ္ထမ္ဘက-အာဟာရဇသြဇာ၏ အထောက် အပံ့နှင့် ကမ္မဇဝမ်းမီး၏ အထောက်အပံ့ကို ရရှိသောအခါ (၁၀)ဆင့် (၁၂)ဆင့် တိုင်အောင်သော အာဟာရဇသြဇဋ္ဌမက

---

သမ္ပယုတ္တကာနံ ခန္ဓာနံ ကဋတ္တာ စ ရူပါနံ အာဟာရပစ္စယေန ပစ္စယော”တိပိ ဝုတ္တံ။ (ဝိသုဒ္ဓိ၊၂၊၁၇၀။)

သတိပိ ဇနကဘာဝေ ဥပတ္ထမ္ဘကတ္တံ အာဟာရာနံ ပဓာနကိစ္စန္တိ အာဟ **“ရူပါရူပါနံ ဥပတ္ထမ္ဘကတ္တေနာ”**တိ။ (မဟာဋီ၊၂၊၂၈၂။)

သြဇာလက္ခဏော **ကဗဠီကာရော အာဟာရော**။ (ဝိသုဒ္ဓိ၊၂၊၈၀။)

**သြဇာလက္ခဏော**တိ ဧတ္ထ အင်္ဂမင်္ဂါနုသာရိနော ရသဿ သာရော ဥပထမ္ဘဗလကရော ဘူတနိဿိတော ဧကော ဝိသေသော သြဇာ။ ကဗဠံ ကရီယတီတိ **ကဗဠီကာရော**။ အာဟရီယတီတိ **အာဟာရော**။ ကဗဠံ ကတွာ အဇ္ဈောဟရီယတီတိ အတ္ထော။ ဣဒံ ပန သဝတ္ထုကံ သြဇံ ဒဿေတုံ ဝုတ္တံ။ ဗာဟိရံ အာဟာရံ ပစ္စယံ လဘိတွာ ဧဝ အဇ္ဈတ္တိကာဟာရော ရူပံ ဥပ္ပါဒေတိ။ သော ပန ရူပံ အာဟရတီတိ အာဟာရော။ တေနာဟ **“ရူပါဟရဏရသော”**တိ။ တတော ဧဝ သြဇဋ္ဌမကရူပုပ္ပါဒနေန ကမဿ ကာယဿ **ဥပတ္ထမ္ဘနပစ္စုပဋ္ဌာနော**။ သြဇာယ ရူပါဟရဏကိစ္စံ ဗာဟိရာဓီနန္တိ အာဟ **“အာဟရိတဗ္ဗဝတ္ထုပဒဋ္ဌာနော”**တိ။ (မဟာဋီ၊၂၊၁၀၄။)

တတ္ထ **အာဟာရော** နာမ ကဗဠီကာရော အာဟာရော။ **အာဟာရသမုဋ္ဌာနံ** နာမ ဥပါဒိန္နံ ကမ္မဇရူပံ ပစ္စယံ လဘိတွာ တတ္ထ ပတိဋ္ဌာယ ဌာနပ္ပတ္တာယ သြဇာယ သမုဋ္ဌာပိတံ သြဇဋ္ဌမကံ၊ အာကာသဓာတု၊ လဟုတာ၊ မုဒုတာ၊ ကမ္မညတာ၊ ဥပစယော၊ သန္တတီတိ စုဒ္ဒသဝိဓံ ရူပံ။ အာဟာရပစ္စယံ နာမ “ကဗဠီကာရော အာဟာရော ဣမဿ ကာယဿ အာဟာရပစ္စယေန ပစ္စယော”တိ ဧဝံ ဝုတ္တံ စတုသမုဋ္ဌာနရူပံ။ **အာဟာရပစ္စယအာဟာရသမုဋ္ဌာနံ** နာမ အာဟာရသမုဋ္ဌာနေသု ရူပေသု ဌာနပ္ပတ္တာ သြဇာ အညံ သြဇဋ္ဌမကံ သမုဋ္ဌာပေတိ၊ တတြာပိ သြဇာ အညန္တိ ဧဝံ ဒသ ဒွါဒသ ဝါရေ ပဝတ္တံ ဃဋ္ဋေတိ။ ဧကဒိဝသံ ပရိဘုတ္တာဟာရော သတ္တာဟမ္ပိ ဥပတ္ထမ္ဘေတိ။ ဒိဗ္ဗာ ပန သြဇာ ဧကမာသံ ဒွေမာသမ္ပိ ဥပတ္ထမ္ဘေတိ။ မာတရာ ပရိဘုတ္တာဟာရောပိ ဒါရကဿ သရီရံ ဖရိတွာ ရူပံ သမုဋ္ဌာပေတိ။ သရီရေ မက္ခိတာဟာရောပိ ရူပံ သမုဋ္ဌာပေတိ။ ကမ္မဇာဟာရော ဥပါဒိန္နကာဟာရော နာမ။ သောပိ ဌာနပ္ပတ္တော ရူပံ သမုဋ္ဌာပေတိ၊ တတြာပိ သြဇာ အညံ သမုဋ္ဌာပေတီတိ ဧဝံ စတဿော ဝါ ပဉ္စ ဝါ ပဝတ္တိယော ဃဋ္ဋေတိ။ (ဝိသုဒ္ဓိ၊၂၊၂၅၁။)

“ဥပါဒိန္နံ ကမ္မဇရူပံ ပစ္စယံ လဘိတွာ”တိ ဧတေန ဗဟိဒ္ဓါ အနုပါဒိန္နသြဇာ ရူပါဟရဏကိစ္စံ န ကရောတီတိ ဒဿေတိ။ ပစ္စယလာဘော စဿ ကမ္မဇဘူတသန္နိဿယတာဝသေနာတိ အာဟ **“တတ္ထ ပတိဋ္ဌာယာ”**တိ။ ပ ။ ဥပါဒိန္နကော အနုပါဒိန္နကောတိ ဒုဝိဓေ အာဟာရေ ပုဗ္ဗေ အနုပါဒိန္နကော အာဟာရပစ္စယအာဟာရော ဒဿိတောတိ ဣတရံ ဒဿေတုံ **“ကမ္မဇာဟာရော”**တိအာဒိ ဝုတ္တံ။ (မဟာဋီ၊၂၊၄၀၃။)

ရုပ်တို့ကို ဆင့်ကာဆင့်ကာ ဖြစ်စေပေ၏။ ဤသို့ ဖြစ်စေရာ၌ အဆင့်တိုင်းတွင် ကလာပ်ပြား ဥပတ္ထမ္ဘက-အာဟာရဇ သြဇာနှင့် ကမ္မဇဝမ်းမီး၏ အထောက်အပံ့ကား လိုအပ်လျက်ပင် ရှိသည်။ ယင်းအာဟာရဇသြဇဋ္ဌမကရုပ်တို့သည် (သမုတိသစ္စာနည်းအရ ရသဓာတ်ရည်အဖြစ်ဖြင့်) ပရမတ္ထသစ္စာနည်းအရ ရုပ်ကလာပ်တို့အနေဖြင့် ဘုတ်အဆက်ဆက် ရိုက်ခတ်လျက် ခန္ဓာကိုယ် တစ်ကိုယ်လုံးသို့ = (၆)ဒွါရလုံးသို့ ပျံ့နှံ့လျက် ဖြစ်ပွားနေကြ၏။ ယင်းအာဟာရဇသြဇဋ္ဌမက ရုပ်တို့၌ ပါဝင်တည်ရှိသော သြဇာကား — **"သြဇာလက္ခဏော ကဗဠီကာရော အာဟာရော"** . . ဟူသော အဋ္ဌကထာ အဖွင့်အရ သြဇာလက္ခဏာသို့ ရောက်ရှိလာသော ကဗဠီကာရအာဟာရတည်း။

## ထပ်မံရှင်းလင်းချက်

(၆)ဒွါရလုံးသို့ ပျံ့နှံ့လျက် ဖြစ်ပွားနေပုံကို ထပ်မံကာ ရှင်းလင်းတင်ပြအပ်ပါသည် . . ။

အထူးသဖြင့် အစာသစ်အိမ်အတွင်း၌ အစာသစ်ကောဋ္ဌာသအဖြစ် တည်ရှိနေကြသော ဥတုဇသြဇဋ္ဌမက ရုပ်ကလာပ်တို့ကား မရေမတွက်နိုင်အောင် အလွန့်အလွန် များပြားလှ၏။ ယေဘုယျအားဖြင့်[၆၉၇] ယင်းရုပ်ကလာပ် အများစုတို့၌ တည်ရှိကြသော သြဇာအသီးအသီးကား ကမ္မဇဝမ်းမီးအမည်ရသည့် ဇီဝိတနဝကကလာပ်ရုပ်တို့၌ တည်ရှိကြသော ပါစကတေဇောဓာတ်အသီးအသီး၏ အားပေးထောက်ပံ့မှု အကူအညီကို ရရှိသောအခါ သြဇာလျှင် (၈)ခုမြောက်ရှိသည့် အာဟာရဇသြဇဋ္ဌမကရုပ်ကလာပ်အသစ်အသစ်ကို ပြိုင်တူ ထပ်မံဖြစ်စေပြန်၏။ ယင်းအာဟာရဇ သြဇဋ္ဌမကရုပ်ကလာပ်အသီးအသီး၌ တည်ရှိသော အသီးအသီးသော သြဇာကား သြဇာလက္ခဏာသို့ ရောက်ရှိလာသော ကဗဠီကာရအာဟာရတည်း။

ဤနေရာတွင် ပါစကတေဇောဓာတ်ပါဝင်သည့် ဇီဝိတနဝကကလာပ်များအကြောင်းကို အနည်းငယ် ထပ်မံ ရှင်းလင်းတင်ပြလိုပေသည်။ ခေတ်ပေါ် သိပ္ပံဆရာဝန်တို့၏ အယူအဆအရ ပြောဆိုရပါမူ အစာသစ်ကောဋ္ဌာသများသည် အစာသစ်အိမ်အတွင်း၌ တည်ရှိလာကြသောအခါ ခန္ဓာကိုယ်တစ်ခုလုံး၌ တည်ရှိနေကြသော သွေးအများစုတို့မှာ အစာချေဖို့ရန်အတွက် အစာအိမ်ဝန်းကျင်တွင် စုစည်းမိလာကြ၏။ သို့သော် ဗုဒ္ဓအဘိဓမ္မာနည်းအရ ပြောဆိုရပါမူ ရုပ်တရားတို့ကား တစ်နေရာမှ တစ်နေရာသို့ ပြောင်းရွှေ့ဖြစ်ရိုး ဓမ္မတာကား မရှိကြပေ၊ ဖြစ်သည့်နေရာ၌သာ ပျက်သွားကြ၏။ သို့သော် အတိတ်က ပြုစုပျိုးထောင်ခဲ့သော ကံ၏စွမ်းအားကြောင့် အစာအိမ်ဝန်းကျင်တွင် အစာကို ကြေကျက်စေတတ်သည့် ပါစကဝမ်းမီး = ပါစကတေဇောဓာတ်တို့ ပါဝင်ကြသည့် ဇီဝိတနဝကကလာပ်ရုပ်များ အဆက်မပြတ် များစွာ စုပေါင်းလျက် ပြိုင်တူ ဖြစ်ပေါ်တည်နေကြ၏။ ယင်းဇီဝိတနဝကကလာပ်ရုပ်တိုင်းတွင် ပါဝင်သော တေဇောဓာတ်အသီးအသီးက အထက်ပါ အစာသစ်ကောဋ္ဌာသ အမည်ရသည့် ဥတုဇသြဇဋ္ဌမကရုပ် အသီးအသီး၌ တည်ရှိသော သြဇာအသီးအသီးအား ပြိုင်တူ ဝိုင်းဝန်းကာ အသီးအသီး ထောက်ပံ့လိုက်သောအခါ ယင်းဥတုဇသြဇာ အသီးအသီးက အသစ်အသစ်သော အာဟာရဇသြဇဋ္ဌမကရုပ်ကလာပ် အသီးအသီးကို ပြိုင်တူ ဖြစ်ပေါ်စေ၏။ ဆိုလိုသည်မှာ — **ဤ**ဇီဝိတနဝကကလာပ်၌ တည်ရှိသော ပါစကတေဇောဓာတ်က (အစာသစ်ကောဋ္ဌာသဖြစ်သည့်) **ဤ**ဥတုဇသြဇဋ္ဌမကရုပ်ကလာပ်၌ တည်ရှိသော သြဇာကို၊ **ထို**ဇီဝိတနဝကကလာပ်၌ တည်ရှိသော ပါစကတေဇော-ဓာတ်က (အစာသစ်ကောဋ္ဌာသဖြစ်သည့်) **ထို**ဥတုဇသြဇဋ္ဌမကရုပ်ကလာပ်၌ တည်ရှိသော သြဇာကို အသီးအသီး ထောက်ပံ့သည်ဟု ဆိုလိုသည်။ ဤကား ပဌမအဆင့်တည်း။

ဤအဆင့်တွင် သြဇာလက္ခဏာသို့ ရောက်ရှိလာသော အာဟာရဇသြဇဋ္ဌမကရုပ်ကလာပ်များ များစွာ ရှိနေသည်ကို သတိပြုပါ။ ယင်းရုပ်ကလာပ်တို့တွင် တည်ရှိသော အချို့အချို့သော သြဇာက ကမ္မဇဝမ်းမီးနှင့် ဥပတ္ထမ္ဘက-အာဟာရဇသြဇာတို့၏ အကူအညီဖြင့် သြဇဋ္ဌမကရုပ်ကလာပ်အသစ်အသစ်ကို ဖြစ်စေတတ်သည့် ဇနက-သြဇာများ ဖြစ်ကြ၏။ အချို့အချို့သော သြဇာက အခြားအခြားသော ရုပ်ကလာပ်တို့၌ တည်ရှိသော (ကမ္မဇသြဇာ စိတ္တဇသြဇာ ဥတုဇသြဇာ ကလာပ်ပြား အာဟာရဇသြဇာဟူသည့်) သြဇာအသီးအသီးအား အားပေးထောက်ပံ့တတ်သည့် ဥပတ္ထမ္ဘက-သြဇာများ ဖြစ်ကြ၏။ ယင်းကဲ့သို့ သြဇာလက္ခဏာသို့ ရောက်ရှိလာသော အာဟာရဇသြဇဋ္ဌမကရုပ်ကလာပ်တို့မှာ ရှေးနှင့်နောက် ဆက်စပ်လျက် အထပ်ထပ် ဖြစ်နေကြသည်ကိုလည်း သတိပြုပါ။

---

[၆၉၇] **မှတ်ချက်** — ဤ၌ ယေဘုယျဟု ဆိုခြင်းမှာ အချို့အချို့သော အစာသစ်ကောဋ္ဌာသတို့သည် ပိုးစာ ကျင်ကြီး ကျင်ငယ် စသည်အဖြစ်သို့ ပြောင်းလဲသွားသောကြောင့် ဆိုခြင်း ဖြစ်သည်။

ယင်းဩဇာလက္ခဏာသို့ ရောက်ရှိလာသော အာဟာရဇဩဇဋ္ဌမကရုပ်ကလာပ်တို့၌ တည်ရှိသော ဩဇာကား **အဇ္ဈတ္တိကာဟာရ**တည်း (= အဇ္ဈတ္တိက + အာဟာရတည်း)။ အစာသစ်ကောဋ္ဌာသအဖြစ် တည်ရှိနေကြသည့် ဥတုဇဩဇဋ္ဌမကရုပ်ကလာပ်တို့တွင် တည်ရှိသော ဩဇာကား **ဗာဟိရာဟာရ**တည်း (= ဗာဟိရ + အာဟာရတည်း)။ ယင်း အဇ္ဈတ္တိကာဟာရ အမည်ရသော အာဟာရဇဩဇဋ္ဌမကရုပ်ကလာပ်တို့တွင် တည်ရှိကြသော အချို့သော ဩဇာမှာ ကမ္မဇဝမ်းမီးနှင့် ဥပတ္ထမ္ဘက-အာဟာရဇဩဇာတို့၏ အကူအညီဖြင့် အာဟာရဇဩဇဋ္ဌမကရုပ်ကလာပ်အသစ်အသစ်ကို ဖြစ်စေနိုင်သည့် စွမ်းအားရှိသည့် ဇနက-ဩဇာများ ဖြစ်ကြောင်းကို တင်ပြခဲ့၏။ တစ်ဖန် အချို့အချို့သော ဩဇာက အခြားအခြားသော ရုပ်ကလာပ်တို့၌ တည်ရှိသော (ကမ္မဇဩဇာ စိတ္တဇဩဇာ ဥတုဇဩဇာ ကလာပ်ပြား အာဟာရဇ ဩဇာဟူသည့်) ဩဇာအသီးအသီးအား အားပေးထောက်ပံ့တတ်သည့် ဥပတ္ထမ္ဘက-ဩဇာများ ဖြစ်ကြောင်းကိုလည်း တင်ပြခဲ့၏။ သို့သော် ယင်းသို့ ဖြစ်စေတတ်သော ဇနက-ဩဇာ တည်ရှိရာ ရုပ်ကလာပ်နှင့် ဥပတ္ထမ္ဘက-ဩဇာ တည်ရှိရာ ရုပ်ကလာပ်တို့မှာ ရုပ်ကလာပ်ချင်း မတူဘဲ ကွဲပြားနေကြသည့်အတွက် ရှေးရှေးဆရာတော်ဘုရားကြီးများက ကလာပ်ပြား ဩဇာများဟု ခေါ်ဝေါ်သုံးစွဲထားတော်မူကြသည်။

## ဩဇာလက္ခဏာသို့ ရောက်ရှိလာသော အာဟာရဇဩဇာ

ဩဇာလက္ခဏာသို့ ရောက်ရှိလာသည်ဟူသည်မှာ ယင်းအာဟာရဇ ဩဇဋ္ဌမကရုပ်တို့၌ ပါဝင်တည်ရှိသော ဩဇာကသာလျှင် ဋ္ဌာနူပစာရအားဖြင့် ကဗဠီကာရအာဟာရ အမည်ရသော စတုသမုဋ္ဌာနိကဩဇာအား (ဩဇဋ္ဌမက ရုပ်များ အသစ်အသစ် ဖြစ်ပေါ်လာအောင်) အာဟာရပစ္စယသတ္တိဖြင့် ကျေးဇူးပြုနိုင်၏။ မူလအစာသစ်ကောဋ္ဌာသ = ဥတုဇဩဇဋ္ဌမကရုပ်တို့၌ တည်ရှိသော (ဗာဟိရ-အာဟာရ) ဥတုဇဩဇာက —

၁။ ကမ္မဇရုပ်ကလာပ်တို့၌ တည်ရှိသော ကမ္မဇဩဇာ,
၂။ စိတ္တဇရုပ်ကလာပ်တို့၌ တည်ရှိသော စိတ္တဇဩဇာ,
၃။ ဥတုဇရုပ်ကလာပ်တို့၌ တည်ရှိသော ဥတုဇဩဇာ,
၄။ ကလာပ်ပြား အာဟာရဇဩဇာ (= စားမျိုလိုက်သော ဥတုဇရုပ်တို့၌ပါသော ဩဇာကြောင့် ဖြစ်သော အာဟာရဇရုပ်တို့၌ ပါဝင်တည်ရှိသော ကလာပ်ပြား အာဟာရဇဩဇာ) —

ဤစတုသမုဋ္ဌာနိကဩဇာအား အာဟာရပစ္စယသတ္တိဖြင့် ကျေးဇူး မပြုနိုင်၊ အားပေးထောက်ပံ့မှုကို မပြုနိုင်။ ယင်းမူလအစာသစ်ကောဋ္ဌာသအဖြစ်၌ တည်ရှိသော ဥတုဇရုပ်ကလာပ်တို့၌ ပါဝင်တည်ရှိသော (ဗာဟိရ-အာဟာရ) ဥတုဇဩဇာသည် ကမ္မဇဝမ်းမီး၏ အထောက်အပံ့ဖြင့် ဩဇဋ္ဌမကရုပ်ကလာပ် အသစ်အသစ်ကိုသာ ဖြစ်စေနိုင်သော ဇနကသတ္တိရှိ၏။ ယင်းဇနကသတ္တိကြောင့် ဖြစ်ပေါ်လာသော ရုပ်ကလာပ်တို့ကို အာဟာရဇဩဇဋ္ဌမကရုပ်ကလာပ်တို့ ဟူ၍ ခေါ်ဆို၏။ ယင်းရုပ်ကလာပ်တို့တွင် ပါဝင်သော ဩဇာမှာလည်း ဩဇာလက္ခဏာသို့ ဆိုက်ရောက်လာသော အဇ္ဈတ္တိကာဟာရ အမည်ရသည့် ဩဇာပင် ဖြစ်သည်။

ယင်း အာဟာရဇဩဇဋ္ဌမက ရုပ်ကလာပ်တို့တွင် ပါဝင်သော အဇ္ဈတ္တိကာဟာရ-ဩဇာကား မိမိနှင့် ကလာပ်တူ မဟာဘုတ်တို့ကိုသာ မှီ၍ ဖြစ်လာရ၏။ ရှေးယခင် ခန္ဓာအိမ်အတွင်းသို့ အာဟာရဇဩဇဋ္ဌမကရုပ်ကလာပ် အဖြစ်ဖြင့် မပျံ့နှံ့မီ (ဗာဟိရ-အာဟာရ) အစာသစ်ကောဋ္ဌာသအဖြစ်ဖြင့် တည်ရှိခိုက် ဥတုဇဩဇဋ္ဌမကရုပ်တို့၌ တည်ရှိသော ကလာပ်ပြား ဓာတ်ကြီးလေးပါးကိုကား မှီ၍မဖြစ်ပေ။ ရသဓာတ်ရည်အဖြစ်ဖြင့် ခန္ဓာအိမ်အတွင်းသို့ ပျံ့နှံ့ဖြစ်ပွားလာသော ယင်းအာဟာရဇဩဇဋ္ဌမက ရုပ်ကလာပ်တို့၌ ပါဝင်တည်ရှိသော (အဇ္ဈတ္တိက-အာဟာရ) ဩဇာကသာလျှင်

၁။ ကမ္မဇရုပ်ကလာပ်တို့၌ တည်ရှိသော ကမ္မဇဩဇာ,
၂။ စိတ္တဇရုပ်ကလာပ်တို့၌ တည်ရှိသော စိတ္တဇဩဇာ,
၃။ ဥတုဇရုပ်ကလာပ်တို့၌ တည်ရှိသော ဥတုဇဩဇာ,
၄။ ကလာပ်ပြားဖြစ်သော အာဟာရဇရုပ်ကလာပ်တို့၌ တည်ရှိသော အာဟာရဇဩဇာ —

ဤစတုသမုဋ္ဌာနိကဩဇာအား အာဟာရပစ္စယသတ္တိဖြင့် ကျေးဇူးပြုပေးနိုင်၏။ ဩဇဋ္ဌမကရုပ်ကလာပ် အသစ်အသစ်တို့ အဆင့်ဆင့် ဖြစ်ပေါ်လာအောင် အားပေးထောက်ပံ့နိုင်၏။ ယင်းစတုသမုဋ္ဌာနိကဩဇာက (အဇ္ဈတ္တိက-

အာဟာရဇသြဇာ၏ အထောက်အပံ့ဖြင့်) သြဇဋ္ဌမကရုပ်ကလာပ် အသစ်အသစ်ကို ဖြစ်စေရာဝယ် ဌီကာလသို့ ရောက်ရှိမှသာလျှင် ဖြစ်စေနိုင်၏၊ ကမ္မဇဝမ်းမီးခေါ်သည့် ကမ္မဇတေဇောဓာတ်၏ အားပေးထောက်ပံ့မှုကိုလည်း ရရှိပါမှသာလျှင် ဖြစ်စေနိုင်၏။ သို့အတွက် အထက်တွင် တင်ပြထားသော စတုသမုဋ္ဌာနိကသြဇာ အသီးအသီးက သြဇဋ္ဌမကရုပ်ကလာပ် အသစ်အသစ်ကို ဖြစ်စေရာ၌ ထောက်ပံ့တတ်သော အဇ္ဈတ္တိက-အာဟာရ-သြဇာနှင့် ကမ္မဇဝမ်းမီးတို့က ပြိုင်တူအားပေးထောက်ပံ့ပါမှသာလျှင် ဖြစ်စေနိုင်၏ဟု မှတ်ပါ။ ဤကား ဒုတိယအဆင့်တည်း။ ဤအဆင့်မှ စ၍ လေးဆင့် ငါးဆင့် . . ဆယ်ဆင့် ဆယ့်နှစ်ဆင့်သို့ တိုင်အောင် သြဇာအသီးအသီးက သြဇဋ္ဌမကရုပ်ကလာပ် အသစ်အသစ်ကို အဆင့်ဆင့် ဖြစ်စေရာ၌ အဆင့်တိုင်းဝယ် ယင်းအဇ္ဈတ္တိက-အာဟာရ-သြဇာနှင့် ကမ္မဇဝမ်းမီးတို့က ပြိုင်တူ အားပေးထောက်ပံ့ပါမှသာလျှင် သြဇဋ္ဌမကရုပ်ကလာပ် အသစ်အသစ်များ ပြိုင်တူ ဖြစ်နိုင်သည်ကို သဘောပေါက်ပါ။

ဤ၌ အာဟာရဇရုပ်ကလာပ်မှာ နှစ်မျိုး ရှိနေသည်ကို သတိပြုပါ။ အာဟာရဇရုပ်ကလာပ်မှာ နှစ်မျိုးရှိနေသဖြင့် အာဟာရဇသြဇာမှာလည်း နှစ်မျိုးပင် ရှိနေ၏။ ထောက်ပံ့တတ်သော အာဟာရဇသြဇာနှင့် အထောက်ပံ့ခံရသော အာဟာရဇသြဇာတည်း။ ထောက်ပံ့တတ်သော အာဟာရဇသြဇာမှာ အထက်တွင် ဖော်ပြထားသော အစာသစ် ကောဋ္ဌာသ၌ အကျုံးဝင်သော ဥတုဇသြဇာကြောင့် ဖြစ်ပေါ်လာရသော အာဟာရဇသြဇဋ္ဌမကရုပ်တို့တွင် ပါဝင် တည်ရှိသော သြဇာတည်း။ အထောက်ပံ့ခံရသော အာဟာရဇသြဇာကား ယင်းထောက်ပံ့တတ်သော အာဟာရဇသြဇာနှင့် ကလာပ်ပြားဖြစ်သော အညာဟာရသမုဋ္ဌိတ = အခြားသော ရုပ်ကလာပ်တွင် တည်ရှိသော သြဇာကြောင့်ဖြစ်သော, ရုပ်၏ ဌီကာလသို့ ရောက်ရှိနေသော သြဇာတည်း။ ယင်း အညာဟာရသမုဋ္ဌိတသြဇာနှင့် ကမ္မဇသြဇာ, စိတ္တဇသြဇာ, ဥတုဇသြဇာတို့ကိုကား အထက်ပါ အဇ္ဈတ္တိက-အာဟာရဇသြဇာက အားပေးထောက်ပံ့တတ်သော ဥပတ္ထမ္ဘက-အာဟာရ-ပစ္စယသတ္တိဖြင့် ကျေးဇူးပြုပေး၏။ ယင်းအဇ္ဈတ္တိက-အာဟာရဇသြဇာက အားပေးထောက်ပံ့တတ်သော ဥပတ္ထမ္ဘက-အာဟာရပစ္စယသတ္တိဖြင့် ကျေးဇူးပြုပေးပါမှသာလျှင် ကမ္မဇဝမ်းမီးကလည်း အားပေးထောက်ပံ့ပါမှသာလျှင် အထက်ပါ ကမ္မဇသြဇာ, စိတ္တဇသြဇာ, ဥတုဇသြဇာနှင့် အညာဟာရသမုဋ္ဌိတ-အာဟာရဇသြဇာဟူသည့် ကလာပ်ပြား အာဟာရဇ သြဇာတို့သည် သြဇဋ္ဌမကရုပ်ကလာပ် အသစ်အသစ်ကို အဆင့်ဆင့် ပြိုင်တူ ဖြစ်ပေါ်စေနိုင်ကြပေသည်။ သို့သော် ယင်းသို့ အားပေးထောက်ပံ့တတ်သော အာဟာရဇသြဇာသည်လည်း အစာသစ်ကောဋ္ဌာသ၌ တည်ရှိသော ဥတုဇ သြဇဋ္ဌမကရုပ်ကလာပ်တို့တွင် ပါဝင်သော ဥတုဇသြဇာက (ကမ္မဇဝမ်းမီး၏ အထောက်အပံ့ အကူအညီဖြင့်) တိုက်ရိုက် ဖြစ်စေတတ်သော ဇနကသတ္တိ (= ဇနက-အာဟာရပစ္စယသတ္တိ)ဖြင့် ကျေးဇူးပြုပေးသောကြောင့်သာလျှင် ဖြစ်ပေါ်လာရ၏။ ယင်းဥတုဇသြဇာကား သို့မဟုတ် ယင်းဥတုဇရုပ်တို့ကား ဗာဟိရ-အာဟာရတည်း။ ဤသဘောတရားကိုပင် ရည်ရွယ်၍ . . ဗာဟိရ-အာဟာရတည်းဟူသော အကြောင်းတရားကို ရရှိပါမှသာလျှင် ကမ္မဇသြဇာ, စိတ္တဇသြဇာ, ဥတုဇသြဇာ, အညာဟာရသမုဋ္ဌိတ အာဟာရဇသြဇာဟူသော ကလာပ်ပြား အဇ္ဈတ္တိက-အာဟာရသည် (အဇ္ဈတ္တိက-အာဟာရဇသြဇာသည်) သြဇဋ္ဌမကရုပ်ကို ဖြစ်စေနိုင်၏ - ဟု ဖွင့်ဆိုထားခြင်း ဖြစ်ပေသည်။[၄၉၈]

အညာဟာရသမုဋ္ဌိတ-အာဟာရဇသြဇာ = အထက်တွင် ရှင်းပြထားသော အခြားသော ဥတုဇသြဇဋ္ဌမက ရုပ်တို့တွင် ပါဝင်သော ကလာပ်ပြားသြဇာကြောင့် ဖြစ်နှင့်သော ရုပ်၏ ဌီကာလသို့ ရောက်ရှိနေသော အာဟာရဇ သြဇာကိုလည်းကောင်း, ယောဂါဝစရပုဂ္ဂိုလ်ကိုယ်တိုင် ရှုပွားနေသော အစာသစ်ကောဋ္ဌာသ၌ အကျုံးဝင်သော ဥတုဇသြဇဋ္ဌမကရုပ်တို့တွင် ပါဝင်သော သြဇာကြောင့် ဖြစ်ပေါ်လာရသော အာဟာရဇသြဇာကိုလည်းကောင်း အဇ္ဈတ္တိက-အာဟာရဟု ခေါ်ဝေါ်သုံးစွဲထားသည်။ အစာသစ်ကောဋ္ဌာသအဖြစ် ဥတုဇရုပ်အဖြစ်ဖြင့် တည်ရှိခိုက်၌ အစာအိမ်အတွင်း အူအတွင်း စသည်တို့၌ တည်ရှိနေသော်လည်း အဇ္ဈတ္တိက-အာဟာရဟု မခေါ်ဆိုဘဲ **ဗာဟိရ-အာဟာရ**ဟုသာ ခေါ်ဆိုသည်။ ကမ္မဇဝမ်းမီး၏ အထောက်အပံ့ကို ရရှိသော ယင်းဗာဟိရ-အာဟာရဟူသော ဥတုဇသြဇာက ဖြစ်စေအပ်သော အာဟာရဇသြဇဋ္ဌမကရုပ်တို့ကိုသာ အဇ္ဈတ္တိက-အာဟာရဟု ခေါ်ဆိုသည် မှတ်ပါ။ ယင်းအဇ္ဈတ္တိက-အာဟာရ-သြဇာက အားပေးထောက်ပံ့မှသာလျှင် စတုသမုဋ္ဌာနိကသြဇာသည် သြဇဋ္ဌမကရုပ်ကို ဖြစ်စေနိုင်သည်။ ယင်း အဇ္ဈတ္တိက-အာဟာရက သြဇဋ္ဌမကရုပ်ကို ဖြစ်စေရာ၌ ဗာဟိရ-အာဟာရနှင့်ကား ဆက်စပ်လျက်

---

[၄၉၈] ဗာဟိရံ အာဟာရံ ပစ္စယံ လဘိတွာ ဇဝ အဇ္ဈတ္တိကာဟာရော ရူပံ ဥပ္ပါဒေတိ။ (မဟာဋီ၊၂၊၁၀၄။)

ရှိ၏။ ထို့ကြောင့် ယင်းဗာဟိရ-အာဟာရသည် ဩဇာလက္ခဏာသို့ ရောက်ရှိနေသော အဇ္ဈတ္တိက-အာဟာရ၏ ဩဇဋ္ဌမကရုပ်ကို ဖြစ်စေရာ၌ အနီးကပ်ဆုံးသော အကြောင်းတရား ဖြစ်ရပေသည်။

ယင်း ဗာဟိရ-အာဟာရဟူသော ဥတုဇဩဇာက အာဟာရဇဩဇဋ္ဌမကရုပ်ကို ဖြစ်စေရာ၌လည်း ဥပါဒိန္နက ကမ္မဇရုပ်ဟူသော ပါစကဝမ်းမီး ကမ္မဇတေဇောဓာတ်၏ အထောက်အပံ့ကို ရရှိပါမှသာလျှင် ဖြစ်စေနိုင်၏။

ယင်းအဇ္ဈတ္တိက-အာဟာရဇဩဇဋ္ဌမကရုပ်တို့ကား ဩဇာလက္ခဏာသို့ ရောက်ရှိလာသော ဩဇာပါဝင်သော အာဟာရဇဩဇဋ္ဌမကရုပ်တို့တည်း၊ စားမျိုလိုက်သော ဗာဟိရ-အာဟာရဟူသော ကဗဠီကာရအာဟာရ (= ဥတုဇ ဩဇာ)၏ သားရင်းတည်း။ ယင်းအာဟာရဇဩဇဋ္ဌမကရုပ်တို့၌ တည်ရှိသော ဩဇာကို အဇ္ဈတ္တိက-အာဟာရ-ဩဇာနှင့် ကမ္မဇဝမ်းမီးတို့က ပြိုင်တူ အဆင့်ဆင့် အားပေးထောက်ပံ့လိုက်သောအခါ အသစ်အသစ်သော အာဟာရဇ ဩဇဋ္ဌမကရုပ်တို့သည် (၆)ဒွါရလုံးသို့ ပျံ့နှံ့ဖြစ်ပွားနေကြ၏။ ဤ၌ အဆင့်တိုင်းတွင် တည်ရှိသော ဩဇာတိုင်းကို အသီးအသီးသော အာဟာရဇဩဇာနှင့် ကမ္မဇဝမ်းမီးတို့က ထောက်ပံ့နေသည်ကို သဘောပေါက်အောင် ရှုပါ။ ထိုသို့ ရှေးနှင့်နောက် ဆက်စပ်လျက် အာဟာရဇရုပ်ကလာပ်တို့၏ ဆက်ကာ ဆက်ကာ (၆)ဒွါရလုံးသို့ တိုင်အောင် အထပ်ထပ် ဖြစ်နေခြင်းကိုပင် သမုတိနယ်သုံးဝေါဟာရအားဖြင့် ရသဓာတ်ရည်များ (၆)ဒွါရလုံးသို့ ခန္ဓာကိုယ်တစ်ခုလုံးသို့ ပျံ့နှံ့သွားသည်ဟု ခေါ်ဆိုခြင်း ဖြစ်သည်။

ယင်းသားရင်းဖြစ်သော အာဟာရဇဩဇဋ္ဌမကရုပ်တို့တွင် ပါဝင်သော ဩဇာလက္ခဏာသို့ ဆိုက်ရောက်လာသော ယင်းဩဇာကား ကမ္မဇဝမ်းမီး၏ အကူအညီဖြင့် အထက်တွင် ရှင်းပြထားသော စတုသမုဋ္ဌာနိကဩဇာအား (တစ်ကြိမ် စားရုံမျှဖြင့်) (၇)ရက်ပတ်လုံးသော်လည်း ဘုတ်အဆက်ဆက် ရိုက်ခတ်လျက် အားပေးထောက်ပံ့ထားနိုင်၏။ တစ်နေ့ စားသော ဗာဟိရ-အာဟာရသည် အာဟာရဇဩဇဋ္ဌမကရုပ်တို့ကို ဘုတ်အဆက်ဆက် ရိုက်ခတ်လျက် အဆက်မပြတ် အထပ်ထပ်ဖြစ်စေခြင်းဖြင့် စတုသမုဋ္ဌာနိကဩဇာအား ကမ္မဇဝမ်းမီး၏ အကူအညီဖြင့် (၇)ရက်ပတ်လုံးသော်လည်း အားပေးထောက်ပံ့ထားနိုင်၏။ (ထမင်းအသက် ခုနစ်ရက်ဟူသော ဆိုရိုးစကားမှာ ဤမှဆင်းသက်လာသော စကား တည်း။) နတ်ဩဇာဖြစ်မူကား တစ်လပတ်လုံးသော်လည်းကောင်း, နှစ်လပတ်လုံးသော်လည်းကောင်း အလားတူပင် ထောက်ပံ့ထားနိုင်၏။ မိခင်စားမျိုလိုက်သော အာဟာရသည်လည်း ကိုယ်ဝန်သားငယ်၏ ကိုယ်တွင်းသို့ ချက်ကြိုးမှ တစ်ဆင့် ပျံ့နှံ့လျက် ကိုယ်ဝန်သားငယ်၏ ခန္ဓာအိမ်၌ ကိုယ်ဝန်သားငယ်သန္တာန်၌ တည်ရှိသော ကမ္မဇဝမ်းမီး၏ အထောက်အပံ့ကို ရရှိသောအခါ အာဟာရဇဩဇဋ္ဌမကရုပ်ကို ဖြစ်စေနိုင်၏။ ယင်းအာဟာရဇဩဇာကလည်း ကိုယ်ဝန်သားငယ်၏ သန္တာန်၌ တည်ရှိသော စတုသမုဋ္ဌာနိကဩဇာအား ကိုယ်ဝန်သားငယ်၏ သန္တာန်၌ တည်ရှိသော ကမ္မဇဝမ်းမီး၏ အကူအညီဖြင့် အာဟာရပစ္စယသတ္တိဖြင့် ကျေးဇူးပြုပေးနိုင်၏။ တစ်ဖန် . . ခန္ဓာကိုယ်ဝယ် လိမ်းကျံ ပေးလိုက်သော ဗာဟိရ-အာဟာရသည်လည်း ခန္ဓာကိုယ်အနှံ့အပြား၌ တည်ရှိသော ဇီဝိတနဝကရုပ်ကလာပ်တို့တွင် ပါဝင်သော ကမ္မဇတေဇောဓာတ် ဝမ်းမီး၏ အားပေးထောက်ပံ့မှုကို ရရှိသောအခါ အာဟာရဇဩဇဋ္ဌမကရုပ်ကို ဖြစ်စေနိုင်သည်သာ ဖြစ်၏။ ယင်းအာဟာရဇဩဇဋ္ဌမကရုပ်တို့တွင် ပါဝင်သော ဩဇာကား ဩဇာလက္ခဏာသို့ ရောက်ရှိလာသော ဩဇာပင်တည်း။ ယင်း ဩဇာကလည်း ကမ္မဇဝမ်းမီး၏ အကူအညီဖြင့် စတုသမုဋ္ဌာနိကဩဇာအား အာဟာရပစ္စယသတ္တိဖြင့် ဩဇဋ္ဌမကရုပ်များ ဖြစ်ပေါ်လာအောင် ကျေးဇူးပြုပေးနိုင်သည်သာတည်း။ သို့အတွက် လက်တွေ့ရှုရန်စနစ်မှာ ဤသို့ ဖြစ်၏။

## လက်တွေ့ရှုပုံ နည်းစနစ်များ

၁။ **စားသောက်နေဆဲအချိန်** — စားသောက်နေဆဲအချိန်၌လည်း ရှုနိုင်၏။ စားသောက်နေဆဲအချိန်၌လည်း ခံတွင်း လည်ပင်း စသည့်အရပ်တို့မှ စ၍ အစာသစ်အိမ် အူစသော ထိုထိုအရပ်တို့မှ အာဟာရဇရုပ်များသည် တစ်ကိုယ်လုံးသို့ ပျံ့နှံ့သွားနိုင်၏။ ယောဂါဝစရပုဂ္ဂိုလ်သည် စွမ်းနိုင်ပါက စားသောက်နေဆဲအချိန်မှာပင် သမာဓိကို အဆင့်ဆင့် ထူထောင်၍ ပါးစပ်အတွင်း အစာသစ်အိမ်အတွင်း အစရှိသည့် မိမိရှုလိုသည့် ထိုထိုအရပ်ဝယ် အစာသစ်ကောဋ္ဌာသ၌ တည်ရှိသော ဓာတ်ကြီးလေးပါးကို ဉာဏ်ဖြင့် မြင်အောင် စိုက်ရှုလိုက်ပါက ရုပ်ကလာပ်အမှုန်များကို တွေ့ရှိနိုင်၏။ မိမိရှုနေသည့် အစာသစ်ကောဋ္ဌာသ၏ တည်ရာ ထိုထိုနေရာဝန်းကျင်၌ တည်ရှိသော အစာကို ကြေကျက်စေတတ်သော

ဂဟဏီအမည်ရသော ဇီဝိတနဝကရုပ်ကလာပ်တို့တွင် ပါဝင်သော ကမ္မဇတေဇောဓာတ် ဝမ်းမီး၏ အားပေးထောက်ပံ့မှုဖြင့် ယင်းဥတုဇရုပ်ကလာပ်တို့၏ အတွင်း၌ တည်ရှိသော (ဗာဟိရ-အာဟာရ) ဩဇာကြောင့် ရုပ်ကလာပ် အသစ်အသစ်များသည် ပြိုင်တူ ဖြစ်ပွားနေကြသည်ကို ဉာဏ်ဖြင့် မြင်အောင် ရှုပါ။[၄၉၉] ပထမဆင့် အာဟာရဇဩဇဋ္ဌမက ရုပ်ကလာပ်တို့ပင်တည်း။ ယင်းအာဟာရဇဩဇဋ္ဌမကရုပ်ကလာပ်တို့တွင် ပါဝင်သော ဩဇာကား ဩဇာလက္ခဏာသို့ ဆိုက်ရောက်လာသော အဇ္ဈတ္တိက-အာဟာရဇဩဇာပင်တည်း။ ယင်းဩဇာကို ကမ္မဇဝမ်းမီးနှင့် ကလာပ်ပြား အဇ္ဈတ္တိက-အာဟာရဇဩဇာတို့က အားပေးထောက်ပံ့လိုက်သောအခါ အာဟာရဇဩဇဋ္ဌမကရုပ်ကလာပ် အသစ်အသစ်များ တစ်ကိုယ်လုံးသို့ ပျံ့နှံ့လျက် ဖြစ်ပွားနေကြသည်ကိုလည်းကောင်း၊ ယင်းကလာပ်ပြား အဇ္ဈတ္တိက-အာဟာရဇဩဇာနှင့် ကမ္မဇဝမ်းမီးတို့၏ ထောက်ပံ့မှုဖြင့် ကမ္မဇဩဇာ, စိတ္တဇဩဇာ, ဥတုဇဩဇာ, ကလာပ်ပြား အာဟာရဇဩဇာတို့ကြောင့် အာဟာရဇဩဇဋ္ဌမကရုပ်ကလာပ် အသစ်အသစ်များ တစ်ကိုယ်လုံးသို့ ပျံ့နှံ့လျက် ဖြစ်ပွားနေကြသည်ကိုလည်းကောင်း ဉာဏ်ဖြင့် မြင်အောင် ဆက်ရှုပါ။ ယင်းအဇ္ဈတ္တိက-အာဟာရဇရုပ်ကလာပ်တို့တွင် အချို့အချို့သော ဩဇာတို့ကား (ကမ္မဇဝမ်းမီးနှင့် ကလာပ်ပြား အဇ္ဈတ္တိက-အာဟာရဇဩဇာတို့၏ အထောက်အပံ့ဖြင့်) ဩဇဋ္ဌမကရုပ်ကလာပ် အသစ်အသစ်ကို ဖြစ်စေတတ်သော ဇနက-ဩဇာများ ဖြစ်ကြ၏၊ အချို့အချို့သော ဩဇာတို့ကား ကမ္မဇဩဇာ, စိတ္တဇဩဇာ, ဥတုဇဩဇာ, ကလာပ်ပြား အာဟာရဇဩဇာတို့အား အားပေးထောက်ပံ့တတ်သော ဥပတ္ထမ္ဘက-ဩဇာများ ဖြစ်ကြ၏။

၂။ **စားသောက်ပြီးရာအချိန်** — စားသောက်ပြီးရာအချိန်၌လည်း ရှုနိုင်၏။ စားသောက်ပြီး၍ တရားထိုင်သောအခါ၌လည်း ရှုနိုင်၏။ ယောဂါဝစရပုဂ္ဂိုလ်သည် သမာဓိကို အဆင့်ဆင့် ထူထောင်ပြီးသောအခါ အစာသစ်အိမ်အတွင်း၌ တည်ရှိသော အစာသစ်ကောဋ္ဌာသဝယ် ဓာတ်ကြီးလေးပါးကို မြင်အောင် စိုက်ရှုပါ။ ရုပ်ကလာပ်အမှုန်များကို တွေ့နိုင်သည်။ (အူ၏အတွင်း၌ တည်ရှိသော အစာသစ်ကောဋ္ဌာသ၌လည်း နည်းတူ ရှုနိုင်သည်။) ကမ္မဇဝမ်းမီး၏ အားပေးထောက်ပံ့မှုဖြင့် ယင်းဥတုဇရုပ်ကလာပ်များတွင် ပါဝင်တည်ရှိသော ဩဇာကြောင့် အာဟာရဇဩဇဋ္ဌမက ရုပ်ကလာပ်များ ဖြစ်ပွားနေကြသည်ကို ဉာဏ်ဖြင့် မြင်အောင်ရှုပါ။ ယင်းရုပ်ကလာပ်တို့ကား မကြည်ကြပေ။ ဓာတ်ခွဲသော် ရုပ်သဘောတရား (၈)မျိုးစီ အသီးအသီး ရှိ၏။ ယင်းရုပ်ကလာပ်တို့ကား အဇ္ဈတ္တိက-အာဟာရဇဩဇဋ္ဌမကရုပ်ကလာပ်တို့ပင်တည်း။ အထက်က ရှင်းပြခဲ့သည့်အတိုင်း ယင်းရုပ်ကလာပ်တို့တွင် ပါဝင်ကြသော အချို့အချို့သော ဩဇာတို့ကား ဇနက-ဩဇာ၊ အချို့အချို့သော ဩဇာတို့ကား ဥပတ္ထမ္ဘက-ဩဇာတို့ ဖြစ်ကြ၏။ ကမ္မဇဝမ်းမီး၏ ထောက်ပံ့မှု ကလာပ်ပြား အာဟာရဇဩဇာ၏ ထောက်ပံ့မှုဖြင့် ယင်းဇနက-ဩဇာအသီးအသီးက (၁၀)ဆင့် (၁၂)ဆင့် တိုင်အောင်သော အာဟာရဇဩဇဋ္ဌမကရုပ်ကလာပ် အသစ်အသစ်များကို တစ်ကိုယ်လုံး အနှံ့အပြား ဖြစ်ပွားစေပုံကိုလည်းကောင်း၊ ကမ္မဇဝမ်းမီးနှင့် ယင်းဥပတ္ထမ္ဘက-ဩဇာ၏ အထောက်အပံ့ဖြင့် ကမ္မဇဩဇာ, စိတ္တဇဩဇာ, ဥတုဇဩဇာ, ကလာပ်ပြား အာဟာရဇဩဇာ အသီးအသီးက အာဟာရဇဩဇဋ္ဌမကရုပ်ကလာပ် အသစ်အသစ်များကို ဖြစ်ပွားစေပုံကိုလည်းကောင်း ဉာဏ်ဖြင့် မြင်အောင်ရှုပါ။ ယင်းအာဟာရဇဩဇဋ္ဌမကရုပ်တို့၏ (၆)ဒွါရလုံးသို့ ပျံ့နှံ့ ဖြစ်ပွားနေပုံကို ဉာဏ်ဖြင့် မြင်သောအခါ (၆)ဒွါရ (၄၂)ကောဋ္ဌာသသို့ ပြောင်းရှုနိုင်ပေပြီ။

## မျက်စိ၌ ရှုပုံ ပုံစံတစ်ခု

ယောဂါဝစရပုဂ္ဂိုလ်သည် သမာဓိကို အဆင့်ဆင့် ထူထောင်၍ ယင်းအာဟာရဇဩဇဋ္ဌမကရုပ်ကလာပ်များ၏ မျက်စိသို့တိုင်အောင် ပျံ့နှံ့ဖြစ်ပွားနေသည်ကို ဉာဏ်ဖြင့် မြင်အောင် ရှုပါ။ ယင်းရုပ်ကလာပ်တို့တွင် တည်ရှိကြသော (၈)မျိုးသော ရုပ်တရားတို့ကို ပရမတ်သို့ ဆိုက်အောင် ဉာဏ်ဖြင့် ပိုင်းခြားယူပါ။ ယင်းရုပ်သဘောတရား (၈)မျိုးတို့တွင် ပါဝင်တည်ရှိသော အချို့သော ဩဇာမှာ စတုသမုဋ္ဌာနိကဩဇာအား အားပေးထောက်ပံ့နိုင်သည့် စွမ်းအားရှိသော ဥပတ္ထမ္ဘက-ဩဇာ ဖြစ်၏၊ အချို့သော ဩဇာမှာ အာဟာရဇရုပ်ကလာပ်အသစ်အသစ်ကို ဖြစ်စေနိုင်သော ဇနက-ဩဇာ ဖြစ်၏။ ဥပတ္ထမ္ဘက-ဩဇာကား ကမ္မဇဩဇာ, စိတ္တဇဩဇာ, ဥတုဇဩဇာ, ကလာပ်ပြား ဇနက-အာဟာရဇဩဇာတို့အား အားပေးထောက်ပံ့၏၊ ဇနက-ဩဇာကား အာဟာရဇဩဇဋ္ဌမကရုပ်ကလာပ် အသစ်အသစ်ကို ဖြစ်စေ၏။ (အောက်ပါ နံပါတ်-၄-ကို ကြည့်ပါ။)

[၄၉၉] **မှတ်ချက်** — ထိုသို့ ပျံ့နှံ့သွားရာ၌ အဆင့်တိုင်းတွင် ကလာပ်ပြား အဇ္ဈတ္တိက-အာဟာရ-ဩဇာနှင့် ကမ္မဇဝမ်းမီးတို့က ပြိုင်တူ အားပေးထောက်ပံ့ပါမှသာလျှင် ယင်းအဇ္ဈတ္တိက-အာဟာရ-ဩဇာ အသီးအသီးက ဩဇဋ္ဌမကရုပ်ကလာပ် အသစ်အသစ်များကို (၁၀)ဆင့် (၁၂)ဆင့် တိုင်အောင်ပင် ဖြစ်စေနိုင်သည်ကို သဘောပေါက်အောင် ရှုပါ။ နေရာတိုင်း၌ နည်းတူမှတ်ပါ။

၁။ **ကမ္မဇသြဇာ** — စက္ခုဒသကကလာပ်အတွင်း၌ တည်ရှိသော ကမ္မဇသြဇာဓာတ်နှင့် မျက်လုံးအိမ်သို့ တိုင်အောင် ပျံ့နှံ့၍ ဖြစ်ပွားနေကြသော ယင်းဥပတ္ထမ္ဘက-အာဟာရဇသြဇာတို့ သြဇာအချင်းချင်း ပေါင်းဆုံမိသောအခါ ယင်း ဥပတ္ထမ္ဘက-အာဟာရဇသြဇာ၏ အားပေးထောက်ပံ့မှုကို ရရှိသဖြင့်, ကမ္မဇဝမ်းမီး၏ အားပေးထောက်ပံ့မှုကိုလည်း ရရှိသဖြင့် စက္ခုဒသကကလာပ်အတွင်း၌ တည်ရှိသော ကမ္မဇသြဇာသည် လေးဆင့် ငါးဆင့်သော ရုပ်ကလာပ်တို့၏ ဖြစ်ခြင်းတို့ကို ဆက်စပ်မိစေ၏။[၁၀၀]ယင်းစက္ခုဒသကကလာပ်၌ ရှိသော သြဇာကြောင့် သြဇဋ္ဌမကရုပ်ကလာပ် ဖြစ်လာ၏။ ယင်းသြဇဋ္ဌမကရုပ်ကလာပ်၌ တည်ရှိသော ဌီကာလသို့ ရောက်ရှိလာသော သြဇာကြောင့် အခြားသော အဇ္ဈတ္တိက-အာဟာရ-သြဇာ၏ အားပေးထောက်ပံ့မှုဖြင့်, ကမ္မဇဝမ်းမီး၏လည်း အားပေးထောက်ပံ့မှုဖြင့် သြဇဋ္ဌမကရုပ်ကလာပ် အသစ် ဖြစ်ပေါ်လာပြန်၏။ ဤသို့လျှင် လေး-ငါးကြိမ်သော ရုပ်ကလာပ်တို့သည် ဆင့်ကာဆင့်ကာ ဖြစ်ပေါ်လာကြသည်။[၁၀၁]

မျက်စိတွင်ပင်တည်ရှိသော ကာယဒသကကလာပ်၏ သြဇာ, ဘာဝဒသကကလာပ်၏ သြဇာ, ဇီဝိတနဝက ကလာပ်၏ သြဇာတို့ကလည်း ကမ္မဇဝမ်းမီးနှင့် ဥပတ္ထမ္ဘက-အာဟာရဇသြဇာ၏ အထောက်အပံ့ကို ရရှိရာ၌ အာဟာရဇ သြဇဋ္ဌမကရုပ်များကို အဆင့်ဆင့် ဖြစ်စေပုံကိုလည်းကောင်း, ယင်းရုပ်ကလာပ်တို့တွင်ပါဝင်သော တေဇောဓာတ် = ဥတုကလည်း ဥတုဇသြဇဋ္ဌမက ရုပ်ကလာပ်များကို အဆင့်ဆင့် ဖြစ်စေပုံကိုလည်းကောင်း ဉာဏ်ဖြင့် မြင်အောင် ရှုပါ။ ယင်းရုပ်တရားတို့ကို ပရမတ်သို့ ဆိုက်အောင် ဉာဏ်ဖြင့် ပိုင်းခြားယူပါ။

၂။ **စိတ္တဇသြဇာ** — တစ်ဖန် မျက်စိ၌ တည်ရှိသော စိတ္တဇသြဇဋ္ဌမကကလာပ်အသီးအသီးတွင်လည်း သြဇာ ပါဝင်လျက် ရှိ၏။ ယင်းစိတ္တဇသြဇာသည်လည်း ကမ္မဇဝမ်းမီးနှင့် ဥပတ္ထမ္ဘက-အာဟာရဇသြဇာ၏ အားပေးထောက်ပံ့မှုကို ရရှိသောအခါ နှစ်ဆင့် သုံးဆင့်သော အာဟာရဇသြဇဋ္ဌမကရုပ်ကလာပ်များကို ဖြစ်စေပြန်၏။ နှစ်ဆင့် သုံးဆင့်သော ရုပ်ကလာပ်တို့၏ ဖြစ်ခြင်းကို ဆက်စပ်စေ၏။[၁၀၂] — မြင်အောင် ရှုပါ။

ဤ၌ အဆင့်မြင့်သော သမထဘာဝနာစိတ် ဝိပဿနာဘာဝနာစိတ်အဖြစ်သို့ မရောက်ရှိသေးသော ရိုးရိုး ပကတိသော ကာမာဝစရစိတ်၏ အစွမ်းဖြင့် နှစ်ဆင့်-သုံးဆင့်သော သြဇဋ္ဌမကရုပ်တို့၏ ဖြစ်ခြင်းကို ဖွင့်ဆိုခြင်းဖြစ်သည်။ မဟဂ္ဂုတ် လောကုတ္တရာစိတ်တို့၏ အစွမ်းဖြင့်ကား များစွာသော သြဇဋ္ဌမကရုပ်တို့၏ ဖြစ်ခြင်းကိုလည်း အလို ရှိအပ်သည်သာ ဖြစ်သည်။ ထိုမဟဂ္ဂုတ် လောကုတ္တရာစိတ်တို့ကြောင့် ဖြစ်ကုန်သော စိတ္တဇရုပ်တို့၏ ပြန့်ပြောကြီးကျယ် မြင့်မြတ်သောကြောင့် ဖြစ်၏။[၁၀၃] [၁၀၄]

၃။ **ဥတုဇသြဇာ** — တစ်ဖန် မျက်စိ၌ အထက် ဥတုဇရုပ်ရှုကွက်တွင် ရေးသားတင်ပြခဲ့သည့်အတိုင်း ကမ္မဇတေဇော စိတ္တဇတေဇော ဥတုဇတေဇော အာဟာရဇတေဇောဟူသော တေဇောဓာတ် ဥတုကြောင့် ဖြစ်သော ဥတုဇသြဇဋ္ဌမက

---

[၁၀၀] (ဝိသုဒ္ဓိ၊ ၂၊ ၂၅၁။)

[၁၀၁] **မှတ်ချက်** — ကံ၏ အထောက်အပံ့ အားကောင်းမှု မကောင်းမှု, ဗာဟိရ-အာဟာရ (သြဇာ)၏ မွန်မြတ်မှု မမွန်မြတ်မှု စသည့် အကြောင်းတရားတို့၏ အပေါ်၌ မူတည်၍ အကြိမ် အနည်းအများကား ရှိနိုင်ပေသည်။ တစ်ဖန် ယင်း လေး-ငါးဆင့်သော ရုပ်ကလာပ်တို့တွင် တေဇောဓာတ် ပါဝင်လျက် ရှိ၏။ ယင်းတေဇောဓာတ် ဥတုကလည်း ရုပ်၏ ဌီကာလသို့ ရောက်ရှိခိုက်ဝယ် ဥတုဇသြဇဋ္ဌမကရုပ်ကလာပ် အသစ်အသစ်ကို အဆင့်ဆင့် ဖြစ်ပေါ်စေနိုင်၏ဟု မှတ်ပါ။

[၁၀၂] (ဝိသုဒ္ဓိ၊ ၂၊ ၂၅၁။) [၁၀၃] (မဟာဋီ၊ ၂၊ ၄၀၃။)

[၁၀၄] **မှတ်ချက်** — ယင်းရုပ်ကလာပ်တို့တွင် ပါဝင်သော တေဇောဓာတ် = ဥတုကလည်း ဥတုဇသြဇဋ္ဌမကရုပ်ကလာပ်အသစ်အသစ်ကို ဖြစ်စေနိုင်ပြန်၏။ အကယ်၍ ထိုစိတ်သည် သမထဘာဝနာစိတ် ဝိပဿနာဘာဝနာစိတ် မဂ်စိတ် ဖိုလ်စိတ်တို့ကဲ့သို့သော မွန်မြတ်သော ပဏီတစိတ်ဖြစ်ခဲ့မူ ယင်းတေဇောဓာတ် = ဥတုသည် အဇ္ဈတ္တ၌သာမက ဗဟိဒ္ဓသို့တိုင်အောင်ပင် ဥတုဇသြဇဋ္ဌမက ရုပ်များကို ဘုတ်အဆက်ဆက် ရိုက်ခတ်လျက် အဆင့်ဆင့် ရှည်မြင့်စွာသော ကာလပတ်လုံးလည်း ဖြစ်ပေါ်စေနိုင်ပြန်သည်။ ဉာဏ်အလင်းရောင်ဟူသည်မှာလည်း အဇ္ဈတ္တ၌ ယင်းစိတ္တဇကလာပ် ဥတုဇကလာပ်တို့၏ အတွင်း၌ တည်ရှိသော ဝဏ္ဏဓာတ် = ရူပါရုံ၏ တောက်ပမှုသာ ဖြစ်သည်။ ဗဟိဒ္ဓ၌ကား ယင်း (စိတ္တပစ္စယ) ဥတုဇကလာပ်တို့၏ အတွင်း၌ တည်ရှိသော ဝဏ္ဏဓာတ် = ရူပါရုံ၏ တောက်ပမှုသာ ဖြစ်သည်။

ရုပ်ကလာပ်အသီးအသီး၌လည်း ဩဇာသည် ပါဝင်လျက်ပင် ရှိ၏။ ယင်းဥတုဇဩဇာ အသီးအသီးသည်လည်း ကမ္မဇဝမ်းမီးနှင့် အာဟာရဇဩဇာ၏ အားပေးထောက်ပံ့မှုကို ရရှိသောအခါ (၁၀)ဆင့် (၁၂)ဆင့်သို့ တိုင်အောင်သော ရုပ်ကလာပ်တို့၏ ဖြစ်ခြင်းကို ဆက်စပ်စေ၏။ မြင်အောင် ရှုပါ။[၁၀၅]

ယောဂါဝစရပုဂ္ဂိုလ်သည်ကား ရုပ်ကမ္မဋ္ဌာန်းဇယားများတွင် ရေးသားတင်ပြထားသည့်အတိုင်း ကလာပ်တစ်ခုစီ တစ်ခုစီ ခွဲ၍ သီးသန့် ရှုရန် လိုအပ်ပါသည်။[၁၀၆]

၄။ **(ဇနက) အာဟာရဇဩဇာ** — တစ်ဖန် မျက်စိဝယ် စားမျိုလိုက်သော ကဗဠီကာရအာဟာရတွင် တည်ရှိသော ဥတုဇဩဇဋ္ဌမကရုပ်တို့တွင် ပါဝင်သော ဩဇာက ကမ္မဇဝမ်းမီး၏ အကူအညီဖြင့် အာဟာရဇဩဇဋ္ဌမကရုပ်ကလာပ်များကို ဖြစ်ပွားစေကြောင်းကိုလည်း ရှေးတွင် ရှင်းပြခဲ့ပြီး ဖြစ်၏။ ယင်းအာဟာရဇဩဇဋ္ဌမကရုပ်တို့တွင် ပါဝင်သော ဩဇာကား ဩဇာလက္ခဏာသို့ ဆိုက်ရောက်လာသော **အာဟာရဇဩဇာ**တည်း။ ယင်း အာဟာရဇဩဇဋ္ဌမကရုပ်တို့တွင် ပါဝင်တည်ရှိသော အာဟာရဇဩဇဋ္ဌမကရုပ်ကလာပ် အသစ်အသစ်ကို ဖြစ်စေနိုင်သော စွမ်းအားရှိသော ဇနက-ဩဇာ အသီးအသီးကား ကမ္မဇဝမ်းမီး အသီးအသီး၏ အားပေးထောက်ပံ့မှုဖြင့်, ကလာပ်ပြားဖြစ်သော ဥပတ္ထမ္ဘက-အာဟာရဇဩဇာအသီးအသီး၏လည်း အားပေးထောက်ပံ့မှုဖြင့် အာဟာရဇဩဇဋ္ဌမကရုပ်ကလာပ် အသစ်အသစ်ကို အထပ်ထပ် ဖြစ်စေကြပြန်၏။ တစ်ကြိမ် စားမျိုလိုက်သော အာဟာရသည်ပင် (၇)ရက်ပတ်လုံးသော်လည်း အာဟာရဇ ဩဇဋ္ဌမကရုပ်များကို အဆက်မပြတ် ဖြစ်နေအောင် အားပေးထောက်ပံ့ထားနိုင်သော စွမ်းအား ရှိနေ၏။

ယင်းသို့ အထပ်ထပ် ဖြစ်နေကြသော အာဟာရဇဩဇဋ္ဌမကရုပ်ကလာပ်တို့တွင် အာဟာရဇဩဇာသည် အညာဟာရသမုဋ္ဌိတ-အာဟာရဇဩဇာဟူသော ကလာပ်ပြား အာဟာရဇဩဇဋ္ဌမကရုပ်ကလာပ်တို့တွင် ပါဝင်သော ဥပတ္ထမ္ဘက-ဩဇာ၏ အားပေးထောက်ပံ့မှုနှင့် ကမ္မဇဝမ်းမီး၏ ထောက်ပံ့မှုတို့ကို ရရှိပါက ဋီကာလသို့ ရောက်ရှိခိုက်ဝယ် (အစာကို ကြေကျက်စေတတ်သော ပါစကတေဇောဓာတ် = ကမ္မဇဝမ်းမီး၏ ထက်မြက်မှု မထက်မြက်မှု, အာဟာရဇ ဩဇာ၏ သို့မဟုတ် အာဟာရဇဩဇာ၏ တည်ရာ စားမျို ဝါးမျိုလိုက်သော ဗာဟိရ-အာဟာရ၏ မွန်မြတ်မှု မမွန်မြတ်မှုတို့ အပေါ်၌ အခြေစိုက်၍) အကြိမ် အနည်းငယ်သော်လည်းကောင်း, အကြိမ်များစွာသော်လည်းကောင်း ရုပ်ကလာပ် အသစ်အသစ်တို့၏ ဖြစ်ခြင်းကို ဆက်စပ်မိစေ၏၊ **ဒသ ဒွါဒသ ဝါရေ ပဝတ္တိံ ဃဋ္ဋေတိ** = (၁၀)ကြိမ် (၁၂)ကြိမ်သော ရုပ်တို့၏ ဖြစ်ခြင်းကို ဆက်စပ်မိစေ၏။[၁၀၇] — မြင်အောင် ရှုပါ။

ဤအပိုင်းတွင်ကား အထောက်အပံ့ ခံရသော ဩဇာမှာလည်း အာဟာရဇဩဇဋ္ဌမကရုပ်တို့တွင် ပါဝင်သော ဩဇာတည်း။ ယင်းဩဇာကို ဇနက-ဩဇာဟု ခေါ်ဝေါ်သုံးစွဲထားပေသည်။ အားပေးထောက်ပံ့တတ်သော ဩဇာမှာလည်း အာဟာရဇဩဇဋ္ဌမကရုပ်တို့တွင် ပါဝင်သော ဩဇာပင်တည်း။ ယင်းဩဇာကို ဥပတ္ထမ္ဘက-ဩဇာဟု ခေါ်ဝေါ် သုံးစွဲထားပေသည်။ အကျိုးလည်း အာဟာရဇဩဇာ, အကြောင်းလည်း အာဟာရဇဩဇာတည်း။ သို့သော် ကလာပ်ချင်း မတူညီဘဲ ကလာပ်ချင်း ကွဲပြားကြသည်။[၁၀၈] ယင်းဇနက-ဩဇာ ဥပတ္ထမ္ဘက-ဩဇာ နှစ်မျိုးလုံးတို့ကို အဇ္ဈတ္တိက–အာဟာရဟုလည်းကောင်း, အဇ္ဈတ္တိက–အာဟာရ-ဩဇာဟုလည်းကောင်း, အဇ္ဈတ္တိက–အာဟာရဇဩဇာဟု လည်းကောင်း ခေါ်ဝေါ်သုံးစွဲထားပေသည်၊ စကားအသုံးအနှုန်း ကွဲပြားသော်လည်း တစ်ခုတည်းသော အနက် အဓိပ္ပါယ်ကိုသာ ရည်ညွှန်းထားသည့် အဓိပ္ပါယ်တူစကားလုံးများဟု မှတ်သားပါ။

---

[၁၀၅] ဥတုသမုဋ္ဌာနာ ဌာနပ္ပတ္တာ ဩဇာ အညံ ဩဇဋ္ဌမကံ သမုဋ္ဌာပေတိ၊ တတြာပိ ဩဇာ အညန္တိ ဧဝံ ဒသ ဒွါဒသ ဝါရေ ပဝတ္တိံ ဃဋ္ဋေတိ။ (ဝိသုဒ္ဓိ၊၂၊၂၅၂။)

[၁၀၆] **မှတ်ချက်** — တစ်ဖန် ယင်းအာဟာရဇဩဇဋ္ဌမကရုပ်ကလာပ်တို့တွင် ပါဝင်သော တေဇောဓာတ် = ဥတုကလည်း (၁၀)ဆင့် (၁၂)ဆင့်သို့ တိုင်အောင်သော ရုပ်ကလာပ်တို့၏ ဖြစ်ခြင်းကို ဆက်စပ်မိစေပြန်၏ဟု မှတ်ပါ။ (မဟာဋီ၊၂၊၄၀၇။)

[၁၀၇] (ဝိသုဒ္ဓိ၊၂၊၂၅၁။)

[၁၀၈] **မှတ်ချက်** — တစ်ဖန် အာဟာရဇဩဇဋ္ဌမက ရုပ်ကလာပ်တိုင်းတွင် တေဇောဓာတ် = ဥတုလည်း ပါဝင်လျက် ရှိ၏။ ယင်းတေဇောဓာတ် = ဥတုကလည်း ဥတုဇဩဇဋ္ဌမကရုပ်ကလာပ် အသစ်အသစ်ကို ဖြစ်ပေါ်စေနိုင်ပြန်၏။ မြင်အောင် ရှုပါ။

## လိုရင်းမှတ်သားထားရန်

ရုပ်ကလာပ်တိုင်း ရုပ်ကလာပ်တိုင်း၌ တေဇောဓာတ် (= ဥတု)နှင့် ဩဇာတို့ကား ပါမြဲဓမ္မတာပင် ဖြစ်၏။ ယေဘုယျအားဖြင့် ရုပ်ကလာပ်တိုင်း၌ တည်ရှိသော ဥတုကြောင့်လည်းကောင်း, ဩဇာကြောင့်လည်းကောင်း (ဆိုင်ရာ ဆိုင်ရာ အကြောင်းတရားတို့၏ အထောက်အပံ့ကို ရရှိသောအခါ) ရုပ်ကလာပ်တို့သည် နှစ်ခွ နှစ်ခွ ပွားနေကြ၏။ ဥပမာ - စက္ခုဒသကကလာပ်ကို ခွဲခြမ်းကြည့်ပါက ရုပ်သဘောတရား (၁၀)မျိုး ရှိ၏။ ထိုတွင် တေဇောဓာတ် = ဥတုနှင့် ဩဇာတို့ ပါဝင်ကြ၏။ ဥတုကလည်း (ဥပါဒိန္နကရုပ်၏ အားပေးထောက်ပံ့မှု အထောက်အပံ့အကြောင်းကို ရရှိခဲ့သော်) ဌီကာလသို့ ရောက်ခိုက်ဝယ် ဥတုဇဩဇဋ္ဌမကရုပ်ကို ဖြစ်စေနိုင်၏။ တစ်ဖန် ယင်းစက္ခုဒသကကလာပ် အတွင်း၌ တည်ရှိသော ဩဇာကလည်း ကမ္မဇဝမ်းမီးနှင့် ဥပတ္ထမ္ဘက-အဇ္ဈတ္တိက-အာဟာရ-ဩဇာ၏ အားပေး ထောက်ပံ့မှုကို ရခဲ့သော် ဌီကာလသို့ ရောက်ခိုက်ဝယ် အာဟာရဇဩဇဋ္ဌမကရုပ်ကလာပ်အသစ်ကို ဖြစ်စေပြန်၏ (သားရင်းများတည်း)။

တစ်ဖန် ယင်းစက္ခုဒသကကလာပ်၌ တည်ရှိသော တေဇောဓာတ် ဥတုကြောင့် ဖြစ်သော ဥတုဇဩဇဋ္ဌမကရုပ်ကို ပြန်၍ ခွဲခြမ်းကြည့်ပါက ရုပ်သဘောတရား (၈)မျိုး ရှိနေ၏။ ယင်းရုပ်ကလာပ်၌ တေဇောဓာတ်လည်း ပါဝင်ပြန်၏၊ ဩဇာလည်း ပါဝင်ပြန်၏။ ကမ္မပစ္စယ-ဥတုဇတေဇော ကမ္မပစ္စယ-ဥတုဇဩဇာတို့ပင်တည်း။ ယင်းကမ္မပစ္စယ-ဥတုဇတေဇောဓာတ်ကလည်း (ဥပါဒိန္နကကမ္မဇရုပ်၏ အထောက်အပံ့ကောင်းကို ရရှိသောအခါ) အခြားသော ဥတုဇဩဇဋ္ဌမကရုပ်ကို ဖြစ်စေပြန်၏။ အလားတူပင် ယင်းကမ္မပစ္စယ-ဥတုဇဩဇာကလည်း ကမ္မဇဝမ်းမီးနှင့် ဥပတ္ထမ္ဘက-အဇ္ဈတ္တိက-အာဟာရ-ဩဇာ၏ အားပေး ထောက်ပံ့မှုကို ရခဲ့သော် ဌီကာလသို့ ရောက်ခိုက်ဝယ် အာဟာရဇဩဇဋ္ဌမက ရုပ်ကလာပ်အသစ်ကို ဖြစ်စေပြန်၏ (မြေးရပြန်ပြီ ဟူလို)။[၅၀၉] ဤနည်းအားဖြင့် (၄)ဆင့် (၅)ဆင့်သော အာဟာရဇ ရုပ်ကလာပ်များကို ဆင့်ကာ ဆင့်ကာ ဖြစ်ပေါ်စေကြပေသည်။

## သတိပြုသင့်သော စိတ်ဝင်စားဖွယ်ရာ ဖွင့်ဆိုချက်များ

ဤအရာတွင် ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ[၅၀၉]နှင့် မဟာဋီကာ[၅၁၀]တို့ ဖွင့်ဆိုချက်များ၏ ဆိုလိုရင်းမှာ ဤသို့ ဖြစ်၏. . ။

ရုပ်ကလာပ်တစ်ခုတစ်ခုအတွင်း၌ တည်ရှိသော ဥတု ခေါ် တေဇောဓာတ်သည် ဥပါဒိန္နက အမည်ရသည့် ကမ္မဇရုပ်နှင့် ကင်း၍လည်း ဥတုဇဩဇဋ္ဌမကရုပ်ကို ဖြစ်စေနိုင်သော်ငြားလည်း ဣန္ဒြေတို့နှင့် ဆက်စပ်နေသည့် သက်ရှိလောကဝယ် ယင်း ဥပါဒိန္နက ခေါ် ကမ္မဇရုပ်နှင့် ကင်း၍ ဥတုဇဩဇဋ္ဌမကရုပ်ကလာပ်ကိုကား မဖြစ်စေနိုင်။ ဥပါဒိန္နက အမည်ရသည့် ကမ္မဇရုပ်နှင့် ကင်းပြီး ယင်း ဥတု = တေဇောဓာတ်က ဥတုဇဩဇဋ္ဌမကရုပ်ကလာပ်ကို ဖြစ်စေခြင်းမည်သည် မရှိစကောင်းပေ။ ထို့ကြောင့် ဥပါဒိန္နက ခေါ် ကမ္မဇရုပ်၏ အကြောင်းအထောက်အပံ့ကို ရရှိပါမှ ယင်းဥတု ခေါ် တေဇောဓာတ်က ဥတုဇဩဇဋ္ဌမကရုပ်ကလာပ်ကို ဖြစ်စေနိုင်ကြောင်းကို ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာက ဖွင့်ဆိုသွားခြင်း ဖြစ်ပေသည်။ အစာသစ်ကောဋ္ဌာသကဲ့သို့သော ဥတုကြောင့်ဖြစ်သည့် ဥတုသမုဋ္ဌာန်ရုပ်တို့၌ ပါဝင် တည်ရှိသော ဥတု ခေါ် တေဇောဓာတ်ကသာလျှင် ဥပါဒိန္နက ခေါ် ကမ္မဇရုပ်နှင့် ကင်းပြီး ဥတုဇဩဇဋ္ဌမက ရုပ်ကလာပ်များကို ဖြစ်စေနိုင်ပေသည်။

ဆိုလိုရင်းသဘောကို ထပ်ရှင်းပြပေအံ့ . . ။ ဤခန္ဓာအိမ်ဝယ် အတိတ်က ပြုစုပျိုးထောင်ခဲ့သော ကံကြောင့် ဖြစ်ပေါ်နေကြကုန်သော ကမ္မဇရုပ်တို့ ရှိကြ၏။ ယင်း ကမ္မဇရုပ်တို့ကို ဥပါဒိန္နကကမ္မဇရုပ်များဟု ခေါ်ဆို၏။ အတိတ်ဘဝဝယ် တဏှာ-ဒိဋ္ဌိတို့ကို အခြေခံကာ ပြုစုပျိုးထောင်ခဲ့သော ကံက “ငါ၏ အကျိုး”ဟု စွဲယူအပ်သည့် ရုပ်တရားတို့ ဖြစ်ကြ၏။ ယင်းရုပ်တရားတို့ကို ဖြစ်ပေါ်စေတတ်သော အကြောင်းကံသည် အကယ်၍ အကျိုးဆက်ပေးနိုင်သည့် အရှိန်အဝါ ကုန်ဆုံးသွားသဖြင့် ကမ္မဇရုပ်အသစ်အသစ်တို့ ထပ်မံ မဖြစ်ပေါ်လာကုန်သည် ဖြစ်ငြားအံ့၊ ယင်းကမ္မဇရုပ်တို့

---

[၅၀၉] **ဥတုသမုဋ္ဌာနံ** နာမ စတုသမုဋ္ဌာနော ဥတု ဥပါဒိဏ္ဏကံ ပစ္စယံ လဘိတွာ ဌာနပ္ပတ္တော သရီရေ ရူပံ သမုဋ္ဌာပေတိ။ (ဝိသုဒ္ဓိ၊၂၊၂၅၁။)

[၅၁၀] ယဒိပိ ဥတု ဥပါဒိန္နကေန ဝိနာပိ ရူပံ သမုဋ္ဌာပေတိ၊ ဣန္ဒြိယဗဒ္ဓေ ပန တေန ဝိနာ တဿ ရူပုပ္ပါဒနံ နတ္ထီတိ အာဟ **“ဥပါဒိန္နကံ ပစ္စယံ လဘိတွာ”**တိ။ တေနာဟ “စတုသမုဋ္ဌာနော ဥတူ”တိ။ ဥတုသမုဋ္ဌာနောယေဝ ဟိ ဥတု ဥပါဒိန္နကေန ဝိနာ ရူပံ သမုဋ္ဌာပေတိ။ (မဟာဋီ၊၂၊၄၀၄။)

မရှိကြတော့သဖြင့် ကမ္မဇရုပ်တို့တွင် ပါဝင်သော တေဇောဓာတ် = ဥတုလည်း မရှိနိုင်တော့ပြီ၊ ကမ္မဇသြဇာလည်း မရှိနိုင်တော့ပြီ။ ယင်းသို့ဖြစ်လျှင် ကမ္မဇတေဇောဓာတ် = ဥတုကြောင့် ဖြစ်ပေါ်ရမည့် ဥတုဇသြဇဋ္ဌမကရုပ်တရားတို့လည်း မဖြစ်နိုင်ကြတော့လေကုန်ရာသည်။ ကမ္မဇသြဇာကလည်း ကမ္မဇဝမ်းမီးနှင့် အာဟာရဇသြဇာတို့၏ အထောက်အပံ့ဖြင့် အာဟာရဇသြဇဋ္ဌမကရုပ်တို့ကို မဖြစ်စေနိုင်လေရာ။

အလားတူပင် ကမ္မဇရုပ်တို့ ချုပ်ဆုံးသွားကြသဖြင့် စက္ခု, သောတ, ဃာန, ဇိဝှါ, ကာယ, ဟဒယဟူသော နာမ်တရားတို့၏ မှီရာဝတ္ထုရုပ်တို့လည်း မရှိကြကုန်ပြီ ဖြစ်၏။ မှီရာဝတ္ထုရုပ်တို့ မရှိကြကုန်သော် ယခုကဲ့သို့ ခန္ဓာငါးပါး ရှိသည့် ပဉ္စဝေါကာရဘုံဝယ် စိတ်စေတသိက် = နာမ်တရားတို့လည်း ဖြစ်နိုင်ခွင့် မရှိကြလေကုန်ရာ။ ယင်းသို့ဖြစ်သော် စိတ်စေတသိက်တို့ကြောင့် ဖြစ်ကြရမည့် စိတ္တဇရုပ်တို့လည်း မရှိနိုင်ကြလေကုန်ရာ။ စိတ္တဇရုပ်တို့ မရှိကြတော့ခြင်းကြောင့် စိတ္တဇဥတု, စိတ္တဇသြဇာတို့လည်း မရှိကြတော့သဖြင့် စိတ္တဇဥတုကြောင့် ဖြစ်ကြရမည့် ဥတုဇသြဇဋ္ဌမကရုပ်, စိတ္တဇသြဇာကြောင့် ဖြစ်ကြရမည့် အာဟာရဇသြဇဋ္ဌမကရုပ်တို့လည်း မရှိနိုင်ကြလေကုန်ရာ။

အလားတူပင် ကမ္မဇရုပ်တို့ ချုပ်ဆုံးသွားကြသဖြင့် ကမ္မဇဝမ်းမီးလည်း မရှိနိုင်တော့လေရာ။ ကမ္မဇဝမ်းမီး၏ အထောက်အပံ့ကောင်းကို မရတော့သည့်အတွက် အစာသစ်ကောဋ္ဌာသဖြစ်သည့် ဥတုဇသြဇဋ္ဌမကရုပ်တို့တွင် ပါဝင်သော ဥတုဇသြဇာကလည်း အာဟာရဇသြဇဋ္ဌမကရုပ်ကလာပ်တို့ကို မဖြစ်စေနိုင်လေရာ။ သြဇာလက္ခဏာသို့ ဆိုက်ရောက်လာသော ယင်းအာဟာရဇသြဇာ မရှိတော့သဖြင့် အခြားအခြားသော ကလာပ်ပြားသြဇာတို့ကို အားပေးထောက်ပံ့တတ်သော သြဇာလည်း မရှိနိုင်တော့လေရာ။ ယင်းသို့ဖြစ်သော် အာဟာရဇရုပ်ကလာပ် အစဉ်အတန်းသည်လည်း ပျက်စီးပြီးသာ ဖြစ်သွားပေသည်။

ကမ္မဇရုပ်များ ချုပ်ဆုံးပြီးနောက် ဆက်လက် ဖြစ်နိုင်သော ရုပ်တရားတို့မှာ အလောင်းကောင်အဖြစ်နှင့် တည်ရှိနေကြသော ဥတုဇရုပ်တို့သာတည်း။ အလောင်းကောင်၌ တည်ရှိသော ရုပ်တရားတို့ကား ဥတုဇသြဇဋ္ဌမက ရုပ်တရားတို့သာတည်း။ ရုပ်ကလာပ်တစ်ခု၌ တည်ရှိသော တေဇောဓာတ်ကြောင့် ဆင့်ကဲ ဖြစ်ပွားနေသော ဥတုဇရုပ်တို့၏ အစဉ်အတန်းသာ ဖြစ်ပေသည်။ ယင်းဥတုဇရုပ်တို့တွင် ပါဝင်တည်ရှိသော တေဇောဓာတ် = ဥတုတို့ကား ကမ္မဇရုပ်တို့၏ အထောက်အပံ့နှင့် ကင်း၍လည်း ဥတုဇသြဇဋ္ဌမကရုပ်ကလာပ် အသစ်အသစ်ကို ဖြစ်စေနိုင်သည့် စွမ်းအား ရှိကြပေသည်။

ထိုကြောင့် ဣန္ဒြေတို့နှင့် ဆက်စပ်နေသည့် သက်ရှိလောကဝယ် ကမ္မဇဥတု, စိတ္တဇဥတု, အာဟာရဇဥတု ဟူသော ဥတုအသီးအသီးတို့က ဥတုဇသြဇဋ္ဌမကရုပ်ကလာပ်အသစ်အသစ်ကို ဖြစ်စေရာ၌ ဥပါဒိန္နကအမည်ရသည့် ကမ္မဇရုပ်တို့၏ အထောက်အပံ့ကား လိုအပ်လျက်ပင် ရှိပေသည်။ အစာသစ်ကောဋ္ဌာသကဲ့သို့သော ဥတုဇသြဇဋ္ဌမက ရုပ်ကလာပ်တို့တွင် ပါဝင်တည်ရှိသော ဥတု ခေါ် တေဇောဓာတ်က ရုပ်ကလာပ်အသစ်အသစ်ကို ဖြစ်စေရာ၌သာ ကမ္မဇရုပ်တို့၏ အထောက်အပံ့ကို မလိုဟု မှတ်သားပါလေ။ သက်မဲ့လောက ဥတုဇရုပ်တို့၌လည်း ပုံစံတူပင် မှတ်သားပါလေ။

## နှစ်ခွ နှစ်ခွ ပွားပုံ

တစ်ဖန် ယင်းစက္ခုဒသကကလာပ်၌ တည်ရှိသော တေဇောဓာတ် ဥတုကြောင့် ဖြစ်သော ဥတုဇသြဇဋ္ဌမက ရုပ်တို့တွင် ပါဝင်သော သြဇာသည်လည်း ကမ္မဇဝမ်းမီးနှင့် ဥပတ္ထမ္ဘက-အာဟာရဇသြဇာ၏ အထောက်အပံ့ကောင်းကို ရရှိသောအခါ အာဟာရဇသြဇဋ္ဌမကရုပ်ကလာပ်အသစ်ကို ဖြစ်စေပြန်၏ (မြေးရပြန်ပြီ ဟူလိုသည်)။ ဤနည်းအားဖြင့် စက္ခုဒသကကလာပ်အတွင်း၌ တည်ရှိသော တေဇောဓာတ်ကို အခြေတည်၍ ဖြစ်ပေါ်လာသော ဥတုဇသြဇဋ္ဌမက ရုပ်တို့တွင် ပါဝင်သော တေဇောဓာတ်နှင့် သြဇာကြောင့် (၄-၅)ဆင့်သော သားစဉ်မြေးဆက် ဥတုဇရုပ် အာဟာရဇရုပ်တို့ ဖြစ်ပုံကို မြင်အောင် ရှုပါ။

တစ်ဖန် ယင်းစက္ခုဒသကကလာပ်တွင်ပင် သြဇာ ပါဝင်လျက် ရှိ၏၊ ကမ္မဇသြဇာတည်း။ ယင်းသြဇာသည် ကမ္မဇဝမ်းမီးနှင့် အာဟာရဇသြဇာ၏ အထောက်အပံ့ကို ရရှိသောအခါ အာဟာရဇသြဇဋ္ဌမကရုပ်ကလာပ်ကို ဖြစ်စေပြန်၏။ ယင်းရုပ်ကလာပ်တွင် တေဇောဓာတ်နှင့် သြဇာတို့ ပါဝင်ပြန်၏။ ယင်း တေဇောဓာတ်နှင့် သြဇာတို့ကလည်း အထက်ပါအတိုင်း (၄-၅)ဆင့်သော ရုပ်ကလာပ်တို့ကို အဆင့်ဆင့် ဖြစ်ပေါ်စေနိုင်ပြန်၏။ မြင်အောင် ရှုပါ။ နှစ်ခွ

နှစ်ခွ ပွားသွားပုံကို သဘောပေါက်အောင် အထပ်ထပ် လေ့လာပါ။[၅၁၁]

တစ်ဖန် . . မျက်စိ၌ပင် တည်ရှိသော ကာယဒသကကလာပ် ဘာဝဒသကကလာပ် ဇီဝိတနဝကကလာပ် စိတ္တဇသြဇဋ္ဌမကကလာပ် ဥတုဇသြဇဋ္ဌမကကလာပ် အာဟာရဇသြဇဋ္ဌမကကလာပ်ဟူသော ရုပ်ကလာပ်အသီးအသီး၌ တည်ရှိသော တေဇောဓာတ် (= ဥတု)နှင့် သြဇာတို့ကလည်း ဥတုဇရုပ် အာဟာရဇရုပ်တို့ကို နှစ်ခွ နှစ်ခွ ဖြစ်ပွားသွားစေပုံကို မြင်အောင် ရှုပါ။ (၆)ဒွါရ (၄၂)ကောဋ္ဌာသတို့၌ ပုံစံတူ ရှုရန် ဖြစ်သည်။[၅၁၂]

ဤဖော်ပြပါ ရုပ်တို့၏ ဖြစ်ပုံကို သေချာစေ့ငု ဖတ်ရှု၍ ရုပ်ကမ္မဋ္ဌာန်းဇယားများကို ကြည့်၍ ဆရာသမားနှင့်လည်း စနစ်တကျ လေ့ကျင့်ပေးပါက ကံ-စိတ်-ဥတု-အာဟာရဟူသော အကြောင်းတရားလေးပါးကြောင့် ထင်ရှားဖြစ်ပေါ်လာရသော ရုပ်တရားတို့ကို ပရမတ်သို့ ဉာဏ်အမြင် ဆိုက်သည့်တိုင်အောင် စနစ်တကျ ရှုပွားတတ် သိမ်းဆည်းတတ် ဉာဏ်ဖြင့် ပိုင်းခြားယူတတ်မည် ဖြစ်ပေသည်။



## ဓာတ်ကမ္မဋ္ဌာန်း အကျယ်ရှုပွားနည်း

ဤတိုင်အောင် တင်ပြခဲ့သော (၆)ဒွါရ၌ တည်ရှိသော စတုသမုဋ္ဌာနိက (= ကံ-စိတ်-ဥတု-အာဟာရ ဟူသော အကြောင်းတရားလေးပါးကြောင့် ထင်ရှားဖြစ်ပေါ်လာရသော) ရုပ်တရားတို့ကို ရှုခြင်းသည်ကား ဓာတ်ကမ္မဋ္ဌာန်း အကျဉ်းနည်းတည်း။ ထိုမှ တစ်ဆင့် တက်၍ ဓာတ်ကမ္မဋ္ဌာန်းအကျယ်နည်းကို ရှုနိုင်ပါသည်။ ဓာတ်ကမ္မဋ္ဌာန်း အကျယ်ရှုပွားနည်း၌ . .

| | | |
|---|---|---|
| ၁။ ပထဝီကောဋ္ဌာသ | — | ၂၀ |
| ၂။ အာပေါကောဋ္ဌာသ | — | ၁၂ |
| ၃။ တေဇောကောဋ္ဌာသ | — | ၄ |
| ၄။ ဝါယောကောဋ္ဌာသ | — | ၆ |
| အားလုံးပေါင်းသော် | — | ၄၂ - ကောဋ္ဌာသ |

ဤသို့လျှင် (၄၂)ကောဋ္ဌာသ လာရှိပေသည်။ ထိုတွင် ပထဝီကောဋ္ဌာသ (၂၀), အာပေါကောဋ္ဌာသ (၁၂)မျိုး၊ ပေါင်း (၃၂)ကောဋ္ဌာသတို့ကို ရုပ်အရေအတွက်နှင့်တကွ **သမထကမ္မဋ္ဌာန်းပိုင်း**တွင် ရေးသားတင်ပြခဲ့ပြီးလေပြီ။ ယင်းကောဋ္ဌာသ တစ်ခုစီတစ်ခုစီ၌ တည်ရှိသော ဓာတ်ကြီးလေးပါးကို ဉာဏ်ဖြင့် မြင်အောင် ရှုပါ။ ရုပ်ကလာပ်များကို တွေ့မြင်ရသောအခါ အထက်ပါ ကာယဒွါရ၌ တင်ပြထားသော ဇယားကို နည်းမှီ၍ ရသင့်သမျှ ရုပ်တရားတို့ကို သိမ်းဆည်း ရှုပွားပါ။ ထိုတွင် . .

၁။ ချွေး-မျက်ရည်-တံတွေး-နှပ် - ဤကောဋ္ဌာသ (၄)မျိုးတို့၌ စိတ္တဇသြဇဋ္ဌမကရုပ် (၈) + ဥတုဇသြဇဋ္ဌမကရုပ် (၈) - နှစ်ရုပ်ပေါင်းသော် (၁၆)မျိုး (၁၆)မျိုးစီသော ရုပ်တရားတို့ ရှိကြ၏။ စိတ်ကြောင့်လည်း ဖြစ်၏၊ ဥတုကြောင့်လည်း ဖြစ်၏။

၂။ အစာသစ်-အစာဟောင်း-ပြည်-ကျင်ငယ် - ဤကောဋ္ဌာသ (၄)မျိုးတို့၌ ဥတုကြောင့်ဖြစ်သော ဥတုဇသြဇဋ္ဌမကရုပ် (၈)မျိုး (၈)မျိုးစီသာ ရှိ၏။

၃။ ကြွင်းသော ကောဋ္ဌာသ (၃၄)မျိုးတို့၌ကား ကာယဒွါရ၌ တင်ပြထားသည့်အတိုင်း ကောဋ္ဌာသတစ်ခုတစ်ခု၌ (၅၃)မျိုး (၅၃)မျိုးစီသော ရုပ်တရားတို့ ရှိကြ၏၊ မြင်အောင်ရှုပါ။ သည်းခြေကို ရှုရာ၌ ဗဒ္ဓသည်းခြေ = အိမ်သည်းခြေ,

---

[၅၁၁] (မဟာဋီ၊၂၄၀၁ - ကြည့်ပါ။)

[၅၁၂] **သတိပြုရန်** — ထိုကဲ့သို့ (၂)ဆင့် (၃)ဆင့် (၄)ဆင့် (၅)ဆင့် (၁၀)ဆင့် (၁၂)ဆင့်, အဆင့်များစွာ တိုင်အောင်, အဇ္ဈတ္တတွင်သာမက ဗဟိဒ္ဓသို့တိုင်အောင် ရုပ်ကလာပ်တို့ကို အဆင့်ဆင့် ဖြစ်စေရာ၌ နောက်ဆုံးအဆင့်တွင် တည်ရှိသော ရုပ်ကလာပ်တွင်ပါဝင်သော တေဇောဓာတ်နှင့် သြဇာတို့သည် အသစ်အသစ်သော ဥတုဇရုပ်ကလာပ်နှင့် အာဟာရဇရုပ်ကလာပ်ကို မဖြစ်စေနိုင်ဟု မှတ်ပါ။

အဗဒ္ဓသည်းခြေ = အရည်သည်းခြေ နှစ်မျိုးခွဲ၍ ရှုပါ။ သွေးကောဋ္ဌာသ၌လည်း သန္နိစိတလောဟိတ = နှလုံး အသည်း စသည်တို့၏ ပတ်ဝန်းကျင်၌ မလည်ပတ်ဘဲ ငြိမ်သက်စွာ စုဝေးတည်နေသော သွေး, သံသရဏလောဟိတ = အကြောအတွင်းမှ တစ်ကိုယ်လုံးသို့ အနှံ့အပြား လည်ပတ်သွားလာနေသော သွေး - ဤသွေးနှစ်မျိုးလုံး၌ (၅၃)မျိုးသော ရုပ်တရားတို့ကို သိမ်းဆည်းရှုပွားပါ။

## တေဇောဓာတ် လွန်ကဲသော တေဇောကောဋ္ဌာသ (၄) မျိုး[၁၁၄]

၁။ သန္တပ္ပနတေဇော = တစ်ရက်ချန်ဖျားခြင်း စသည်ဖြင့် ပြင်းစွာပူလောင်သော တေဇော = ၃၃
၂။ ဍာဟတေဇော = အလွန့်အလွန် ပြင်းထန်စွာ ထက်ဝန်းကျင် ပူလောင်သော တေဇော = ၃၃
၃။ ဇီရဏတေဇော = အိုစေ, ရင့်ကျက်စေ, ဆွေးမြည့်စေသော ပူလောင်သော တေဇော = ၃၃
၄။ ပါစကတေဇော = အစာကိုကြေကျက်စေသော ပူလောင်သော တေဇော (ဇီဝိတနဝကကလာပ်) = ၉

ဤ၌ (၃၃)မျိုးသော ရုပ်တရားတို့ဟူသည်မှာ —

| | | |
|---|---|---|
| ၁။ ဇီဝိတနဝကကလာပ် (ကမ္မဇ) | = | ၉ |
| ၂။ စိတ္တဇသြဇဋ္ဌမကကလာပ် | = | ၈ |
| ၃။ ဥတုဇသြဇဋ္ဌမကကလာပ် | = | ၈ |
| ၄။ အာဟာရဇသြဇဋ္ဌမကကလာပ် | = | ၈ |
| အားလုံးပေါင်းသော် | = | ၃၃ - ဖြစ်သည်။ |

## ဝါယောဓာတ်လွန်ကဲသော ဝါယောကောဋ္ဌာသ (၆) မျိုး

၁။ ဥဒ္ဓင်္ဂမ-ဝါတာ = အထက်သို့ ဆန်တက်သောလေ = ၃၃
၂။ အဓောဂမ-ဝါတာ = အောက်သို့ စုန်ဆင်းသောလေ = ၃၃
၃။ ကုစ္ဆိသယ-ဝါတာ = ဝမ်းဗိုက်အတွင်း အူ၏ အပြင်ဘက်၌ တည်ရှိသောလေ = ၃၃
၄။ ကောဋ္ဌာသယ-ဝါတာ = အူအတွင်း၌ တည်ရှိသောလေ = ၃၃
၅။ အင်္ဂမင်္ဂါနုသာရိနော-ဝါတာ =
ကိုယ်အင်္ဂါကြီးငယ်သို့ အစဉ်လျှောက်သော အကြောအတွင်း၌ တည်ရှိသောလေ = ၃၃
၆။ အဿာသပဿာသော-ဝါတာ = ဝင်သက်လေ-ထွက်သက်လေ = ၉

ဤ၌ (၃၃) ဟူသည်မှာ ဇီဝိတနဝကကလာပ် (= ၉) + စိတ္တဇသြဇဋ္ဌမကကလာပ် (= ၈) + ဥတုဇသြဇဋ္ဌမကကလာပ် (= ၈) + အာဟာရဇသြဇဋ္ဌမကကလာပ် (= ၈) = ၃၃ ဖြစ်သည်။ ထိုတွင် ဇီဝိတနဝကကလာပ်မှာ ကမ္မဇရုပ်ကလာပ်ဖြစ်သည်။

ထို ဝါယောဓာတ် လွန်ကဲသော ဝါယောကောဋ္ဌာသ (၆)မျိုးလုံး၌ပင် ရှေးဦးစွာ မိမိရှုပွားလိုသော ဝါယောကောဋ္ဌာသ (= လေ)ကို ဉာဏ်ဖြင့် မြင်အောင် ကြည့်ပါ။ ဥပမာ - အထက်သို့ ဆန်တက်သော လေကို ရှုလိုပါက အူ၏အတွင်းစသည့် ထိုထိုအရပ်၌ တည်ရှိသော အထက်သို့ ဆန်တက်လာသော လေကို ရှေးဦးစွာ မြင်အောင် ကြည့်ပါ။ မမြင်နိုင်ဖြစ်နေပါက မိမိရရှိထားပြီးသည့် သမာဓိကို အဆင့်ဆင့် ပြန်၍ ထူထောင်ပါ။ လင်းရောင်ခြည်စွမ်းအင်များ အားကောင်းလာသောအခါ ယင်းလေကို တစ်ဖန်ပြန်၍ ရှုကြည့်ပါ။ အောင်မြင်မှု ရနိုင်ပါသည်။ ယင်းလေကို ဉာဏ်ဖြင့် တွေ့မြင်သောအခါ ယင်းလေ၌ တည်ရှိသော ဓာတ်ကြီးလေးပါးကို (ဝါယောဓာတ် လွန်ကဲနေသော ဓာတ်ကြီးလေးပါးကို)

---

[၁၁၄] **မှတ်ချက်** — ဤတေဇောကောဋ္ဌာသ (၄)မျိုးကား ပထဝီကောဋ္ဌာသ, အာပေါကောဋ္ဌာသတို့ကဲ့သို့ ပုံသဏ္ဌာန် ကောဋ္ဌာသ မရှိပေ။ တေဇောဓာတ်လွန်ကဲသော မကြည်သော ရုပ်ကလာပ်အမှုန်များသာ ဖြစ်ကြသည်။ ထို့ကြောင့် ရုပ်ကလာပ်အမှုန်များ အတွင်းမှာသာ တေဇောဓာတ် = အပူလွန်ကဲသော ရုပ်ကလာပ်အမှုန်များကို ရှာဖွေ၍ ရှုပါ။ သန္တပ္ပနတေဇောနှင့် ဍာဟတေဇောတို့ကို ရှုရာ၌ အခက်အခဲရှိနေပါက မထင်မရှားဖြစ်နေပါက ဖျားနာနေသည့် အချိန်အခါ ဖျားနာခဲ့ဖူးသည့် အချိန်အခါကို အာရုံယူ၍ လှမ်းရှုကြည့်ပါ။

တစ်စိတ်သားခန့် ရှိနေ၏။ ပရမာဏုမြူထက် အဆပေါင်းများစွာ သေးငယ်နေသော ယင်းရုပ်ကလာပ်တို့၌ ဓာတ်ကြီးလေးပါးကား ပါဝင်လျက် ရှိ၏။ ရုပ်ကလာပ်တိုင်း၌ တည်ရှိသော ယင်းဓာတ်ကြီးလေးပါးတိုင်းကိုကား သာဝကတို့သည် ကုန်စင်အောင် မရှုနိုင်။ **ကေဒေသ** = အချို့အဝက် = တစ်စိတ်တစ်ဒေသမျှလောက်ကိုသာ ဝိပဿနာ ရှုနိုင်ကြ၏။ ဥပါဒါရုပ်တို့၌လည်း နည်းတူပင် မှတ်ပါ။

မျက်စိတစ်မှိတ် လျှပ်တစ်ပြက် လက်ဖျစ်တစ်တွက်ဟူသော အလွန် တိုတောင်းသော အချိန်ကာလအတွင်း၌ နာမ်တရားတို့သည် စိတ္တက္ခဏပေါင်း ကုဋေသိန်းနှင့်ချီ၍ ဖြစ်နိုင်ကြ၏။ ဘဝတစ်လျှောက်၌ကား မရေမတွက်နိုင်အောင် များပြားလှသည်သာ ဖြစ်၏။ ယင်းနာမ်တရားတို့ကိုကား သာဝကတို့သည် ကုန်စင်အောင် မရှုနိုင်၊ **ကေဒေသ** = အချို့အဝက် = တစ်စိတ်တစ်ဒေသမျှကိုသာ ရှုနိုင်ကြ၏။

သို့သော် အရေအတွက်ကို ကုန်စင်အောင် မရှုနိုင်သော်လည်း ရုပ်ကမ္မဋ္ဌာန်းပိုင်းဇယားများတွင် ရေးသား တင်ပြထားသည့်အတိုင်း ရုပ်ကလာပ်အမျိုးအစား = ရုပ်အမျိုးအစားကိုကား ကုန်စင်အောင် ရှုရမည်သာ ဖြစ်သည်။ အလားတူပင် စက္ခုဒွါရဝီထိစသည့် ဝီထိအမျိုးအစား (၆)မျိုးကိုကား ကုန်စင်အောင် ရှုရမည် ဖြစ်သည်။ ဘဝ-တစ်လျှောက်ဝယ် ရူပါရုံကို မြင်သိတတ်သော စက္ခုဒွါရဝီထိပေါင်းကား များစွာဖြစ်နိုင်၏၊ ကုန်စင်အောင်ကား မရှုနိုင်၊ အချို့အဝက်မျှကိုသာ ရှုနိုင်၏။ သောတဒွါရဝီထိ စသည်တို့၌လည်း နည်းတူပင် မှတ်ပါ။ ထိုကြောင့် အဋ္ဌကထာကြီးများက

၁။ ကာယာနုပဿနာမုခေန = ကာယာနုပဿနာကို အဦးမူသဖြင့်,
၂။ ဝေဒနာနုပဿနာမုခေန = ဝေဒနာနုပဿနာကို အဦးမူသဖြင့်,
၃။ စိတ္တာနုပဿနာမုခေန = စိတ္တာနုပဿနာကို အဦးမူသဖြင့်,
၄။ ဓမ္မာနုပဿနာမုခေန = ဓမ္မာနုပဿနာကို အဦးမူသဖြင့် —

ဤသို့ စသည်ဖြင့် ဖွင့်ဆိုထားတော်မူပေသည်။[၁၆၉] ထိုကြောင့် အောက်ပါအတိုင်း အနုပဿနာ (၄)ပါးကို မှတ်သားပါ။

၁။ ရုပ်တရားကို အဦးမူသဖြင့် ရုပ်-နာမ်-ကြောင်း-ကျိုး = သင်္ခါရတရားတို့ကို သိမ်းဆည်းလျက် ယင်းသင်္ခါရတရားတို့ကို ဝိပဿနာရှုခဲ့သော် ယင်းဝိပဿနာသည် ကာယာနုပဿနာသတိပဋ္ဌာန်သို့ သက်ဝင်၏။ အထူးသဖြင့် သုဒ္ဓဝိပဿနာယာနိကပုဂ္ဂိုလ်များသည် ဓာတ်ကြီးလေးပါးကို = ရုပ်တရားကို အဦးမူသဖြင့် သင်္ခါရတရားတို့ကို သိမ်းဆည်းလျက် ဝိပဿနာသို့ ကူးကြသဖြင့် ယေဘုယျအားဖြင့် ထိုပုဂ္ဂိုလ်တို့၏ အနုပဿနာသည် ကာယာ-နုပဿနာသတိပဋ္ဌာန်သို့ သက်ဝင်၏။

တစ်ဖန် နာမ်ကမ္မဋ္ဌာန်း သိမ်းဆည်းနည်း သုံးနည်းတို့တွင် —

၂။ ဝေဒနာကို အဦးမူသဖြင့် ရုပ်-နာမ်-ကြောင်း-ကျိုး = သင်္ခါရတရားတို့ကို သိမ်းဆည်းလျက် ယင်းသင်္ခါရတရားတို့ကို ဝိပဿနာရှုခဲ့သော် ယင်းဝိပဿနာသည် ဝေဒနာနုပဿနာသတိပဋ္ဌာန်သို့ သက်ဝင်၏။

၃။ အသိစိတ် = ဝိညာဏ်ကို အဦးမူသဖြင့် ရုပ်-နာမ်-ကြောင်း-ကျိုး = သင်္ခါရတရားတို့ကို သိမ်းဆည်းလျက် ယင်းသင်္ခါရတရားတို့ကို ဝိပဿနာရှုခဲ့သော် ယင်းဝိပဿနာသည် စိတ္တာနုပဿနာသတိပဋ္ဌာန်သို့ သက်ဝင်၏။

၄။ ဖဿကို အဦးမူသဖြင့် ရုပ်-နာမ်-ကြောင်း-ကျိုး = သင်္ခါရတရားတို့ကို သိမ်းဆည်းလျက် ယင်းသင်္ခါရတရားတို့ကို ဝိပဿနာရှုခဲ့သော် ယင်းဝိပဿနာသည် ဓမ္မာနုပဿနာသတိပဋ္ဌာန်သို့ သက်ဝင်၏။ ခန္ဓာငါးပါး ရှုနည်း, အာယတန (၁၂)ပါး ရှုနည်း, ဓာတ် (၁၈)ပါး ရှုနည်း စသည်တို့သည်လည်း ဓမ္မာနုပဿနာသတိပဋ္ဌာန်တို့ပင် ဖြစ်ကြသည်။[၁၇၀]

နာမ်ကမ္မဋ္ဌာန်း သိမ်းဆည်းနည်း (၃)နည်းတို့တွင် ဝေဒနာကစ၍ သင်္ခါရတရားတို့ကို သိမ်းဆည်း ရှုပွားသော နည်းသည် ဝေဒနာနုပဿနာသတိပဋ္ဌာန် ဖြစ်သည်၊ အသိစိတ် = ဝိညာဏ်က စ၍ သင်္ခါရတရားတို့ကို သိမ်းဆည်း ရှုပွားသောနည်းသည် စိတ္တာနုပဿနာသတိပဋ္ဌာန် ဖြစ်သည်၊ ဖဿက စ၍ သင်္ခါရတရားတို့ကို သိမ်းဆည်းရှုပွားသော နည်းသည် ဓမ္မာနုပဿနာသတိပဋ္ဌာန် ဖြစ်သည်။

---

[၁၆၉] (မ၊ဋ္ဌ၊၁၊၂၄၅-ကြည့်ပါ။) [၁၇၀] (အဘိ၊ဋ္ဌ၊၂၊၂၇၃ - ကြည့်။)

သမထယာနိကပုဂ္ဂိုလ်သည် ဒိဋ္ဌိဝိသုဒ္ဓိစခန်းသို့ ကူးသောအခါ နာမ်ကမ္မဋ္ဌာန်းက စ၍လည်း အားသစ်လိုက အားသစ်နိုင်၏။ ရုပ်ကမ္မဋ္ဌာန်းက စ၍လည်း အားသစ်လိုက အားသစ်နိုင်၏။ အကယ်၍ နာမ်ကမ္မဋ္ဌာန်းက စ၍ အားသစ်ခဲ့သော် ဈာန်အင်္ဂါတို့ကိုလည်းကောင်း, ဈာနသမ္ပယုတ်တရားတို့ကိုလည်းကောင်း ရှေးဦးစွာ သိမ်းဆည်းရ၏။ ထိုနောင် မှီရာ ဟဒယဝတ္ထုနှင့် တကွသော ဘူတရုပ် ဥပါဒါရုပ်တို့ကို သိမ်းဆည်းရ၏။[၅၇၁]

ထို့နောင် ပြိုးပြွမ်းသော (= ပကိဏ္ဏက) သင်္ခါရအမည်ရသည့် သင်္ခါရတရားတို့တွင် အကျုံးဝင်သော ကာမာဝစရ နာမ်တရားတို့ကိုလည်းကောင်း ကြွင်းကျန်သော ရုပ်တရားတို့ကိုလည်းကောင်း ဆက်လက် သိမ်းဆည်းရ၏။ တစ်ဖန် သုဒ္ဓဝိပဿနာယာနိကပုဂ္ဂိုလ်သည်လည်း ရုပ်ကမ္မဋ္ဌာန်းကို အားသစ်ပြီးသောအခါ ကာမာဝစရ နာမ်တရားတို့ကို ဆက်လက်၍ သိမ်းဆည်းရမည် ဖြစ်သည်။

သမထယာနိကပုဂ္ဂိုလ် သုဒ္ဓဝိပဿနာယာနိကပုဂ္ဂိုလ် နှစ်ဦးလုံးတို့သည်ပင် ကာမာဝစရ နာမ်တရားတို့ကို သိမ်းဆည်းလိုလတ်သော် . .

**ပရိဂ္ဂဟိတေ ရူပကမ္မဋ္ဌာနေ** - ဟူသော မူလပဏ္ဏာသအဋ္ဌကထာ[၅၇၂], ဤကျမ်း[၅၇၃]၌ တင်ပြခဲ့သော ဝိသုဒ္ဓိမဂ္ဂ အဋ္ဌကထာ[၅၇၄]တို့၏ သတ်မှတ်ချက်နှင့် အညီ ရုပ်ကမ္မဋ္ဌာန်းကို အားသစ်ပြီး သိမ်းဆည်းပြီး ဖြစ်ရပေမည်။ တစ်ဖန်. .

မူလပဏ္ဏာသအဋ္ဌကထာ[၅၇၄]နှင့် အဋ္ဌသာလိနီအဋ္ဌကထာ[၅၇၅]တို့က သတ်မှတ်ပေးထားသော စည်းကမ်းဥပဒေသနှင့် အညီ ယင်းရုပ်တရားတို့ကိုပင် အာရုံယူ၍ ဖြစ်ပေါ်လာသော နာမ်တရားတို့က စတင်၍ သိမ်းဆည်းရမည် ဖြစ်ပေသည်။ ထိုသို့ သိမ်းဆည်းရာ၌ အောက်ပါ စည်းကမ်းသတ်မှတ်ချက်များကိုလည်း အထူးလိုက်နာဖို့ လိုအပ်ပေသည်။

## ဝေဒနာက စ၍ သိမ်းဆည်းရာ၌ လိုက်နာရမည့် စည်းကမ်း

ဝေဒနာ ထင်ရှားသော ယောဂါဝစရပုဂ္ဂိုလ်သည်လည်း — "ဝေဒနာတစ်ခုတည်းသာလျှင် ဖြစ်ပေါ်၍နေသည်ကား မဟုတ်၊ ထိုဝေဒနာနှင့် အတူတကွ ထိုအာရုံကိုပင်လျှင် တွေ့ထိသော အခြင်းအရာအားဖြင့် ဖြစ်သော ဖဿသည်လည်း ဖြစ်ပေါ်နေ၏၊ ထိုအာရုံကို မှတ်သားတတ်သော သညာသည်လည်း ဖြစ်ပေါ်နေ၏၊ ထိုအာရုံပေါ်သို့ သမ္ပယုတ်တရားတို့ကို ရောက်အောင် စေ့ဆော်ပေးတတ် လှုံ့ဆော်ပေးတတ်သော စေတနာသည်လည်း ဖြစ်ပေါ်နေ၏၊ ထိုအာရုံကို ပိုင်းခြားယူတတ် = သိတတ်သော ဝိညာဏ်သည်လည်း ဖြစ်ပေါ်နေ၏"ဟု နှလုံးပိုက်၍ ဖဿလျှင် ငါးခုမြောက်ရှိသော ဖဿပဉ္စမက တရားတို့ကိုပင် သိမ်းဆည်း၏။[၅၇၆]

## ဝိညာဏ်က စ၍ သိမ်းဆည်းရာ၌ လိုက်နာရမည့် စည်းကမ်း

အသိစိတ် ဝိညာဏ် ထင်ရှားသော ယောဂါဝစရပုဂ္ဂိုလ်သည်လည်း "ဝိညာဏ်တစ်ခုတည်းသာ ဖြစ်ပေါ်၍နေသည်ကား မဟုတ်၊ ထိုဝိညာဏ်နှင့် အတူ ထိုအာရုံကိုပင် တွေ့ထိသော အခြင်းအရာအားဖြင့် ဖြစ်သော ဖဿသည်လည်း ဖြစ်ပေါ်နေ၏၊ ထိုအာရုံ၏ အရသာကို ခံစားတတ်သော ဝေဒနာသည်လည်း ဖြစ်ပေါ်နေ၏၊ ထိုအာရုံကို မှတ်သားတတ်သော သညာသည်လည်း ဖြစ်ပေါ်နေ၏၊ ထိုအာရုံပေါ်သို့ သမ္ပယုတ်တရားတို့ကို ရောက်အောင် စေ့ဆော်ပေးတတ် လှုံ့ဆော်ပေးတတ်သော စေတနာသည်လည်း ဖြစ်ပေါ်နေ၏"ဟု နှလုံးပိုက်၍ ဖဿလျှင် ငါးခုမြောက်ရှိသော ဖဿပဉ္စမကတရားတို့ကိုပင် သိမ်းဆည်း၏။[၅၇၇]

---

[၅၇၁] (ဝိသုဒ္ဓိ၊၂၊၂၂၂ - ကြည့်ပါ။) [၅၇၂] (မဋ္ဌ၊၁၊၂၈၀။)[၁၁၃ ၁၄၄] [၅၇၃] (စာမျက်နှာ၊ ၃၅၂။) [၅၇၄] တသ္မိံ အာရမ္မဏေ။ (မဋ္ဌ၊၁၊၂၈၀။)

[၅၇၅] တသ္မာ တံ ရူပံ အာရမ္မဏံ ကတွာ ဥပ္ပန္နံ ဝေဒနံ သညံ သင်္ခါရေ ဝိညာဏဉ္စ "ဣဒံ အရူပ"န္တိ ပရိစ္ဆိန္ဒိတွာ အနိစ္စာဒိတော ပဿတိ။ (အဘိ၊ဋ္ဌ၊၁၊၂၇၁။)

[၅၇၆] ယဿ ဝေဒနာ ပါကဋာ ဟောတိ၊ သော "န ကေဝလံ ဝေဒနာဝ ဥပ္ပဇ္ဇတိ၊ တာယ သဒ္ဓိံ တဒေဝါရမ္မဏံ ဖုသမာနော ဖဿောပိ ဥပ္ပဇ္ဇတိ၊ သဉ္ဇာနနမာနာ သညာပိ, စေတယမာနာ စေတနာပိ, ဝိဇာနနမာနံ ဝိညာဏမ္ပိ ဥပ္ပဇ္ဇတီ"တိ ဖဿပဉ္စမကေယေဝ ပရိဂ္ဂဏှာတိ။ (ဒီ၊ဋ္ဌ၊၂၊၃၁၄။ မဋ္ဌ၊၁၊၂၈၀။ အဘိ၊ဋ္ဌ၊၂၊၂၅၂။)

[၅၇၇] ယဿ ဝိညာဏံ ပါကဋံ ဟောတိ၊ သော "န ကေဝလံ ဝိညာဏမေဝ ဥပ္ပဇ္ဇတိ၊ တေန သဒ္ဓိံ တဒေဝါရမ္မဏံ ဖုသမာနော ဖဿောပိ ဥပ္ပဇ္ဇတိ၊ အနုဘဝမာနာ ဝေဒနာပိ, သဉ္ဇာနနမာနာ သညာပိ, စေတယမာနာ စေတနာပိ ဥပ္ပဇ္ဇတီ"တိ ဖဿပဉ္စမကေယေဝ ပရိဂ္ဂဏှာတိ။ (ဒီ၊ဋ္ဌ၊၂၊၃၁၄။ မဋ္ဌ၊၁၊၂၈၀-၂၈၁။ အဘိ၊ဋ္ဌ၊၂၊၂၅၂။)

## ဖဿက စ၍ သိမ်းဆည်းရာ၌ လိုက်နာရမည့် စည်းကမ်း

ဖဿ ထင်ရှားသော ယောဂါဝစရပုဂ္ဂိုလ်သည်လည်း "ဖဿတစ်ခုတည်းသာ ဖြစ်ပေါ်၍ နေသည်ကား မဟုတ်၊ ထိုဖဿနှင့်အတူ ထိုအာရုံကိုပင်လျှင် = ထိုအာရုံ၏ အရသာကိုပင်လျှင် ခံစားတတ်သော ဝေဒနာသည်လည်း ဖြစ်ပေါ်နေ၏၊ ထိုအာရုံကို မှတ်သားတတ်သော သညာသည်လည်း ဖြစ်ပေါ်နေ၏၊ ထိုအာရုံပေါ်သို့ သမ္ပယုတ်တရားတို့ကို ရောက်အောင် စေ့ဆော်ပေးတတ် လှုံ့ဆော်ပေးတတ်သော စေတနာသည်လည်း ဖြစ်ပေါ်နေ၏၊ ထိုအာရုံကို ပိုင်းခြားယူတတ် = သိတတ်သော ဝိညာဏ်သည်လည်း ဖြစ်ပေါ်နေ၏"ဟု နှလုံးပိုက်၍ ဖဿလျှင် ငါးခုမြောက်ရှိသော ဖဿပဉ္စမကတရားတို့ကိုပင် သိမ်းဆည်း၏။[၃၇၈]

## နာမ်တရား အားလုံးကိုပင် သိမ်းဆည်းပါ

ဤသို့လျှင် ယောဂါဝစရပုဂ္ဂိုလ်သည် နာမ်ကမ္မဋ္ဌာန်းကို စတင်အားသစ်ရာ၌ ဖဿ ထင်ရှားသောပုဂ္ဂိုလ်, ဝေဒနာ ထင်ရှားသောပုဂ္ဂိုလ်, အသိစိတ် = ဝိညာဏ် ထင်ရှားသောပုဂ္ဂိုလ်ဟု ထိုထိုတရား၏ ထင်ရှားမှုရှိသည် မှန်သော်လည်း ဘုရားရှင်ကိုယ်တော်တိုင်က —

**သဗ္ဗံ ဘိက္ခဝေ အဘိညေယျံ . . . .**[၃၇၉] **သဗ္ဗဉ္စ ခေါ ဘိက္ခဝေ အဘိဇာနံ . . . .**[၃၈၀]

ဤသို့ စသည်ဖြင့် ဒုက္ခသစ္စာ သမုဒယသစ္စာ အမည်ရသော သင်္ခါရတရားအားလုံးကို ပရိညာပညာသုံးမျိုးဖြင့် ပိုင်းပိုင်းခြားခြားသိအောင် ကြိုးပမ်းရမည်ဟု ဟောကြားထားတော်မူသောကြောင့် အလုံးစုံသော လက္ခဏာရေးသုံးတန်သို့ တင်ကာ ဝိပဿနာရှုပွားသုံးသပ်ထိုက်သော တရားမှန်သမျှကို ယောဂါဝစရပုဂ္ဂိုလ်သည် ဉာဏ်ဖြင့် ပိုင်းခြားယူရမည်သာ ဖြစ်ပေသည်ဟု ညွှန်ကြားပြသတော်မူလိုသည့်အတွက် အထက်ပါ နာမ်ကမ္မဋ္ဌာန်းကို သိမ်းဆည်းပုံ နည်းစနစ်များကို အဋ္ဌကထာဆရာတော်က ဖွင့်ဆိုသွားတော်မူခြင်းပင်ဖြစ်၏။

ဤအဋ္ဌကထာအဖွင့်၌ ဖဿပဉ္စမကတရားတို့ကို သိမ်းဆည်းရန် အဋ္ဌကထာက ဖွင့်ဆိုသွားခြင်းမှာ ပဓာန နည်းအားဖြင့် ဖွင့်ဆိုသွားတော်မူခြင်းပင် ဖြစ်၏။ စိတ္တက္ခဏတစ်ခုတစ်ခု၏ အတွင်း၌ တည်ရှိသော နာမ်တရားစုတို့တွင် ဖဿပဉ္စမကတရားတို့၌ ကြွင်းကျန်သော နာမ်တရားတို့သည် အကျုံးဝင်လျက် ရှိကြ၏။ ယင်းသို့လျှင် နာမ်ခန္ဓာလေးပါး- တို့၏ ဖဿပဉ္စမကတရားတို့၌ အကျုံးဝင်လျက် ရှိသောကြောင့် ဖဿပဉ္စမကတရားကို ယူခြင်းဖြင့်ပင် နာမ်ခန္ဓာလေးပါးတို့ကိုလည်း သိမ်းကျုံးယူရသောကြောင့် ဖဿပဉ္စမကတရားတို့ကိုသာ သိမ်းဆည်းရန် အဋ္ဌကထာက ဖွင့်ဆိုသွားတော်မူခြင်း ဖြစ်၏။ အကြောင်းမှာ ဖဿပဉ္စမကတရားကို ယူ၍ ဖွင့်ဆိုခြင်းမှာ ထိုဖဿပဉ္စမက တရားစု၏ စိတ်အားလုံးနှင့် ဆက်ဆံသော သဗ္ဗစိတ္တသာဓာရဏတရား ဖြစ်သောကြောင့် ဖွင့်ဆိုခြင်း ဖြစ်၏။ ထိုဖဿပဉ္စမက တရားတို့တွင်လည်း ဖဿ-စေတနာတို့ကား သင်္ခါရက္ခန္ဓာစာရင်းဝင် တရားစုတို့ ဖြစ်ကြ၏။ သင်္ခါရက္ခန္ဓာတရားစုတို့တွင်လည်း စေတနာကား ပြဓာန်းလျက် ရှိ၏။ ဖဿ စေတနာတို့ကို သိမ်းဆည်းပါဟု ဆိုသဖြင့် ပဓာနဖြစ်သော ဖဿ စေတနာတို့ကို သိမ်းဆည်းရလျှင် အပ္ပဓာနဖြစ်သော သင်္ခါရက္ခန္ဓာစာရင်းဝင် ကြွင်းကျန်သော ယှဉ်ဖက်သမ္ပယုတ်တရားတို့ကိုလည်း သိမ်းဆည်းရမည်သာ ဖြစ်သည်။ ဖဿ စေတနာတို့ကို ယူသဖြင့် သင်္ခါရက္ခန္ဓာစာရင်းဝင် ပရမတ္ထဓာတ်သားအားလုံးကို သိမ်းကျုံးယူရ၏။ အကြောင်းမူ ထိုသင်္ခါရက္ခန္ဓာတရားစုတို့တွင် စေတနာပြဓာန်းသောကြောင့် ဖြစ်၏။ ဘုရားရှင်ကိုယ်တော်တိုင်ကလည်း ဝိဘင်းပါဠိတော်[၃၈၁]ဝယ် သုတ္တန္တဘာဇနီယနည်း၌ **သင်္ခါရက္ခန္ဓာ**ကို ဝေဖန်ဟောကြားတော်မူရာဝယ် စေတနာကိုသာ ပဓာနထား၍ ဝေဖန်ဟောကြားထားတော်မူသော ရှေးထုံးဟောင်း ဥပဒေသ တစ်ရပ်လည်း ထင်ရှား တည်ရှိနေပေသည်။ သင်္ခါရက္ခန္ဓာမှ ကြွင်းသော ခန္ဓာတို့၌ကား သရုပ်ထုတ်၍ တိုက်ရိုက် ဟောကြားထားတော်မူပေသည်။[၃၈၂]

---

[၃၇၈] ယဿ ဖဿော ပါကဋော ဟောတိ၊ သော "န ကေဝလံ ဖဿောဝ ဥပ္ပဇ္ဇတိ၊ တေန သဒ္ဓိံ တဒေဝါရမ္မဏံ အနုဘဝမာနာ ဝေဒနာပိ ဥပ္ပဇ္ဇတိ၊ သဉ္ဇာနနမာနာ သညာပိ, စေတယမာနာ စေတနာပိ, ဝိဇာနနမာနံ ဝိညာဏမ္ပိ ဥပ္ပဇ္ဇတီ"တိ ဖဿပဉ္စမကေယေဝ ပရိဂ္ဂဏှာတိ။ (ဒီ၊ဋ္ဌ၊၂၊၃၁၄။ မ၊ဋ္ဌ၊၁၊၂၈၀။ အဘိ၊ဋ္ဌ၊၂၊၂၅၂။)

[၃၇၉] (သံ၊၂၊၂၅၈။ ခု၊၉၊၆။) [၃၈၀] (သံ၊၂၊၂၅၀။) [၃၈၁] (အဘိ၊၂၊၈၊ စာပိုဒ်၊၂၁။)

[၃၈၂] ဧဝံ တဿ တဿေဝ ပါကဋဘာဝေပိ "သဗ္ဗံ ဘိက္ခဝေ အဘိညေယျ"န္တိ, "သဗ္ဗဉ္စ ခေါ ဘိက္ခဝေ အဘိဇာန"န္တိ စ ဧဝမာဒိ- ဝစနတော သဗ္ဗေ သမ္မသနုပဂါ ဓမ္မာ ပရိဂ္ဂဟေတဗ္ဗာတိ ဒဿေန္တော **"တတ္ထ ယဿာ"**တိအာဒိမာဟ။ တတ္ထ **ဖဿပဉ္စမကေယေဝါ**တိ အဝဓာရဏံ တဒန္တောဂဓတ္တာ တဂ္ဂဟဏေနေဝ ဂဟိတတ္တာ စတုန္နံ အရူပက္ခန္ဓာနံ။ ဖဿပဉ္စမကဂ္ဂဟဏံ ဟိ တဿ သဗ္ဗစိတ္တုပ္ပါဒ-

ဤအထက်ပါ ပါဠိတော် အဋ္ဌကထာ ဋီကာတို့၏ သတ်မှတ်ပေးထားသော စည်းကမ်းဥပဒေသအရ အထူးသဖြင့် ကာမာဝစရနာမ်တရားတို့ကို သိမ်းဆည်းလိုသော ယောဂါဝစရပုဂ္ဂိုလ်သည် ရုပ်ကမ္မဋ္ဌာန်းကို သိမ်းဆည်းပြီးသောအခါ, ဖဿက စ၍ ဖြစ်စေ, ဝေဒနာက စ၍ ဖြစ်စေ, အသိစိတ် = ဝိညာဏ်က စ၍ ဖြစ်စေ နာမ်တရားတို့ကို သိမ်းဆည်းရာ၌ စိတ္တက္ခဏတစ်ခုတစ်ခုအတွင်း၌ ဖဿ တစ်လုံးတည်း, ဝေဒနာ တစ်လုံးတည်း, အသိစိတ် = ဝိညာဏ် တစ်လုံးတည်းကိုသာ မိနစ်ပေါင်းများစွာ နာရီပေါင်းများစွာ ရက်ပေါင်းများစွာ လပေါင်းများစွာ နှစ်ပေါင်းများစွာ "ဖားကို မြွေက ခဲ၍သို့" သဲသဲမဲမဲ ဇွဲနပဲကြီးစွာဖြင့် ဇွတ်အတင်းခဲလျက် ရိုးမြေကျ သိမ်းဆည်းရှုပွားနေရသည်ကား မဟုတ်ပေ။ ယင်း ဖဿ ဝေဒနာ ဝိညာဏ်တို့နှင့် ယှဉ်ဖက်သမ္ပယုတ်တရားအားလုံးကိုလည်း သိမ်းဆည်းရှုပွားရသည်သာဟု ဖြူစင်ဖြောင့်စင်း-သော ယောနိသောမနသိကာရတရားကို ရှေးသွားပြုကာ နာယူမှတ်သားလေရာသည် သူတော်ကောင်းအပေါင်းတို့ . . ။

## အလွန် ခဲယဉ်းသော လုပ်ငန်းရပ်

စိတ္တနိယာမလမ်းကြောင်းအတိုင်း ဖြစ်ပေါ်သွားကြကုန်သော စိတ်+စေတသိက် = နာမ်တရားတို့ကို နာမ်ယန ခေါ်သည့် နာမ်တုံးနာမ်ခဲကို ပြိုကွဲသွားအောင် ဉာဏ်ဖြင့် ဖြိုခွဲဖျက်ဆီးလျက် ပရမတ်သို့ ဉာဏ်အမြင် ဆိုက်အောင် သိမ်းဆည်းရှုပွားရေးမှာ လွယ်ကူသော လုပ်ငန်းကိစ္စရပ်ကား မဟုတ်ပါပေ။ သို့သော် သာဝကတို့သည် သိမ်းဆည်း ရှုပွား၍ကား ရရှိနိုင်ကြသည်သာ ဖြစ်ပေသည်။ မိလိန္ဒပဉှာပါဠိတော်၌ လာရှိသော စကားရပ်ကို အယူအဆ လွဲမှားတော်မူကြသဖြင့် ယင်းနာမ်တရားတို့ကို သာဝကတို့သည် ရှု၍ မရနိုင်ဟု ပြောဆိုကြခြင်း ဖြစ်ပေသည်။ သံသယ ကင်းရှင်း သွားစေရန်အတွက် **သံယုတ်အဋ္ဌကထာ**[၃၈၃], **အဋ္ဌသာလိနီအဋ္ဌကထာ**[၃၈၄]တို့၏ ဖွင့်ဆိုချက်နှင့် **မိလိန္ဒပဉှာပါဠိတော်**[၃၈၅]၏ အဆိုအမိန့်ကို တင်ပြအပ်ပါသည် . . ။

ယောဂါဝစရပုဂ္ဂိုလ်သည် နာမ်တရားတို့ကို ဉာဏ်ဖြင့် ပိုင်းခြားယူရာ သိမ်းဆည်းရာ၌လည်းကောင်း, ဝိပဿနာ ရှုပွားသုံးသပ်ရာ၌လည်းကောင်း ဝီထိမှ အလွတ်ဖြစ်သော ဝီထိမုတ်စိတ်အမည်ရသည့် ပဋိသန္ဓေ-ဘဝင်-စုတိ စိတ္တက္ခဏ တို့၌လည်းကောင်း, စိတ္တနိယာမလမ်းကြောင်းအတိုင်း ဖြစ်ပေါ်သွားကြကုန်သော ဝီထိစိတ်တို့၏ စိတ္တက္ခဏတိုင်း၌ လည်းကောင်း ဖဿလျှင် ငါးခုမြောက်ရှိသော ဖဿပဉ္စမကတရားတို့ကို တစ်နည်းဆိုရသော် ဖဿပဉ္စမကတရား ငါးပါးတို့ ဦးဆောင်သည့် နာမ်တရားစုတို့ကို သိမ်းဆည်း ရှုပွားရမည်ဖြစ်ကြောင်းကို အထက်တွင် ရှင်းလင်းတင်ပြခဲ့ပြီး ဖြစ်၏။

"စိတ္တက္ခဏတစ်ခုတစ်ခုအတွင်း၌ တည်ရှိကြကုန်သော ဤဖဿပဉ္စမကတရားစုတို့ကို အသီးအသီး တစ်လုံးစီ တစ်လုံးစီ ခွဲခြားစိတ်ဖြာခြင်းကို ပြုတော်မူလျက် ဖဿ ဝေဒနာ သညာ စေတနာ ဝိညာဏ်စသော အမည်နာမ ပညတ်များကို ထုတ်ဆောင်ပြတော်မူသော ပိုင်းခြားခြင်းကို ပြုတော်မူသော ဘုရားရှင်သည် ခဲယဉ်းစွာ ပြုလုပ်အပ်သော လုပ်ငန်းရပ်ကို ပြုလုပ်တော်မူအပ်ပါပေပြီ။ ဥပမာဆောင်၍ ထင်ရှားအောင် ပြဆိုပေဦးအံ့ . . ။

---

သာဓာရဏဘာဝတော၊ တတ္ထ စ ဖဿစေတနာဂ္ဂဟဏေန သဗ္ဗသင်္ခါရက္ခန္ဓဓမ္မသင်္ဂဟော စေတနာပဓာနတ္တာ တေသံ။ တထာ ဟိ သုတ္တန္တဘာဇနီယေ **သင်္ခါရက္ခန္ဓဝိဘင်္ဂေ** "စက္ခုသမ္ဖဿဇာ စေတနာ"တိအာဒိနာ စေတနာဝ ဝိဘတ္တာ၊ ဣတရေ ပန ခန္ဓာ သရူပေနေဝ ဂဟိတာ။ (မဋီ၊၁၊၃၇၀။)

[၃၈၃] ယထာ ဟိ တိလတေလံ သာသပတေလံ မဓုကတေလံ ဧရဏ္ဍကတေလံ ဝသာတေလန္တိ ဣမာနိ ပဉ္စ တေလာနိ ဧကစာဋိယံ ပက္ခိပိတွာ ဒိဝသံ ယမကမန္ထေဟိ မန္ထေတွာ တတော "ဣဒံ တိလတေလံ၊ ဣဒံ သာသပတေလ"န္တိ ဧကေကဿ ပါဋိယေက္ကံ ဥဒ္ဓရဏံ နာမ ဒုက္ကရံ၊ ဣဒံ တတော ဒုက္ကရတရံ။ ဘဂဝါ ပန သဗ္ဗညုတဉာဏဿ သုပ္ပဋိဝိဒ္ဓတ္တာ ဓမ္မိဿရော ဓမ္မရာဇာ ဣမေသံ အရူပီနံ ဓမ္မာနံ ဧကာရမ္မဏေ ဝတ္တမာနာနံ ဝဝတ္ထာနံ အကာသိ။ ပဉ္စန္နံ မဟာနဒီနံ သမုဒ္ဒံ ပဝိဋ္ဌဋ္ဌာနေ "ဣဒံ ဂင်္ဂါယ ဥဒကံ၊ ဣဒံ ယမုနာယာ"တိ ဧဝံ ပါဋိယေက္ကံ ဥဒကုဒ္ဓရဏေနာပိ အယမတ္ထော ဝေဒိတဗ္ဗော။ (သံ၊ဋ္ဌ၊၂၊၂၇၁။)

[၃၈၄,၃၈၅] ဣမေသဉ္စ ပန ဖဿပဉ္စမကာနံ ဓမ္မာနံ ပါဋိယေက္ကံ ပါဋိယေက္ကံ ဝိနိဗ္ဘောဂံ ကတွာ ပညတ္တိံ ဥဒ္ဓရမာနေန ဘဂဝတာ ဒုက္ကရံ ကတံ။ နာနာဥဒကာနဉ္ဟိ နာနာတေလာနံ ဝါ ဧကဘာဇနေ ပက္ခိပိတွာ ဒိဝသံ နိမ္မထိတာနံ ဝဏ္ဏ-ဂန္ဓ-ရသာနံ နာနတာယ ဒိသွာ ဝါ ဃာယိတွာ ဝါ သာယိတွာ ဝါ နာနာကရဏံ သက္ကာ ဘဝေယျ ဉာတုံ၊ ဧဝံ သန္တေပိ တံ ဒုက္ကရန္တိ ဝုတ္တံ။ သမ္မာသမ္ဗုဒ္ဓေန ပန ဣမေသံ အရူပီနံ စိတ္တစေတသိကာနံ ဓမ္မာနံ ဧကာရမ္မဏေ ပဝတ္တမာနာနံ ပါဋိယေက္ကံ ပါဋိယေက္ကံ ဝိနိဗ္ဘောဂံ ကတွာ ပညတ္တိံ ဥဒ္ဓရမာနေန အတိဒုက္ကရံ ကတံ။ တေနာဟ **အာယသ္မာ နာဂသေနတ္ထေရော** . .

ဒုက္ကရံ မဟာရာဇ ဘဂဝတာ ကတန္တိ။ ကိံ ဘန္တေ နာဂသေန ဘဂဝတာ ဒုက္ကရံ ကတန္တိ?

တစ်ခုတည်းသော အိုးခွက်အတွင်း၌ အဆင်း အနံ့ အရသာ အမျိုးမျိုးရှိသော ရေအမျိုးမျိုးတို့ကို ထည့်၍ တစ်နေ့ပတ်လုံး မပျင်းမရိ လုံ့လဝီရိယရှိရှိဖြင့် မွှေနှောက်ထားသည် ဆိုကြပါစို့၊ နှမ်းဆီ မုန်ညင်းဆီ သစ်မည်ဆီ ကြက်ဆူဆီ ဝက်ဆီ ဟူသည့် အရသာအမျိုးမျိုးရှိကြသည့် ဆီငါးမျိုးတို့ကို အိုးစရည်းကြီးတစ်လုံးအတွင်း၌ ထည့်ကာ တစ်နေကုန် တစ်နေခန်း မပင်မပန်း မပျင်းမရိ ဇွဲလုံ့လဝီရိယရှိရှိဖြင့် မွှေနှောက်ထားသည် ဆိုကြပါစို့။ တစ်ခုတည်းသော အိုးခွက်အတွင်း၌ ထည့်ကာ တစ်နေ့တာပတ်လုံး မွှေနှောက်ထားအပ်ပြီးကုန်သော အထူးထူးသော ရေတို့၏သော်လည်းကောင်း, အထူးထူးသော ဆီတို့၏သော်လည်းကောင်း အဆင်း အနံ့ အရသာတို့၏ တစ်ခုနှင့်တစ်ခု မတူ ထူးထွေကွဲပြားမှု ရှိကြသည်၏အဖြစ်ကြောင့် မျက်စိဖြင့် ကြည့်၍သော်လည်းကောင်း, နှာခေါင်းဖြင့် နမ်း၍သော်လည်းကောင်း, လျှာဖြင့် လျက်၍သော်လည်းကောင်း တစ်ခုနှင့်တစ်ခု မတူကွဲပြားမှုကို ပြုလုပ်ကြောင်းဖြစ်သည့် ထူးခြားချက်ကို သိခြင်းငှာ တတ်ကောင်းသည် ဖြစ်တန်ရာသေး၏။[၃၈၆]

ဤသို့ သိခြင်းငှာ တတ်ကောင်းပါသော်လည်း ထိုသိခြင်းကို ဒုက္ကရ = ခဲယဉ်းစွာ ပြုအပ်၏ဟူ၍ = ပြုနိုင်ခဲ၏ဟူ၍ မိလိန္ဒပဉှာ၌ အရှင်နာဂသေန မထေရ်မြတ်က မိန့်ဆိုတော်မူခဲ့လေသည်။ ဘုန်းတော်ခြောက်ပါးသခင် သမ္မာသမ္ဗုဒ္ဓ ဘုရားရှင်သည်ကား သဗ္ဗညုတဉာဏ်တော်မြတ်ကို ထိုးထွင်း သိမြင်တော်မူပြီးသည်၏အဖြစ်ကြောင့် တရားတော်ကို အစိုးရတော်မူသည့် တရားမင်းကြီးစင်စစ် ဖြစ်တော်မူ၏။ ထို့ကြောင့် ဘုရားရှင်သည် တစ်ခုတည်းသော အာရုံ၌ အာရုံပြုလျက် ဖြစ်ပေါ်၍ နေကြကုန်သော ဤစိတ်စေတသိက် နာမ်တရားစုတို့၏ အသီးအသီး တစ်လုံးစီတစ်လုံးစီကို ဉာဏ်တော်မြတ်ဖြင့် ခွဲခြားစိတ်ဖြာခြင်းကို ပြု၍ — “ဤကား ဖဿ, ဤကား ဝေဒနာ, ဤကား သညာ, ဤကား စေတနာ, ဤကား ဝိညာဏ်” . . ဤသို့ စသည်ဖြင့် အမည်နာမပညတ်ကို ထုတ်ဆောင်ပြတော်မူလျက် တရားတော်ကို ဟောကြားတော်မူ၏။ ထိုသို့ အမည်နာမပညတ်ကို ထုတ်ဆောင်ပြတော်မူလျက် တရားတော်ကို ဟောကြားတော်မူသော ဘုရားရှင်သည် အလွန် ခဲယဉ်းစွာ ပြုအပ်သော အမှုကို ပြုတော်မူအပ်ပါပေပြီ။”[၃၈၇]

---

ဒုက္ကရံ မဟာရာဇ ဘဂဝတာ ကတံ၊ ယံ ဣမေသံ အရူပီနံ စိတ္တစေတသိကာနံ ဓမ္မာနံ ဧကာရမ္မဏေ ပဝတ္တမာနာနံ ဝဝတ္ထာနံ အက္ခာတံ “အယံ ဖဿော၊ အယံ ဝေဒနာ၊ အယံ သညာ၊ အယံ စေတနာ၊ ဣဒံ စိတ္တ”န္တိ။

ဩပမ္မံ ဘန္တေ ကရောဟီတိ။

ယထာ မဟာရာဇ ကောစိဒေဝ ပုရိသော နာဝါယ သမုဒ္ဒံ အဇ္ဈောဂါဟေတွာ ဟတ္ထပုဋေန ဥဒကံ ဂဟေတွာ ဇိဝှါယ သာယိတွာ ဇာနေယျ နု ခေါ မဟာရာဇ သော ပုရိသော “ဣဒံ ဂင်္ဂါယ ဥဒကံ၊ ဣဒံ ယမုနာယ ဥဒကံ၊ ဣဒံ အစိရဝတိယာ ဥဒကံ၊ ဣဒံ သရဘုယာ ဥဒကံ၊ ဣဒံ မဟိယာ ဥဒက”န္တိ။

ဒုက္ကရံ ဘန္တေ ဇာနိတုန္တိ။

တတော ဒုက္ကရတရံ ခေါ မဟာရာဇ ဘဂဝတာ ကတံ၊ ယံ ဣမေသံ အရူပီနံ စိတ္တစေတသိကာနံ ဓမ္မာနံ ။ ပ ။ ဣဒံ စိတ္တ”န္တိ။ (အဘိ၊ဋ္ဌ၊၁၊၁၈၆-၁၈၇။ မိလိန္ဒပဉှာ၊၉၄။)

[၃၈၆] **မှတ်ချက်** — ရုပ်တို့၏ဓမ္မတာသည် ရုပ်ကလာပ်ခေါ်သည့် အမှုန်များအနေဖြင့်သာ ဖြစ်ရိုးဓမ္မတာရှိသဖြင့် ရေဟူသည်မှာ, ဆီဟူသည်မှာ အာပေါဓာတ်၏ သဘာဝသတ္တိစွမ်းအင် လွန်ကဲနေသော ရုပ်ကလာပ်တို့၏ အပေါင်းအစုမျှသာ ဖြစ်၏။ ရုပ်ကလာပ် တစ်ခု၏အတွင်း၌ တည်ရှိကြသော ရုပ်တရားတို့နှင့် အခြားရုပ်ကလာပ်တစ်ခု၏အတွင်း၌ တည်ရှိကြကုန်သော ရုပ်တရားတို့သည် အာကာသဓာတ်က ခြားကွယ်ထားသောကြောင့် ပေါင်းစပ်မှု ယှဉ်တွဲမှု မရှိကြပေ။ သို့အတွက် ပရမတ္ထဉာဏ်ပညာမျက်စိ ရှိသူတို့ အဖို့မှာမူ ရုပ်ကလာပ်တစ်ခုတစ်ခုအတွင်း၌ တည်ရှိကြကုန်သော အဆင်း အနံ့ အရသာတို့ကို ခွဲခြားစိတ်ဖြာ၍ သိနိုင်ကြ၏၊ သိမ်းဆည်းနိုင်ကြ၏။ ထိုသို့ ဉာဏ်ဖြင့် သိမ်းဆည်းနိုင်သောကြောင့် ပရမတ္ထဉာဏ်ပညာရှိသူတို့အဖို့မှာမူ — တစ်ခုတည်းသော အိုးခွက်၌ ထည့်၍ တစ်နေ့တာကာလပတ်လုံး မွှေနှောက်ထားအပ်ပြီးကုန်သော အထူးထူးသော ရေတို့၏သော်လည်းကောင်း, အထူးထူးသော ဆီတို့၏သော်လည်းကောင်း အဆင်း-အနံ့-အရသာတို့၏ တစ်ခုနှင့်တစ်ခု မတူဘဲ ထူးထွေကွဲပြားမှု ရှိသည်၏ အဖြစ်ကို ပကတိသော ပသာဒမျက်စိဖြင့် ကြည့်၍, ပသာဒနှာခေါင်းဖြင့် နမ်း၍, ပသာဒလျှာဖြင့် လျက်၍ မသိနိုင်စေကာမူ ပညာမျက်စိ ပညာနှာခေါင်း ပညာလျှာဖြင့်ကား ယင်းရေ-ဆီတို့၌ တည်ရှိကြသော အဆင်း-အနံ့-အရသာတို့၏ တစ်ခုနှင့်တစ်ခု မတူ ကွဲပြားမှုကို ပြုလုပ်ကြောင်းဖြစ်သည့် ထူးခြားချက်ကို သိခြင်းငှာ တတ်ကောင်းသည် ဖြစ်တန်ရာသေး၏ဟု ဆိုလိုရင်း ဖြစ်ပေသည်။

[၃၈၇] **ဆိုလိုရင်းသဘော** —ပုံစံတစ်ခုကို ထုတ်၍ဆိုရသော် ယင်းရုပ်တရားတို့ကို သိမ်းဆည်းလျက် ဉာဏ်ဖြင့် ပိုင်းခြားယူလျက်ရှိသော နာမရူပပရိစ္ဆေဒဉာဏ် သို့မဟုတ် ဝိပဿနာဉာဏ်ကဲ့သို့သော မဟာကုသိုလ် မနောဒွါရိကဇောစိတ္တက္ခဏ တစ်ခုတစ်ခုအတွင်း၌

"ဒါယကာတော် မိလိန္ဒ မဟာရာဇာ . . . မြတ်စွာဘုရားသည် အလွန်ခဲယဉ်းစွာ ပြုအပ်သော အမှုကို ပြုတော်မူအပ်ပါပေပြီ။

အရှင်ဘုရား နာဂသေန . . . မြတ်စွာဘုရားသည် အဘယ်ကဲ့သို့သော အလွန်ခဲယဉ်းစွာ ပြုအပ်သော အမှုကို ပြုတော်မူအပ်ပါသနည်း?

ဒါယကာတော် မိလိန္ဒ မဟာရာဇာ. . . မြတ်စွာဘုရားသည် တစ်ခုတည်းသော အာရုံ၌ အာရုံပြုလျက် ပြိုင်တူဖြစ်ပေါ်၍ နေကြသော နာမ်တရားဖြစ်ကုန်သော ဤစိတ်+စေတသိက်တရားတို့ကို —

၁။ ဤ အာရုံကို တွေ့ထိခြင်း သဘောတရားသည် ဖဿတည်း။
၂။ ဤ အာရုံ၏ အရသာကို ခံစားခြင်း သဘောတရားသည် ဝေဒနာတည်း။
၃။ ဤ အာရုံကို မှတ်သားခြင်း သဘောတရားသည် သညာတည်း။
၄။ ဤ အာရုံပေါ်သို့ သမ္ပယုတ်တရားတို့ကို ရောက်အောင် စေ့ဆော်ခြင်း သဘောတရားသည် စေတနာတည်း။
၅။ ဤ အာရုံကို ရယူတတ် = သိတတ်သော သဘောတရားသည် စိတ်တည်း။

ဤသို့ အမည်နာမပညတ်ကို ထုတ်ဆောင်လျက် အကြင်ပရမတ္ထဓာတ်သား နာမ်တရား တစ်လုံးစီတစ်လုံးစီကို အသီးအသီး ပိုင်းခြားခြင်းကို ပြုလျက် ဟောကြားထားတော်မူအပ်၏။ ထိုသို့ ပိုင်းခြားလျက် ဟောကြားတော်မူခြင်း ဟူသော အလွန်ခဲယဉ်းစွာ ပြုအပ်သော အမှုကို ပြုတော်မူအပ်ပါပေပြီ။

အရှင်ဘုရား . . . ဥပမာကို ပြုတော်မူပါဦးလော့။

ဒါယကာတော် မိလိန္ဒ မဟာရာဇာ . . . တစ်စုံတစ်ယောက်သော ယောက်ျားသည် လှေသင်္ဘောဖြင့် သမုဒ္ဒရာတွင်းသို့ ချင်းနင်းသက်ဝင်၍ လက်ခုပ်ဖြင့် ရေကို ခပ်ယူ၍ လျှာဖြင့် လျက်ကြည့်ခဲ့သော် . .

၁။ ဤရေသည် ဂင်္ဂါမြစ်ရေတည်း။
၂။ ဤရေသည် ယမုနာမြစ်ရေတည်း။
၃။ ဤရေသည် အစိရဝတီမြစ်ရေတည်း။
၄။ ဤရေသည် သရဘူမြစ်ရေတည်း။
၅။ ဤရေသည် မဟီမြစ်ရေတည်း။

ဤသို့လျှင် ထိုယောက်ျားသည် သိနိုင်ရာပါသလော?

အရှင်ဘုရား နာဂသေန . . . သိဖို့ရန် ခဲယဉ်းစွာ ပြုအပ်ပါပေ၏။

ဒါယကာတော် မိလိန္ဒ မဟာရာဇာ . . . တစ်ခုတည်းသော အာရုံ၌ ပြိုင်တူဖြစ်ပေါ်၍ နေကြကုန်သော နာမ်တရားဖြစ်ကြကုန်သော ဤစိတ်+စေတသိက်တို့ကို —

၁။ ဤ အာရုံကို တွေ့ထိခြင်း သဘောတရားသည် ဖဿတည်း။ ပ ။
၅။ ဤ အာရုံကို ရယူတတ် = သိတတ်သော သဘောတရားသည် စိတ်တည်း။

ဤသို့လျှင် အမည်နာမပညတ်ကို ထုတ်ဆောင်လျက် အကြင်ပရမတ္ထဓာတ်သား နာမ်တရား တစ်လုံးစီတစ်လုံးစီကို အသီးအသီး ပိုင်းခြားခြင်းကို ပြုလျက် ဟောကြားတော်မူအပ်၏။ ထိုသို့ ပိုင်းခြားလျက် ဟောကြားတော်မူခြင်းဟူသော အလွန်ခဲယဉ်းစွာ ပြုအပ်သော အမှုကို ဘုရားရှင်သည် ပြုတော်မူအပ်ပါပေပြီ။"

---

ဉာဏ်-ပီတိ နှစ်မျိုးလုံး ယှဉ်သဖြင့် စိတ်+စေတသိက်ဟူသော နာမ်တရား (၃၄)လုံး ရှိ၏။ ထိုစိတ်စေတသိက်တို့သည် ဧကုပ္ပါဒ = အတူဖြစ်ခြင်း စသော စေတောယုတ္တလက္ခဏာ လေးပါးနှင့် ညီစွာ အတူဖြစ် အတူချုပ်၍ တူသော မှီရာဝတ္ထုရုပ်လည်း ရှိလျက် (= ဟဒယဝတ္ထုရုပ်တစ်ခုတည်းကိုသာ မှီကြလျက်) မိမိရှုနေသည့် ရုပ်တရားကဲ့သို့သော အာရုံတစ်ခုကိုသာ ဝိုင်းလျက် အာရုံပြုကြလေရာ သဗ္ဗညုတဉာဏ်တော်ရှင် သမ္မာသမ္ဗုဒ္ဓဘုရားရှင်သာ မဟုတ်ခဲ့ပါလျှင် "ဤသဘောကား ဖဿ, ဤသဘောကား ဝေဒနာ" . . စသည်ဖြင့် သာဝကတို့၏ ဉာဏ်ဝယ် ခွဲခြားစိတ်ဖြာ၍ သိရှိနိုင်ဖို့ရန် "ဖဿ, ဝေဒနာ"စသော အမည်နာမပညတ်ကို တင်လျက် ဟောကြားပြသတော်မူခြင်းငှာ မည်သည့် တစ်စုံတစ်ခုသော လောကဓာတ်နည်းနှင့်မျှ ရှေးကလည်း မဖြစ်ခဲ့၊ ယခုလည်း မဖြစ်နိုင်၊ နောက်နောင်အခါ ကမ္ဘာအဆက်ဆက်၌လည်း ဖြစ်နိုင်လိမ့်မည် မဟုတ်ပေ။ ထို့ကြောင့် နာမည်ကျော် အရှင်နာဂသေန မထေရ်မြတ်က ဒါယကာ မိလိန္ဒ မဟာရာဇာအား ဤကဲ့သို့သော သဘောအဓိပ္ပါယ်ကို ထင်ရှားလာအောင် သမုဒ္ဒရာအတွင်းဝယ် မြစ်ကြီးငါးသွယ်မှ စီးဝင်လာသော ရေကို ဥပမာပြုလျက် အောက်ပါအတိုင်း မိန့်ကြားထားတော်မူပေသည်။

ဤအထက်ပါ ပါဠိတော် အဋ္ဌကထာတို့၏ အဆိုအမိန့်ကား — တစ်ခုတည်းသော အာရုံကို အာရုံပြု၍ ပြိုင်တူ ဖြစ်ပေါ်သွားကြကုန်သော စိတ္တက္ခဏတစ်ခုတစ်ခု၏အတွင်း၌ တည်ရှိကြကုန်သော ပရမတ္ထဓာတ်သား စိတ်+စေတသိက် = နာမ်တရားစုတို့ကို — "ဤကား ဖဿ, ဤကား ဝေဒနာ" . . စသည်ဖြင့် တစ်လုံးစီ တစ်လုံးစီကို ဉာဏ်ဖြင့် ခွဲခြားစိတ်ဖြာလျက် အမည် နာမပညတ်ကို ထုတ်ဆောင်လျက် ပညတ်တင်ကာ ဘုရားရှင်၏ ဟောကြားထားတော် မူချက်မှာ အလွန် ခဲယဉ်းသော လုပ်ငန်းရပ် ဖြစ်ကြောင်းကိုသာ မိန့်ဆိုခြင်း ဖွင့်ဆိုခြင်း ဖြစ်ပေသည်။ သာဝကတို့သည် စိတ္တက္ခဏ တစ်ခုတစ်ခု၏ အတွင်း၌ တည်ရှိကြကုန်သော နာမ်တရားတို့ကို ရှု၍ မရနိုင် - ဟု ဟောကြားထားတော် မူသည်ကား မဟုတ်ပေ။ ဤအချက်ကို အလေးအနက် သဘောပေါက်နိုင်ရမည် ဖြစ်သည်။ အယူအဆ လွဲမှားသွားပါက ကျင့်စဉ်လည်း လွဲမှားသွားနိုင်ပေသည်။ သို့အတွက် လုပ်ငန်းခွင်နှင့် ပတ်သက်လာလျှင် အယူအဆ မလွဲမှားမိရန် အထူးသတိပြုရမည် ဖြစ်ပေသည်။

အထက်တွင် တင်ပြထားသော အဋ္ဌသာလိနီအဋ္ဌကထာ[၅၈၈] စကားရပ်ကို ပြန်လည်ကာ သတိပြုကြည့်ပါ။

"သမ္မာသမ္ဗုဒ္ဓဘုရားရှင်သည် အာရုံတစ်ခုတည်း၌ အာရုံပြုလျက် ဖြစ်ပေါ်နေကြကုန်သော စိတ္တက္ခဏတိုင်း စိတ္တက္ခဏတိုင်း၌ တည်ရှိနေကြကုန်သော စိတ်+စေတသိက် = နာမ်တရားစုတို့၏ အသီးအသီး တစ်လုံးစီ တစ်လုံးစီကို သဗ္ဗညုတဉာဏ်တော်မြတ်ဖြင့် ခွဲခြားစိတ်ဖြာခြင်းကို ပြု၍ — "ဤကား ဖဿ, ဤကား ဝေဒနာ, ဤကား သညာ, ဤကား စေတနာ, ဤကား ဝိညာဏ်" . . ဤသို့ စသည်ဖြင့် ယင်းနာမ်တရားစုတို့၏ အမည်နာမ ပညတ်ကို ထုတ်ဆောင်လျက် ပညတ်တင်ကာ ဘုရားရှင်၏ ဟောကြားထားတော်မူချက်မှာ အလွန် ခဲယဉ်းသော လုပ်ငန်းရပ်ကို ပြုတော်မူအပ်သည်မည်ကြောင်း" ဖွင့်ဆိုချက်မှာ အထူး အလေးဂရုပြု၍ မှတ်သားထားရမည့် အချက်ပင် ဖြစ်ပေသည်။

## ဝတ္ထုနှင့် အာရုံကို ပူးတွဲ သိမ်းဆည်းပါ

နာမ်တရားတို့ကို သိမ်းဆည်းရာ၌ ရှိသေစွာ ဦးထိပ်ရွက် ပန်ဆင်လျက် လိုက်နာပြုကျင့်ရမည့် ရှေးထုံးဟောင်း ဥပဒေသတစ်ရပ်ကား — ဝတ္ထုနှင့် အာရုံကို ပူးတွဲသိမ်းဆည်းလျက် နာမ်တရားတို့ကို သိမ်းဆည်းခြင်းပင် ဖြစ်သည်။ ယင်းစည်းကမ်းဥပဒေသကား အရှင်သာရိပုတ္တရာ ကိုယ်တော်မြတ်ကြီး ရိုရိုသေသေ လိုက်နာပြုကျင့်သွားတော်မူသော ရှေးထုံးဟောင်း ဥပဒေသတစ်ရပ် ဖြစ်၏။ အရှင်သာရိပုတ္တရာ ကိုယ်တော်မြတ်ကြီး၏ ဝိပဿနာ ရှုကွက်တို့တွင် တစ်ခုသော ပထမဈာန်နာမ်တရား ရှုကွက်ကို ပုံစံအဖြစ် ထုတ်ပြအပ်ပါသည်။ ဘုရားရှင်သည် အရှင်သာရိပုတ္တရာ ကိုယ်တော်မြတ်ကြီး၏ ပထမဈာန်နာမ်တရား ရှုကွက်ကို ဤသို့ ဟောကြားထားတော်မူ၏။

"ထိုသာရိပုတ္တရာသည် ထို ပထမဈာန်နာမ်တရားတို့ကို အစဉ်အတိုင်း တစ်လုံးစီ တစ်လုံးစီ ပိုင်းခြား၍ သိ၏၊ ထိုဈာန်နာမ်တရားတို့သည် ထိုသာရိပုတ္တရာ၏ အသိဉာဏ်၌ ထင်ထင်ရှားရှား သိအပ်သည် ဖြစ်၍ ဖြစ်နေကုန်၏၊ ထင်ထင်ရှားရှား သိအပ်သည်ဖြစ်၍ တည်နေကုန်၏၊ ထင်ထင်ရှားရှား သိအပ်သည်ဖြစ်၍ ချုပ်နေကုန်၏ = ထိုသာရိပုတ္တရာသည် ထိုဈာန်နာမ်တရားတို့၏ ဖြစ်မှု ဥပါဒ်ကို ထင်ထင်ရှားရှား သိ၏၊ တည်မှု ဌီကို ထင်ထင်ရှားရှား သိ၏၊ ပျက်မှု ဘင်ကို ထင်ထင်ရှားရှား သိ၏။ "ဤဈာန်နာမ်တရားတို့သည် ရှေးက ထင်ရှားမရှိဘဲ ယခုမှ ရုတ်ခြည်း အသစ် ဖြစ်ပေါ်လာကုန်၏၊ ဖြစ်ပြီးလျှင် ခဏတိုင်း ရုတ်ခြည်း ချုပ်ပျက်ကုန်၏"ဟု ထိုသာရိပုတ္တရာသည် ဤသို့ သိ၏။"[၅၈၉]

အရှင်သာရိပုတ္တရာ ကိုယ်တော်မြတ်ကြီးသည် ပထမဈာန်မှသည် အာကိဉ္စညာယတနဈာန်သို့တိုင်အောင် ယင်း ဈာန်နာမ်တရား အသီးအသီးကို **အနုပဒဓမ္မ ဝိပဿနာနည်း**အားဖြင့် အစဉ်အတိုင်း တစ်လုံးစီ တစ်လုံးစီ ဝိပဿနာ ရှုပွားသုံးသပ်တော်မူ၏။ နေဝသညာနာသညာယတနဈာန်အတွင်း၌ တည်ရှိကုန်သော ဈာန်နာမ်တရားတို့ကိုကား **ကလာပသမ္မသနနည်း**အားဖြင့် ပေါင်းစုခြုံငုံ၍ ဝိပဿနာ ရှုပွားသုံးသပ်တော်မူ၏။[၅၉၀] ထိုသို့ ရှုပွားသုံးသပ်တော်မူရာ၌

---

[၅၈၈] သမ္မာသမ္ဗုဒ္ဓေန ပန ဣမေသံ အရူပီနံ စိတ္တစေတသိကာနံ ဓမ္မာနံ ဧကာရမ္မဏေ ပဝတ္တမာနာနံ ပါဋိယေက္ကံ ပါဋိယေက္ကံ ဝိနိဗ္ဘောဂံ ကတွာ ပညတ္တိံ ဥဒ္ဒရမာနေန အတိဒုက္ကရံ ကတံ။ (အဘိ၊ဋ္ဌ၊၁၊၁၈၆။)

[၅၈၉] တျာဿ ဓမ္မာ အနုပဒဝဝတ္ထိတာ ဟောန္တိ၊ တျာဿ ဓမ္မာ ဝိဒိတာ ဥပ္ပဇ္ဇန္တိ၊ ဝိဒိတာ ဥပဋ္ဌဟန္တိ၊ ဝိဒိတာ အဗ္ဘတ္ထံ ဂစ္ဆန္တိ။ သော ဧဝံ ပဇာနာတိ "ဧဝံ ကိရမေ ဓမ္မာ အဟုတွာ သမ္ဘောန္တိ၊ ဟုတွာ ပဋိဝေန္တီ"တိ။ (မ၊၃၊၇၅။)     [၅၉၀] (မ၊ဋ္ဌ၊၄၊၆၁။)

ထိုစျာန်နာမ်တရား တစ်လုံးစီ တစ်လုံးစီ၏ ဖြစ်မှု တည်မှု ပျက်မှုကို ထင်ထင်ရှားရှား သိတော်မူ၏။ ထိုသို့ သိတော်မူနိုင်ခြင်း၏ အကြောင်းရင်းကို ဥပရိပဏ္ဏာသ အဋ္ဌကထာ ဋီကာတို့[၁၉၁]က အောက်ပါအတိုင်း ရှင်းလင်းတင်ပြထားတော်မူကြ၏ . . ။

"အရှင်သာရိပုတ္တရာကိုယ်တော်မြတ်ကြီး၏ ထိုကဲ့သို့ ဝိပဿနာရှုပွားသုံးသပ်တော်မူနိုင်ခြင်း၏ အကြောင်းရင်းမှာ ဝတ္ထုနှင့် အာရုံကို ပူးတွဲ သိမ်းဆည်းထားနိုင်သောကြောင့် ဖြစ်၏။[၁၉၂] မှန်ပေသည် — အရှင်သာရိပုတ္တရာ ကိုယ်တော်မြတ်ကြီးသည် စျာန်စိတ္တုပ္ပါဒ်တစ်ခုတစ်ခု၏ အတွင်း၌ တည်ရှိသော စျာန်နာမ်တရား တစ်လုံးစီ တစ်လုံးစီကို မသိမ်းဆည်းမီ ရှေးအဖို့က ကြိုတင်၍ ယင်းစျာန်နာမ်တရားတို့၏ မှီရာဝတ္ထုကိုလည်းကောင်း (= စွဲမှီ၍ ဖြစ်ရာ ဘဝင်မနောဒွါရကိုလည်းကောင်း) ယင်းစျာန်နာမ်တရားတို့၏ အာနာပါနပဋိဘာဂနိမိတ် သို့မဟုတ် ကသိုဏ်းပဋိဘာဂနိမိတ် စသော ဆိုင်ရာ သမထနိမိတ်အာရုံကိုလည်းကောင်း ပူးတွဲ၍ သိမ်းဆည်းထားတော်မူ၏။ ယင်းသို့ ပူးတွဲ သိမ်းဆည်းထားနိုင်သောကြောင့် ထိုစျာန်စိတ္တုပ္ပါဒ်၏ အတွင်း၌ တည်ရှိသော ထိုစျာန်နာမ်တရားတို့၏ ဖြစ်မှု ဥပါဒ်ကို ဆင်ခြင်လိုက်သောအခါ ယင်းဖြစ်မှု ဥပါဒ်သည် အရှင်သာရိပုတ္တရာကိုယ်တော်မြတ်ကြီး၏ အသိဉာဏ်၌ ထင်ရှားနေ၏။ တည်မှု ဌီကို ဆင်ခြင်လိုက်သောအခါ ယင်းတည်မှု ဌီသည် အရှင်သာရိပုတ္တရာ ကိုယ်တော်မြတ်ကြီး၏ အသိဉာဏ်၌ ထင်ရှားနေ၏၊ ပျက်ခြင်း ဘင်ကို ဆင်ခြင်လိုက်သောအခါ ယင်းပျက်ခြင်း ဘင်သည် အရှင်သာရိပုတ္တရာ ကိုယ်တော်မြတ်ကြီး၏ အသိဉာဏ်၌ ထင်ရှားနေ၏။ ထိုကြောင့် "ထိုစျာန်နာမ်တရားတို့သည် ထိုသာရိပုတ္တရာ၏ အသိဉာဏ်၌ ထင်ထင်ရှားရှား သိအပ်သည်ဖြစ်၍ ဖြစ်နေကုန်၏။ ထင်ထင်ရှားရှား သိအပ်သည်ဖြစ်၍ တည်နေကုန်၏။ ထင်ထင်ရှားရှား သိအပ်သည် ဖြစ်၍ ချုပ်နေကုန်၏"ဟု ဘုရားရှင်က ဟောကြားထားတော်မူခြင်း ဖြစ်ပေသည်။"

ဤဥပဒေသကား နာမ်ကမ္မဋ္ဌာန်းကို အားသစ်လိုသော ယောဂါဝစရပုဂ္ဂိုလ်အတွက် "မဏိဇောတ ပြည်တန်မြ" ကဲ့သို့ တန်ဖိုးမဖြတ်နိုင်သော စည်းမျဉ်း ဥပဒေသတစ်ရပ်ပင် ဖြစ်သည်။ နာမ်ကမ္မဋ္ဌာန်းကိုကား အားထုတ်ပါ၏။ သို့သော် ဝတ္ထုနှင့် အာရုံကိုကား ပူးတွဲသိမ်းဆည်းမှု မရှိ။ ထိုကဲ့သို့သော ယောဂါဝစရပုဂ္ဂိုလ်မျိုးသည်ကား ဘုရားဟောဒေသနာတော်ကို ကျောခိုင်းလျက် ထိုင်နေသူသာ ဖြစ်ပေသည်။ ဘုရားရှင်၏ နာမ်ကမ္မဋ္ဌာန်းရှုကွက်ကို ကုဋေတစ်သိန်းနှင့် ကိုင်ပေါက်နေသူသာ များသောအားဖြင့် ဖြစ်တတ်ပေသည်။

## ရုပ်တရားကို တစ်ဖန် ပြန်၍ သိမ်းဆည်းပါ

အထက်တွင် ရေးသား တင်ပြထားသည့်အတိုင်း ဖဿပဉ္စမကတရား ဦးဆောင်နေသည့် နာမ်တရားတို့ကို သိမ်းဆည်းလိုသော ယောဂါဝစရပုဂ္ဂိုလ်သည် ရုပ်ကမ္မဋ္ဌာန်းကို သိမ်းဆည်းထားပြီး ဖြစ်ရပေမည်။ အထူးသဖြင့် မှီရာဝတ္ထုရုပ်နှင့် အာရုံရုပ်တို့ကို သိမ်းဆည်းထားပြီး ဖြစ်ရပေမည်။ တစ်ဖန် ဖဿပဉ္စမကတရား ဦးဆောင်သည့် နာမ်တရားတို့ကို သိမ်းဆည်းပြီးသောအခါ၌လည်း ရုပ်တရားတို့ကို တစ်ဖန်ပြန်၍ ထပ်မံသိမ်းဆည်းရန် အဋ္ဌကထာများ[၁၉၃]က ဤသို့ ညွှန်ကြားထားကြပြန်၏။

"ဖဿပဉ္စမကတရား ဦးဆောင်သည့် နာမ်တရားတို့ကို သိမ်းဆည်းပြီးသော ထိုယောဂါဝစရပုဂ္ဂိုလ်သည် . . "ဤဖဿပဉ္စမကတရား ဦးဆောင်သည့် နာမ်တရားတို့သည် အဘယ်ကို မှီ၍ ဖြစ်ကုန်သနည်း"ဟု ဉာဏ်ဖြင့် စူးစမ်း

---

[၁၉၁] ဝတ္ထာရမ္မဏာနံ ပရိဂ္ဂဟိတတာယ။ ထေရေန ဟိ ဝတ္ထု စေဝ အာရမ္မဏဉ္စ ပရိဂ္ဂဟိတံ၊ တေနဿ တေသံ ဓမ္မာနံ ဥပ္ပါဒံ အာဝဇ္ဇန္တဿ ဥပ္ပါဒေါ ပါကဋော ဟောတိ၊ ဌာနံ အာဝဇ္ဇန္တဿ ဌာနံ ပါကဋံ ဟောတိ၊ ဘေဒံ အာဝဇ္ဇန္တဿ ဘေဒေါ ပါကဋော ဟောတိ။ တေန ဝုတ္တံ "ဝိဒိတာ ဥပ္ပဇ္ဇန္တိ ဝိဒိတာ ဥပဋ္ဌဟန္တိ ဝိဒိတာ အဗ္ဘတ္ထံ ဂစ္ဆန္တီ"တိ။ (မ၊ဋ္ဌ၊၄၊၆၀။)

**ဝတ္ထာရမ္မဏာနံ ပရိဂ္ဂဟိတတာယာ**တိ ယသ္မိံ စ အာရမ္မဏေ ယေ စျာနဓမ္မာ ပဝတ္တန္တိ၊ တေသံ ဝတ္ထာရမ္မဏာနံ ပဂေဝ ဉာဏေန ပရိစ္ဆိဇ္ဇ ဂဟိတတ္တာ။ ပ ။ **တေသံ ဓမ္မာန**န္တိ စျာနစိတ္တုပ္ပါဒပရိယာပန္နာနံ ဓမ္မာနံ။ (မဋီ၊၃၊၂၇၈။)

[၁၉၂] ဤအရာ၌ ဝတ္ထုနှင့် အာရုံကို ပူးတွဲ သိမ်းဆည်းရမည်ဟူသော စကားရပ်ဝယ် ဝတ္ထုအရ စက္ခုဒွါရ သောတဒွါရ ဃာနဒွါရ ဇိဝှါဒွါရ ကာယဒွါရ မနောဒွါရ ဟူသော ဒွါရ (၆)ပါးကို ဆိုလိုသည်ဟု မှတ်ပါ။

[၁၉၃] သော "ဣမေ ဖဿပဉ္စမကာ ကိံ နိဿိတာ"တိ ဥပဓာရေန္တော "ဝတ္ထုံ နိဿိတာ"တိ ပဇာနာတိ။ ဝတ္ထု နာမ ကရဇကာယော၊ ယံ သန္ဓာယ ဝုတ္တံ "ဣဒဉ္စ မေ ဝိညာဏံ ဧတ္ထ သိတံ ဧတ္ထ ပဋိဗဒ္ဓ"န္တိ။ သော အတ္ထတော ဘူတာနိစေဝ ဥပါဒါရူပါနိ စ။ (ဒီ၊ဋ္ဌ၊၂၊၃၁၄-၃၁၅။ မ၊ဋ္ဌ၊၁၊၂၈၀။ အဘိ၊ဋ္ဌ၊၂၊၂၅၂-၂၅၃။)

ဆင်ခြင်လတ်သော် ဝတ္ထုရုပ်ကို မှီ၍ ဖြစ်ကုန်၏ဟု ကွဲကွဲပြားပြား သိ၏။ ဝတ္ထုမည်သည်ကား ကရဇကာယတည်း။ ယင်းကရဇကာယကိုပင် ရည်ရွယ်တော်မူ၍ . . 'ငါ၏ ဤဝိညာဏ်သည် ဤကရဇကာယ၌ မှီဖြစ်၏၊ ဤကရဇကာယ၌ ဆက်စပ်ဖြစ်၏'[၁၉၄]ဟု ဘုရားရှင်သည် ဟောကြားထားတော်မူ၏။ ထိုကရဇကာယဟူသည် တရားကိုယ်အားဖြင့် ဘူတရုပ် ဥပါဒါရုပ်ပင်တည်း။"

မူလဋီကာ[၁၉၅]ကလည်း ထပ်ဆင့်ကာ ဤသို့ ရှင်းလင်းတင်ပြထား၏ . . ။

" 'ပုဂ္ဂိုလ် သတ္တဝါ ဇီဝ အတ္တ လူ နတ် ဗြဟ္မာ မရှိ၊ ရုပ်နာမ်မျှသာ ရှိ၏'ဟု - ဤသို့ ပိုင်းခြား မှတ်သားတတ်သော နာမရူပဝဝတ္ထာနဉာဏ်ကို အလိုရှိအပ်သော အရာဌာန ဖြစ်ခြင်းကြောင့် အကြွင်းအကျန်မရှိ ကုန်စင်အောင် ရုပ်တရားကို သိမ်းဆည်းခြင်းကို ညွှန်ပြတော်မူခြင်းငှာ – 'ဝတ္ထုမည်သည် ကရဇကာယတည်း'ဟု အဋ္ဌကထာဆရာတော်က ဖွင့်ဆိုသွားတော်မူခြင်း ဖြစ်၏။ ယင်းစကားရပ်ဖြင့် — စက္ခုဝတ္ထု သောတဝတ္ထု ဃာနဝတ္ထု ဇိဝှါဝတ္ထု ကာယဝတ္ထု ဟဒယဝတ္ထု ဟူသော ဝတ္ထုရုပ်သက်သက်မျှကိုသာ ဤ၌ ဝတ္ထုအရ တရားကိုယ်ကောက်ယူရသည် မဟုတ်။ ယင်းဝတ္ထုရုပ်တို့နှင့် ဌာနတစ်ခုအတွင်း၌ = ဒွါရတစ်ခုအတွင်း၌ တည်ရှိကြသော (၆၃)မျိုး (၅၃)မျိုးသော ကရဇကာယ အမည်ရသည့် ဘူတရုပ် ဥပါဒါရုပ်အားလုံးတို့ကိုပင် ဝတ္ထုအရ တရားကိုယ် ကောက်ယူရမည်ဟု ဆိုလို၏။ ကရဇကာယ အမည်ရသည့် ယင်းဘူတရုပ် ဥပါဒါရုပ်အားလုံးကိုပင် ဝတ္ထုအဖြစ် ပြီးစေခြင်းငှာ 'ငါ၏ ဤဝိညာဏ်သည် ဤကရဇကာယ၌ မှီဖြစ်၏၊ ဤကရဇကာယ၌ ဆက်စပ်ဖြစ်၏' - ဟု သာမညဖလသုတ္တန်နှင့် မဟာသကုလုဒါယိသုတ္တန်တို့၏ အဆိုအမိန့်ကို ထုတ်ဆောင်၍ ညွှန်ပြတော်မူသည်။"

ဤတိုင်အောင် တင်ပြခဲ့သော စည်းမျဉ်း ဥပဒေသတို့ကား နာမ်တရားကို သိမ်းဆည်းလိုသော ယောဂါဝစရ ပုဂ္ဂိုလ်တို့ လိုက်နာသင့်သော စည်းကမ်း ဥပဒေသအချို့တို့ ဖြစ်ကြသည်။ ကြွင်းကျန်သော စည်းကမ်းဥပဒေသ အချို့ကိုလည်း အလျဉ်းသင့်ရာ၌ ထပ်မံ၍ ရေးသားတင်ပြပါဦးမည်။ တစ်ဖန် နာမ်တရားတို့ကို သိမ်းဆည်းရာ၌ စက္ခုဒွါရဝီထိ စသည်ဖြင့် ဝီထိ (၆)မျိုးရှိရာ မနောဒွါရဝီထိမှာ ဝီထိစိတ်အရေအတွက် ပို၍ နည်းပါးသဖြင့် ယင်းမနောဒွါရဝီထိကစ၍ နာမ်တရားတို့ကို သိမ်းဆည်းပုံကို ဆက်လက်တင်ပြအပ်ပါသည်။ ယင်းမနောဒွါရဝီထိတို့တွင်လည်း သမထယာနိကပုဂ္ဂိုလ်သည် အပ္ပနာဇော မနောဒွါရဝီထိက စ၍ သိမ်းဆည်းရန် ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ[၁၉၆]တွင် ညွှန်ကြားထားသဖြင့် ဈာနသမာပတ္တိဝီထိများ၏ အတွင်း၌ တည်ရှိသော ဈာနဓမ္မ အမည်ရသော ဈာန်နာမ်တရားတို့က စ၍ သိမ်းဆည်းပုံကို ဆက်လက်၍ ရေးသားတင်ပြအပ်ပါသည်။[၁၉၇]

(ဤနေရာတွင် အလျဉ်းသင့်သဖြင့် ပရမတ်တရား ဇယားများကိုလည်း ဖော်ပြထားပါသည်။ အလိုရှိသလို ကြည့်ရှု အသုံးပြုကြပါကုန် . . . . . ။)



---

[၁၉၄] (ဒီ၊၁၊၇၂၊ သာမညဖလသုတ္တန်။ မ၊၂၊၂၀၉၊ မဟာသကုလုဒါယိသုတ္တန်။)

[၁၉၅] နာမရူပဝဝတ္ထာနဿ အဓိပ္ပေတတ္တာ နိရဝသေသရူပပရိဂ္ဂဟဿ ဒဿနတ္ထံ **"ဝတ္ထု နာမ ကရဇကာယော"**တိ အာဟ န စက္ခာဒီနိ ဆ ဝတ္ထူနီတိ။ ကရဇကာယဿ ပန ဝတ္ထုဘာဝသာဓနတ္ထံ "ဣဒဉ္စ ပန မေ ဝိညာဏံ ဧတ္ထ သိတံ၊ ဧတ္ထ ပဋိဗဒ္ဓ"န္တိ သုတ္တံ အာဘတံ။ (မူလဋီ၊၂၊၁၅၇။)

[၁၉၆] (ဝိသုဒ္ဓိ၊၂၊၂၂၂။)

[၁၉၇] **မှတ်ချက်** — ရူပါရုံကို အာရုံပြု၍ ဖြစ်ပေါ်လာကြသော စက္ခုဒွါရဝီထိ မနောဒွါရဝီထိ နာမ်တရားတို့ကို ရူပါရုံလိုင်း နာမ်တရားဟုလည်းကောင်း၊ သဒ္ဒါရုံကို အာရုံပြု၍ ဖြစ်ပေါ်လာကြသော သောတဒွါရဝီထိ မနောဒွါရဝီထိ နာမ်တရားတို့ကို သဒ္ဒါရုံလိုင်း နာမ်တရားဟုလည်းကောင်း၊ ဂန္ဓာရုံကို အာရုံပြု၍ ဖြစ်ပေါ်လာကြသော ဃာနဒွါရဝီထိ မနောဒွါရဝီထိ နာမ်တရားတို့ကို ဂန္ဓာရုံလိုင်း နာမ်တရားဟုလည်းကောင်း၊ ရသာရုံကို အာရုံပြု၍ ဖြစ်ပေါ်လာကြသော ဇိဝှါဒွါရဝီထိ မနောဒွါရဝီထိ နာမ်တရားတို့ကို ရသာရုံလိုင်း နာမ်တရားဟုလည်းကောင်း၊ ဖောဋ္ဌဗ္ဗာရုံကို အာရုံပြု၍ ဖြစ်ပေါ်လာကြသော ကာယဒွါရဝီထိ မနောဒွါရဝီထိ နာမ်တရားတို့ကို ဖောဋ္ဌဗ္ဗာရုံလိုင်း နာမ်တရားဟုလည်းကောင်း၊ ဓမ္မာရုံ အမည်ရသော တရားစုကို သို့မဟုတ် တရားစုတွင် တစ်ခုခုကို အာရုံပြု၍ ဖြစ်ပေါ်လာကြသော မနောဒွါရဝီထိ နာမ်တရားတို့ကို ဓမ္မာရုံလိုင်း နာမ်တရားဟုလည်းကောင်း၊ ဤသို့ အသီးအသီး ခေါ်ဝေါ် သုံးစွဲထားပါသည်။

## ပရမတ်တရားများ ဇယားချုပ်

| ပရမတ် အမျိုးအစား | ရုပ်တရား နာမ်တရား | ခန္ဓာ (၅) ပါး | အာယတန (၁၂) ပါး | | ဓာတ် (၁၈) ပါး | | | သစ္စာ (၄) ပါး |
|---|---|---|---|---|---|---|---|---|
| | | | အတွင်းအာယတန (၆)ပါး | အပြင်အာယတန (၆)ပါး | အခံဓာတ် (ဒွါရ ဖြ-ဖို) | အတိုက်ဓာတ် (အာရုံ ဖြ-တန်) | အပွင့်ဓာတ် (ဝိညာဏ် ဖြ-သွယ်) | |
| ၁) **ရုပ်** (× ၂၈) | ရုပ်တရား | ရူပက္ခန္ဓာ | စက္ခာယတန<br>သောတာယတန<br>ဃာနာယတန<br>ဇိဝှါယတန<br>ကာယာယတန | ရူပါယတန<br>သဒ္ဒါယတန<br>ဂန္ဓာယတန<br>ရသာယတန<br>ဖောဋ္ဌဗ္ဗာယတန<br>ဓမ္မာယတန | စက္ခုဓာတ်<br>သောတဓာတ်<br>ဃာနဓာတ်<br>ဇိဝှါဓာတ်<br>ကာယဓာတ် | ရူပဓာတ်<br>သဒ္ဒဓာတ်<br>ဂန္ဓဓာတ်<br>ရသဓာတ်<br>ဖောဋ္ဌဗ္ဗဓာတ်<br>ဓမ္မဓာတ် | | ဒုက္ခသစ္စာ |
| ၂) **စိတ်** (× ၈၉) | နာမ်တရား | ဝိညာဏက္ခန္ဓာ | မနာယတန | | မနောဓာတ် | | စက္ခုဝိညာဏဓာတ်<br>သောတဝိညာဏဓာတ်<br>ဃာနဝိညာဏဓာတ်<br>ဇိဝှါဝိညာဏဓာတ်<br>ကာယဝိညာဏဓာတ်<br>မနောဝိညာဏဓာတ် | ဒုက္ခသစ္စာ<br>မဂ္ဂသစ္စာ |
| ၃) **စေတသိက်** (× ၅၂ ) | နာမ်တရား | ဝေဒနာက္ခန္ဓာ<br>သညာက္ခန္ဓာ<br>သင်္ခါရက္ခန္ဓာ | | ဓမ္မာယတန | | ဓမ္မဓာတ် | | ဒုက္ခသစ္စာ<br>သမုဒယသစ္စာ<br>မဂ္ဂသစ္စာ |
| ၄) **နိဗ္ဗာန်** (× ၁) | | | | ဓမ္မာယတန | | ဓမ္မဓာတ် | | နိရောဓသစ္စာ |

## ခန္ဓာ (၅) ပါးနည်းဖြင့် ပရမတ်တရားများကို ရေတွက်ပြခြင်း ဇယား

| | | | |
|---|---|---|---|
| ၄ × မဟာဘုတ်ဓာတ်ကြီး<br>၂၄ × ဥပါဒါရုပ် | ၂၈ × ရုပ်အားလုံး | | ၁) **ရူပက္ခန္ဓာ** |
| ၁ × ဝေဒနာစေတသိက် | | | ၂) **ဝေဒနာက္ခန္ဓာ** |
| ၁ × သညာစေတသိက် | | | ၃) **သညာက္ခန္ဓာ** |
| ၁ × ဖဿစေတသိက်<br>၁ × စေတနာစေတသိက်<br>၁ × ဧကဂ္ဂတာစေတသိက်<br>၁ × ဇီဝိတစေတသိက်<br>၁ × မနသိကာရစေတသိက်<br>၆ × ပကိဏ်းစေတသိက်<br>၁၄ × အကုသိုလ်စေတသိက်<br>၁၉ × သောဘဏသာဓာရဏစေတသိက်<br>၃ × ဝိရတိစေတသိက်<br>၂ × အပ္ပမညာစေတသိက်<br>၁ × ပညာစေတသိက် | ၅၀ × (ဝေဒနာနှင့် သညာ မပါ) ကျန်စေတသိက်အားလုံး | | ၄) **သင်္ခါရက္ခန္ဓာ** |
| ၈ × လောဘမူစိတ်<br>၂ × ဒေါသမူစိတ်<br>၂ × မောဟမူစိတ်<br>၇ × အဟိတ် အကုသလဝိပါက်စိတ်<br>၈ × အဟိတ် ကုသလဝိပါက်စိတ်<br>၁ × ပဉ္စဒွါရာဝဇ္ဇန်းစိတ်<br>၁ × မနောဒွါရာဝဇ္ဇန်းစိတ်<br>၁ × ဟသိတုပ္ပါဒ်စိတ်<br>၈ × မဟာကုသိုလ်စိတ်<br>၈ × မဟာဝိပါက်စိတ်<br>၈ × မဟာကြိယာစိတ်<br>၅ × ရူပါဝစရကုသိုလ်စိတ်<br>၅ × ရူပါဝစရဝိပါက်စိတ်<br>၅ × ရူပါဝစရကြိယာစိတ်<br>၄ × အရူပါဝစရကုသိုလ်စိတ်<br>၄ × အရူပါဝစရဝိပါက်စိတ်<br>၄ × အရူပါဝစရကြိယာစိတ် | ၈၁ × လောကီစိတ် | ၈၉ × စိတ်အားလုံး | ၅) **ဝိညာဏက္ခန္ဓာ** |
| ၄ × လောကုတ္တရာကုသိုလ်စိတ်<br>၄ × လောကုတ္တရာဝိပါက်စိတ် | ၈ × လောကုတ္တရာစိတ် | | |
| ၁ × နိဗ္ဗာန် | ရုပ်နာမ် ခန္ဓာတို့တွင် မပါဝင်ပါ။ | | |

## အာယတန (၁၂) ပါးနည်းဖြင့် ပရမတ်တရားများကို ရေတွက်ပြခြင်း ဇယား

<table>
<tr><td colspan="2">၁ × စက္ခုပသာဒ (= စက္ခုအကြည်)</td><td>၁) စက္ခာယတန</td></tr>
<tr><td colspan="2">၁ × ရူပါရုံ (= အရောင်အဆင်း)</td><td>၂) ရူပါယတန</td></tr>
<tr><td colspan="2">၁ × သောတပသာဒ (= သောတအကြည်)</td><td>၃) သောတာယတန</td></tr>
<tr><td colspan="2">၁ × သဒ္ဒါရုံ (= အသံ)</td><td>၄) သဒ္ဒါယတန</td></tr>
<tr><td colspan="2">၁ × ဃာနပသာဒ (= ဃာနအကြည်)</td><td>၅) ဃာနာယတန</td></tr>
<tr><td colspan="2">၁ × ဂန္ဓာရုံ (= အနံ့)</td><td>၆) ဂန္ဓာယတန</td></tr>
<tr><td colspan="2">၁ × ဇိဝှါပသာဒ (= ဇိဝှါအကြည်)</td><td>၇) ဇိဝှါယတန</td></tr>
<tr><td colspan="2">၁ × ရသာရုံ (= အရသာ)</td><td>၈) ရသာယတန</td></tr>
<tr><td colspan="2">၁ × ကာယပသာဒ (= ကာယအကြည်)</td><td>၉) ကာယာယတန</td></tr>
<tr><td colspan="2">၃ × ဖောဋ္ဌဗ္ဗာရုံ (= ပထဝီဓာတ်၊ တေဇောဓာတ်၊ ဝါယောဓာတ်)</td><td>၁၀) ဖောဋ္ဌဗ္ဗာယတန</td></tr>
<tr><td colspan="2">၈၉ × စိတ်အားလုံး</td><td>၁၁) မနာယတန</td></tr>
<tr><td>၁ × အာပေါဓာတ် (= ရေဓာတ်)<br>၁ × ဩဇာ (= အာဟာရ)<br>၁ × ရုပ်ဇီဝိတ (= ဇီဝိတိန္ဒြေ)<br>၁ × ဟဒယရုပ် (= ဟဒယဝတ္ထု)<br>၂ × ဘာဝရုပ် (= ဘာဝရူပ)<br>၁၀ × ရုပ်အတု (= အနိပ္ဖန္နရုပ်အားလုံး)</td><td>၁၆ × သုခုမရုပ်အားလုံး</td><td rowspan="3">၁၂) ဓမ္မာယတန</td></tr>
<tr><td>၇ × သဗ္ဗစိတ္တသာဓာရဏစေတသိက်<br>၆ × ပကိဏ်းစေတသိက်<br>၁၄ × အကုသိုလ်စေတသိက်<br>၁၉ × သောဘဏသာဓာရဏစေတသိက်<br>၃ × ဝိရတိစေတသိက်<br>၂ × အပ္ပမညာစေတသိက်<br>၁ × ပညာစေတသိက်</td><td>၅၂ × စေတသိက်အားလုံး</td></tr>
<tr><td colspan="2">၁ × နိဗ္ဗာန်</td></tr>
</table>

## ဓာတ် (၁၈) ပါးနည်းဖြင့် ပရမတ်တရားများကို ရေတွက်ပြခြင်း ဇယား

| | | |
|---|---|---|
| ၁ × စက္ခုပသာဒ | (= စက္ခုအကြည်) | ၁) **စက္ခုဓာတ်** |
| ၁ × ရူပါရုံ | (= အရောင်အဆင်း) | ၂) **ရူပဓာတ်** |
| ၂ × စက္ခုဝိညာဏ် | (အကုသလဝိပါက်/ကုသလဝိပါက်) | ၃) **စက္ခုဝိညာဏဓာတ်** |
| ၁ × သောတပသာဒ | (= သောတအကြည်) | ၄) **သောတဓာတ်** |
| ၁ × သဒ္ဒါရုံ | (= အသံ) | ၅) **သဒ္ဒဓာတ်** |
| ၂ × သောတဝိညာဏ် | (အကုသလဝိပါက်/ကုသလဝိပါက်) | ၆) **သောတဝိညာဏဓာတ်** |
| ၁ × ဃာနပသာဒ | (= ဃာနအကြည်) | ၇) **ဃာနဓာတ်** |
| ၁ × ဂန္ဓာရုံ | (= အနံ့) | ၈) **ဂန္ဓဓာတ်** |
| ၂ × ဃာနဝိညာဏ် | (အကုသလဝိပါက်/ကုသလဝိပါက်) | ၉) **ဃာနဝိညာဏဓာတ်** |
| ၁ × ဇိဝှါပသာဒ | (= ဇိဝှါအကြည်) | ၁၀) **ဇိဝှါဓာတ်** |
| ၁ × ရသာရုံ | (= အရသာ) | ၁၁) **ရသဓာတ်** |
| ၂ × ဇိဝှါဝိညာဏ် | (အကုသလဝိပါက်/ကုသလဝိပါက်) | ၁၂) **ဇိဝှါဝိညာဏဓာတ်** |
| ၁ × ကာယပသာဒ | (= ကာယအကြည်) | ၁၃) **ကာယဓာတ်** |
| ၃ × ဖောဋ္ဌဗ္ဗာရုံ | (= ပထဝီဓာတ်၊ တေဇောဓာတ်၊ ဝါယောဓာတ်) | ၁၄) **ဖောဋ္ဌဗ္ဗဓာတ်** |
| ၂ × ကာယဝိညာဏ် | (အကုသလဝိပါက်/ကုသလဝိပါက်) | ၁၅) **ကာယဝိညာဏဓာတ်** |
| ၁ × ပဉ္စဒွါရာဝဇ္ဇန်းစိတ်<br>၂ × သမ္ပဋိစ္ဆန်းစိတ် | <br>(အကုသလဝိပါက်/ကုသလဝိပါက်) | ၁၆) **မနောဓာတ်** |
| ၁၆ × သုခုမရုပ်အားလုံး<br>၅၂ × စေတသိက်အားလုံး<br>၁ × နိဗ္ဗာန် | | ၁၇) **ဓမ္မဓာတ်** |
| ၈ × လောဘမူစိတ်<br>၂ × ဒေါသမူစိတ်<br>၂ × မောဟမူစိတ်<br>၃ × သန္တီရဏစိတ် (အကုသလဝိပါက်/ကုသလဝိပါက်)<br>၁ × မနောဒွါရာဝဇ္ဇန်းစိတ်<br>၁ × ဟသိတုပ္ပါဒ်စိတ်<br>၈ × မဟာကုသိုလ်စိတ်<br>၈ × မဟာဝိပါက်စိတ်<br>၈ × မဟာကြိယာစိတ်<br>၅ × ရူပါဝစရကုသိုလ်စိတ်<br>၅ × ရူပါဝစရဝိပါက်စိတ်<br>၅ × ရူပါဝစရကြိယာစိတ်<br>၄ × အရူပါဝစရကုသိုလ်စိတ်<br>၄ × အရူပါဝစရဝိပါက်စိတ်<br>၄ × အရူပါဝစရကြိယာစိတ်<br>၄ × လောကုတ္တရာကုသိုလ်စိတ်<br>၄ × လောကုတ္တရာဝိပါက်စိတ် | | ၁၈) **မနောဝိညာဏဓာတ်** |

## သစ္စာ (၄) ပါးနည်းဖြင့် ပရမတ်တရားများကို ရေတွက်ပြခြင်း ဇယား

<table>
<tr><td colspan="2">၂၈ × ရုပ်အားလုံး<br>၈၁ × လောကီစိတ်<br>၇ × (လောကီ) သဗ္ဗစိတ္တသာဓာရဏစေတသိက်<br>၆ × (လောကီ) ပကိဏ်းစေတသိက်<br>၁၃ × (လောဘ မပါ) အကုသိုလ်စေတသိက်<br>၁၉ × (လောကီ) သောဘဏသာဓာရဏစေတသိက်<br>၃ × (လောကီ) ဝိရတိစေတသိက်<br>၂ × အပ္ပမညာစေတသိက်<br>၁ × (လောကီ) ပညာစေတသိက်</td><td>၁) ဒုက္ခသစ္စာ</td></tr>
<tr><td colspan="2">၁ × လောဘ (= တဏှာ = ရာဂ) စေတသိက်</td><td>၂) သမုဒယသစ္စာ</td></tr>
<tr><td colspan="2">၁ × နိဗ္ဗာန်</td><td>၃) နိရောဓသစ္စာ</td></tr>
<tr><td colspan="2">၄ × လောကုတ္တရာကုသိုလ်စိတ် (= အရိယမဂ်စိတ်)</td><td rowspan="2">၄) မဂ္ဂသစ္စာ</td></tr>
<tr><td>၇ × (လောကုတ္တရာ) သဗ္ဗစိတ္တသာဓာရဏစေတသိက်<br>၆ × (လောကုတ္တရာ) ပကိဏ်းစေတသိက်<br>၁၉ × (လောကုတ္တရာ) သောဘဏသာဓာရဏစေတသိက်<br>၃ × (လောကုတ္တရာ) ဝိရတိစေတသိက်<br>၁ × (လောကုတ္တရာ) ပညာစေတသိက်</td><td>၃၆ × (ပထမဈာနိက)မဂ်ရှိ ယှဉ်ဖက်စေတသိက်</td></tr>
<tr><td>၄ × လောကုတ္တရာဝိပါက်စိတ် (= အရိယဖိုလ်စိတ်)</td><td colspan="2">သစ္စာတို့တွင် မပါဝင်ပါ။</td></tr>
</table>

## အပိုင်း (၃) – သိမ်းဆည်းရှုပွားပုံ အပိုင်း (အကောင်းအုပ်စု)

### အာနာပါနပဋိဘာဂနိမိတ်အာရုံ – ဓမ္မာရုံလိုင်း – မနောဒွါရ ဈာနသမာပတ္တိဝီထိဇယား

| ဟဒယရှိ မှီရာဝတ္ထုရုပ် | ၆၃ | ၆၃ | ၆၃ | ၆၃ | ၆၃ | ၆၃ . . . |
|---|---|---|---|---|---|---|
| | မ | ပ | ဥ | နု | ဂေါ | ဇ . . . (ဈာန်ဇော အကြိမ်များစွာ) |
| ပထမဈာန် | ၁၂ | ၃၄ | ၃၄ | ၃၄ | ၃၄ | ၃၄ . . . |
| ဒုတိယဈာန် | ၁၂ | ၃၄ | ၃၄ | ၃၄ | ၃၄ | ၃၂ . . . (ဝိတက်+ဝိစာရ ပြုတ်) |
| တတိယဈာန် | ၁၂ | ၃၄ | ၃၄ | ၃၄ | ၃၄ | ၃၁ . . . (ပီတိ - ထပ်ပြုတ်) |
| စတုတ္ထဈာန် | ၁၂ | ၃၃ | ၃၃ | ၃၃ | ၃၃ | ၃၁ . . . (သုခပြုတ် - ဥပေက္ခာဝင်) |

အကယ်၍ ယောဂါဝစရပုဂ္ဂိုလ်သည် ကသိုဏ်း (၁၀)ပါး သမာပတ် (၈)ပါးတို့ကို ပွားများထားပြီးသူ ဖြစ်ပါက ယင်းနာမ်တရားတို့ကိုလည်း အောက်ပါဇယားအတိုင်း ဆက်လက်၍ သိမ်းဆည်းပါ။

### ကသိုဏ်း ပဋိဘာဂနိမိတ်အာရုံ – ဓမ္မာရုံလိုင်း – မနောဒွါရ ဈာနသမာပတ္တိဝီထိဇယား

| ဟဒယရှိ မှီရာဝတ္ထုရုပ် | ၆၃ | ၆၃ | ၆၃ | ၆၃ | ၆၃ | ၆၃ . . . |
|---|---|---|---|---|---|---|
| | မ | ပ | ဥ | နု | ဂေါ | ဇ . . . (ဈာန်ဇော အကြိမ်များစွာ) |
| ပထမဈာန် | ၁၂ | ၃၄ | ၃၄ | ၃၄ | ၃၄ | ၃၄ . . . |
| ဒုတိယဈာန် | ၁၂ | ၃၄ | ၃၄ | ၃၄ | ၃၄ | ၃၂ . . . (ဝိတက်+ဝိစာရ ပြုတ်) |
| တတိယဈာန် | ၁၂ | ၃၄ | ၃၄ | ၃၄ | ၃၄ | ၃၁ . . . (ပီတိ - ထပ်ပြုတ်) |
| စတုတ္ထဈာန် | ၁၂ | ၃၃ | ၃၃ | ၃၃ | ၃၃ | ၃၁ . . . (သုခပြုတ် - ဥပေက္ခာဝင်) |
| အာကာသာနဉ္စာယတနဈာန် | ၁၂ | ၃၃ | ၃၃ | ၃၃ | ၃၃ | ၃၁ . . . (ဥပေက္ခာ - ဧကဂ္ဂတာ) |
| ဝိညာဏဉ္စာယတနဈာန် | ။ | ။ | ။ | ။ | ။ | ။ ။ |
| အာကိဉ္စညာယတနဈာန် | ။ | ။ | ။ | ။ | ။ | ။ ။ |
| နေဝသညာနာသညာယတနဈာန် | ။ | ။ | ။ | ။ | ။ | ။ ။ |

## ဝိတက် – ဝိစာရ – ပီတိ

ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ[၅၉၈] သမ္မောဟဝိနောဒနီအဋ္ဌကထာ[၅၉၉] ကြီးတို့၏ ဖွင့်ဆိုထားတော်မူချက်များအရ ပရိကံ ဥပစာရ အနုလုံ ဂေါတြဘုဟူသော ကာမာဝစရ ဥပစာရသမာဓိဇောတို့၌ ဝိတက် ဝိစာရ ပီတိတို့ကား ယှဉ်လျက်ပင် ရှိပေသည်။ ဒုတိယဈာန် စသည့် အပ္ပနာဈာန်သမာဓိတို့၏ အခိုက်၌သာလျှင် ဝိတက် ဝိစာရတို့ မယှဉ်ကြခြင်း ဖြစ်သည်။ (စတုက္ကနည်းကို ရည်ညွှန်းထားပါသည်။) သို့သော် စတုတ္ထဈာန်၏ ကာမာဝစရ ဥပစာရသမာဓိဇောတို့၏ အခိုက်၌လည်း ပီတိ မယှဉ်နိုင်ကြောင်းကို ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ[၆၀၀]နှင့် မဟာဋီကာ[၆၀၁] တို့တွင် ဤသို့ ဖွင့်ဆိုထားကြ၏။

"ဤဆိုလတ္တံ့သည်ကား ထူးခြားချက်တည်း။ သုခဝေဒနာသည် အဒုက္ခမသုခ အမည်ရသော ဆင်းရဲမဟုတ် ချမ်းသာမဟုတ်သည့် အလယ်အလတ်ခံစားမှု ဥပေက္ခာဝေဒနာအား အာသေဝနပစ္စယသတ္တိဖြင့် ကျေးဇူးမပြုနိုင် ဖြစ်ခဲ့၏၊ စတုတ္ထဈာန်၌လည်း အဒုက္ခမသုခ အမည်ရသော ဥပေက္ခာဝေဒနာသာ ဖြစ်သင့်၏။ ထိုကြောင့် စတုတ္ထဈာနဝီထိ၏ အတွင်း၌ တည်ရှိကြကုန်သော လေးကြိမ် သို့မဟုတ် ငါးကြိမ်ကုန်သော ကာမာဝစရ ဥပစာရသမာဓိဇော အပ္ပနာ ဈာန်ဇောတို့သည်လည်း ဥပေက္ခာဝေဒနာနှင့်သာ ယှဉ်ကြရကုန်၏။ ဤစတုတ္ထဈာနဝီထိ၌ ဇောစိတ်တို့သည် ဥပေက္ခာဝေဒနာနှင့် ယှဉ်နေသည့်အတွက်ကြောင့်ပင်လျှင် ပီတိသည်လည်း ယုတ်လျော့သွားရပေသည်။"

### ဖြဟ္မစိုရ်တရား လေးပါး – ဈာနသမာပတ္တိဝီထိ ဇယား

#### မေတ္တာ – ဖြဟ္မစိုရ်

| ဟဒယရှိ မှီရာဝတ္ထုရုပ် | ၆၃ | ၆၃ | ၆၃ | ၆၃ | ၆၃ | ၆၃ . . . |
|---|---|---|---|---|---|---|
| | မ | ပ | ဥ | နု | ဂေါ | ဇ . . . (ဈာန်ဇော အကြိမ်များစွာ) |
| ပထမဈာန် | ၁၂ | ၃၄ | ၃၄ | ၃၄ | ၃၄ | ၃၄ . . . |
| ဒုတိယဈာန် | ၁၂ | ၃၄ | ၃၄ | ၃၄ | ၃၄ | ၃၂ . . . (ဝိတက်+ဝိစာရ ပြုတ်) |
| တတိယဈာန် | ၁၂ | ၃၄ | ၃၄ | ၃၄ | ၃၄ | ၃၁ . . . (ပီတိ - ထပ်ပြုတ်) |

#### ကရုဏာ – ဖြဟ္မစိုရ်

| ဟဒယရှိ မှီရာဝတ္ထုရုပ် | ၆၃ | ၆၃ | ၆၃ | ၆၃ | ၆၃ | ၆၃ . . . |
|---|---|---|---|---|---|---|
| | မ | ပ | ဥ | နု | ဂေါ | ဇ . . . (ဈာန်ဇော အကြိမ်များစွာ) |
| ပထမဈာန် | ၁၂ | ၃၅ | ၃၅ | ၃၅ | ၃၅ | ၃၅ . . . |
| ဒုတိယဈာန် | ၁၂ | ၃၅ | ၃၅ | ၃၅ | ၃၅ | ၃၃ . . . (ဝိတက်+ဝိစာရ ပြုတ်) |
| တတိယဈာန် | ၁၂ | ၃၅ | ၃၅ | ၃၅ | ၃၅ | ၃၂ . . . (ပီတိ - ထပ်ပြုတ်) |

---

[၅၉၈] တတ္ထ **ဝိတက္ကဝိစာရာနံ ဥပသမာ**တိ ဝိတက္ကဿ စ ဝိစာရဿ စာတိ ဣမေသံ ဒွိန္နံ ဝူပသမာ သမတိက္ကမာ၊ ဒုတိယဇ္ဈာနက္ခဏေ အပါတုဘာဝါတိ ဝုတ္တံ ဟောတိ။ (ဝိသုဒ္ဓိ၊၁၊၁၅၁။)

[၅၉၉] ပုဗ္ဗဘာဂေ ပရိကမ္မဥပစာရစိတ္တာနိ သဝိတက္ကသဝိစာရာနိ သပ္ပီတိကာနိ . . . (အဘိ၊ဋ္ဌ၊၂၊၂၇၇။)

[၆၀၀] အယံ ပန ဝိသေသော၊ ယသ္မာ သုခဝေဒနာ အဒုက္ခမသုခါယ ဝေဒနာယ အာသေဝနပစ္စယေန ပစ္စယော န ဟောတိ၊ စတုတ္ထဇ္ဈာနေ စ အဒုက္ခမသုခါယ ဝေဒနာယ ဥပ္ပဇ္ဇိတဗ္ဗံ၊ တသ္မာ တာနိ ဥပေက္ခာဝေဒနာသမ္ပယုတ္တာနိ ဟောန္တိ။ ဥပေက္ခာ-သမ္ပယုတ္တတ္တာယေဝ စေတ္ထ ပီတိပိ ပရိဟာယတီတိ။ (ဝိသုဒ္ဓိ၊၁၊၁၆၀။)

[၆၀၁] **တာနီ**တိ အပ္ပနာဝီထိယံ ဇဝနာနိ သန္ဓာယာဟ။ (မဟာဋီ၊၁၊၁၈၉။)

## မုဒိတာ – ဖြဟ္မစိုရ်

| ဟဒယရှိ မှီရာဝတ္ထုရုပ် | ၆၃ | ၆၃ | ၆၃ | ၆၃ | ၆၃ | ၆၃ . . . |
|---|---|---|---|---|---|---|
| | မ | ပ | ဥ | နု | ဂေါ | ဇ . . . (ဈာန်ဇော အကြိမ်များစွာ) |
| ပထမဈာန် | ၁၂ | ၃၅ | ၃၅ | ၃၅ | ၃၅ | ၃၅ . . . |
| ဒုတိယဈာန် | ၁၂ | ၃၅ | ၃၅ | ၃၅ | ၃၅ | ၃၃ . . . (ဝိတက်+ဝိစာရ ပြုတ်) |
| တတိယဈာန် | ၁၂ | ၃၅ | ၃၅ | ၃၅ | ၃၅ | ၃၂ . . . (ပီတိ - ထပ်ပြုတ်) |

## ဥပေက္ခာ – ဖြဟ္မစိုရ်

| ဟဒယရှိ မှီရာဝတ္ထုရုပ် | ၆၃ | ၆၃ | ၆၃ | ၆၃ | ၆၃ | ၆၃ . . . |
|---|---|---|---|---|---|---|
| | မ | ပ | ဥ | နု | ဂေါ | ဇ . . . (ဈာန်ဇော အကြိမ်များစွာ) |
| စတုတ္ထဈာန် | ၁၂ | ၃၃ | ၃၃ | ၃၃ | ၃၃ | ၃၁ . . . |

အကယ်၍ ယောဂါဝစရပုဂ္ဂိုလ်သူမြတ်သည် အရိုးစုကမ္မဋ္ဌာန်း အသုဘကမ္မဋ္ဌာန်းတို့ကိုလည်း အပ္ပနာဈာန်သမာဓိဆိုက်အောင် ရှုထားပြီးသူ ရှုထားနိုင်သူ ဖြစ်ပါက ရွံရှာစက်ဆုပ်ဖွယ် ပဋိကူလအနေဖြင့် နှလုံးသွင်းအပ်သော အရိုးစုကမ္မဋ္ဌာန်း၌ ပထမဈာန်, အသုဘကမ္မဋ္ဌာန်း၌လည်း ပထမဈာန်နာမ်တရားတို့ကို အာနာပါနပဋိဘာဂနိမိတ် ကသိုဏ်းပဋိဘာဂနိမိတ်တို့ကို အာရုံယူ၍ ဖြစ်ပေါ်လာကြသော ဈာနသမာပတ္တိဝီထိဇယားများတွင် ပါဝင်သည့် ပထမဈာန်ဇယားအတိုင်း သိမ်းဆည်းပါ။ သို့အတွက် ဈာနဓမ္မ အမည်ရကြသည့် ဈာန်နာမ်တရားတို့ကို သိမ်းဆည်းရာ၌ အထက်ပါဇယားများဖြင့်ပင် လုံလောက်နေပြီ ဖြစ်သည်။

## ဈာန်ရသူတို့ အတွက်သာ

ဈာန်ရသူတို့၏ အသိဉာဏ်၌သာလျှင် မဟဂ္ဂုတ်စိတ်အမည်ရကုန်သော ဈာန်နာမ်တရားတို့သည် ကောင်းစွာထင်ရှားကုန်၏[၆၀၂]ဟု ဖွင့်ဆိုထားသောကြောင့် ဈာန်ရသော ဈာနလာဘီပုဂ္ဂိုလ်တို့သည်သာလျှင် ဈာန်နာမ်တရားတို့ကို သိမ်းဆည်းရှုပွားရမည် ဖြစ်ပေသည်။ ဈာန်မရသော သုက္ခဝိပဿက (= ဈာန်စေးခန်းခြောက်သော ဝိပဿနာရှိသော) ပုဂ္ဂိုလ်တို့သည်ကား ဈာန်နာမ်တရားတို့ကို သိမ်းဆည်းမှုကို ချန်လှပ်ထားရမည် ဖြစ်သည်။

ဈာန်နာမ်တရားတို့ကို သိမ်းဆည်းပြီးသော ဈာနလာဘီ ယောဂါဝစရပုဂ္ဂိုလ်သည်လည်းကောင်း, ဈာန်မရသော သုက္ခဝိပဿကပုဂ္ဂိုလ်သည်လည်းကောင်း ကာမာဝစရနာမ်တရားတို့ကို ဆက်လက်၍ သိမ်းဆည်းရမည် ဖြစ်သည်။ ဇဝံ ဆသု ဒွါရေသု **အရူပသ နိဗ္ဗတ္တိံ** ပဿိတဗ္ဗာ . . ဟူသော ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ[၆၀၃]၏ ညွှန်ကြားထားတော်မူချက်အတိုင်းပင် ဒွါရ (၆)ပါးတို့၌ **နာမ်တရား၏ ဖြစ်မှုကို** ဉာဏ်ဖြင့် မြင်အောင် သိမ်းဆည်းရှုပွားရမည်သာ ဖြစ်သည်။

## ဝီထိစိတ်တို့၏ အမည်များ

အထက်ပါ ဇယားများတွင် ပါဝင်သော ဝီထိစိတ်တို့၏ အမည်များမှာ ဤသို့ ဖြစ်၏။

- **မ** = မနောဒွါရာဝဇ္ဇန်း = (အာနာပါနပဋိဘာဂနိမိတ် စသည့် ဈာန်၏) အာရုံကို ဆင်ခြင် (ဆုံးဖြတ်သော) စိတ်။
- **ပ** = ပရိကံ = (ဝင်လေ-ထွက်လေ စသည်ဖြင့်) ဈာန်ဇောများ ဖြစ်ပေါ်လာအောင် ပရိကံပြုနေသော ကာမာဝစရ မဟာကုသိုလ်ဇောစိတ်။
- **ဥ** = ဥပစာ = ဈာန်ဇော၏ ဥပစာရ (= အနီးအပါး) နယ်မြေ၌ ဖြစ်သော မဟာကုသိုလ်ဇောစိတ်။

---

[၆၀၂] လာဘိနော ဧဝ ပန မဟဂ္ဂတစိတ္တာနိ သုပါကဋာနိ ဟောန္တိ။ (မဟာဋီ၊၂၃၅၃။) [၆၀၃] (ဝိသုဒ္ဓိ၊၂၊၂၅၃။)

နု = အနုလုံ = ဈာန်ဇောများ ဖြစ်ပေါ်လာအောင် လျော်စွာပြုပြင်ပေးသော မဟာကုသိုလ်ဇောစိတ်။
ဂေါ = ဂေါတြဘု = ကာမအနွယ်ကို ဖြတ်တောက်လိုက်သော မဟာကုသိုလ်ဇောစိတ်။
ဈ = ဈာန်ဇော = ရူပါဝစရ ကုသိုလ်ဇောစိတ်, သို့မဟုတ် အရူပါဝစရ ကုသိုလ်ဇောစိတ်များ။

## ဈာန်နာမ်တရားတို့ကို သိမ်းဆည်းပုံစနစ်

ဤ အထက်ပါဇယားတွင် ရေးသားတင်ပြထားသော ပထမဈာနသမာပတ္တိဝီထိစသော ဝီထိစိတ်များ၏ အတွင်း၌ တည်ရှိသော ဈာန်နာမ်တရားတို့ကို သိမ်းဆည်းရာ၌ ပရိကံ, ဥပစာ, အနုလုံ, ဂေါတြဘုဟူသော အမည်နာမ ပညတ်များကိုကား ယောဂါဝစရပုဂ္ဂိုလ်သည် သိရှိနိုင်မည် မဟုတ်ပါ။ ပရိကံ, ဥပစာ စသော ထိုကဲ့သို့သော အခြင်းအရာ အားဖြင့် ဖြစ်ပေါ်သွားကြသော ဇောစိတ်များအနေဖြင့်သာ သိရှိနိုင်မည် ဖြစ်သည်။ ယင်း ပရိကံ ဥပစာ အနုလုံ ဂေါတြဘုဇောများမှာ ပုထုဇန်နှင့် သေက္ခပုဂ္ဂိုလ်တို့အဖို့ မဟာကုသိုလ်ဇောများသာ ဖြစ်ကြ၏။ ရဟန္တာ အရှင်မြတ်ကြီးများ အဖို့ကား မဟာကြိယာဇောများသာ ဖြစ်ကြ၏။ ဉာဏ်ထက်မြက်သူ၌ ဥပစာ အနုလုံ ဂေါတြဘုဟု ဥပစာရဈာန်ဇော သုံးကြိမ်သာ ကျသည်။

နာမ်ကမ္မဋ္ဌာန်းကို အားသစ်စ အာဒိကမ္မိက ယောဂါဝစရပုဂ္ဂိုလ်သည် ယင်းဈာန်နာမ်တရားတို့ကို သိမ်းဆည်း လိုလတ်သော် မိမိ သိမ်းဆည်းလိုသော ဈာန်ကို ဝင်စားပါ။ ထိုနောင် ဈာန်မှထ၍ ဘဝင်မနောအကြည်ဓာတ်နှင့် အာနာပါနပဋိဘာဂနိမိတ်ကဲ့သို့သော ဈာန်၏ အာရုံကို ပူးတွဲသိမ်းဆည်းပါ။ ထိုနောင် ဈာန်အင်္ဂါတို့ကို စတင်၍ သိမ်းဆည်းပါ။ အကြိမ်များစွာ ထပ်ကာထပ်ကာ လေ့ကျင့်ဖို့ကား လိုအပ်မည်သာ ဖြစ်သည်။ အာနာပါနပဋိဘာဂနိမိတ် ကဲ့သို့သော ဈာန်၏အာရုံ သမထနိမိတ်က ယင်းဘဝင်မနောအကြည်ဓာတ်၌ ထင်လာသောအခါ ရှေးရှုကျရောက် လာသောအခါ ယင်းဈာန်အင်္ဂါတို့၏ အကြိမ်များစွာ ဆက်တိုက် စိတ္တက္ခဏတိုင်း၌ ပြိုင်တူဖြစ်နေသည်ကို ဉာဏ်ဖြင့် မြင်အောင် ရှုပါ၊ သိမ်းဆည်းပါ၊ ဉာဏ်ဖြင့် ပိုင်းခြားယူပါ။ ကြိမ်ဖန်များစွာ ထပ်ကာထပ်ကာ ရှုသဖြင့် အောင်မြင်မှုကို ရရှိသောအခါ . .

၁။ အသိစိတ် = ဝိညာဏ်က စ၍ ဖြစ်စေ,
၂။ ဝေဒနာက စ၍ ဖြစ်စေ,
၃။ ဖဿက စ၍ ဖြစ်စေ —

နာမ်ကမ္မဋ္ဌာန်း သိမ်းဆည်း ရှုပွားနည်း သုံးနည်းတို့တွင် တစ်နည်းနည်းဖြင့် နာမ်တရားတို့ကို တစ်စတစ်စ တိုး၍တိုး၍ (တစ်လုံးစီ တစ်လုံးစီ တိုး၍တိုး၍) ဈာန်အင်္ဂါနှင့် ဈာနသမ္ပယုတ်တရားများကို ဉာဏ်မီသမျှ စိတ္တက္ခဏတိုင်း၌ ကုန်စင်အောင် သိမ်းဆည်းပါ။ ထိုသို့ သိမ်းဆည်းရာ၌ ရှေးဦးစွာ ဈာန်ကို ဝင်စားပြီးနောက် ဈာန်မှ ထလျှင်ထချင်း ဈာန်နာမ်တရားတစ်လုံးကို အကြိမ်များစွာ ဖြစ်နေမှုကို မြင်အောင် ရှုပါ။ တစ်ဖန် ဈာန်ပြန်ဝင်စားပါ၊ ဈာန်မှ ထလျှင် ထချင်း ဈာန်နာမ်တရား နှစ်လုံးကို အကြိမ်များစွာ ဖြစ်နေမှုကို မြင်အောင် ရှုပါ။ ဤနည်းဖြင့် ဈာန်ဝင်စားလိုက် ဈာန်မှ ထကာ ဈာန်နာမ်တရားတို့ကို သိမ်းဆည်းလိုက်ဖြင့် ဈာန်နာမ်တရားတို့ကို တစ်လုံးစီ တစ်လုံးစီ တိုး၍ သိမ်းဆည်းပါ။ အဘိဓမ္မာအခြေခံပညာ အားကောင်းသူများ ဉာဏ်ထက်မြက်သူများကား ဤမျှဆိုလျှင် သိမ်းဆည်း တတ်မည် ဖြစ်၏။ သို့သော် အဘိဓမ္မာအခြေခံပညာ အားနည်းသူ ဉာဏ်နုံ့သူ သူတော်ကောင်းတို့သည်ကား ရုံခါ သဘောပေါက်ရန် အလွန် ခဲယဉ်းလှသည်ကို တွေ့ရ၏။ ထိုကြောင့် ဉာဏ်နုံ့သူ သူတော်ကောင်းများအတွက် အာနာပါနပဋိဘာဂနိမိတ်ကို အာရုံယူ၍ ဖြစ်ပေါ်လာကြသော ပထမဈာန်နာမ်တရား (၃၄)လုံးတို့ကို ထပ်မံ၍ ရေးသား တင်ပြအပ်ပါသည်။

ဝိတက်စသော ဈာန်အင်္ဂါတို့၏ အပေါင်းအစုကို ဈာန်ဟု ခေါ်ဆို၍ ယင်းဈာန်နှင့် ယှဉ်သော စိတ်စေတသိက် တရားစုကို ဈာနသမ္ပယုတ္တဓမ္မဟု ခေါ်ဆိုပေသည်။ ယင်းဈာန်နှင့် ဈာနသမ္ပယုတ္တဓမ္မတို့ကို လက္ခဏ-ရသ-ပစ္စုပဋ္ဌာန်- ပဒဋ္ဌာန်အားဖြင့် သိမ်းဆည်းရမည်ဟု ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ[၆၀၄]၌ ညွှန်ကြားထားပေသည်။

[၆၀၄] (ဝိသုဒ္ဓိ၊၂၂၂၂။)

## အာနာပါနပဋိဘာဂနိမိတ်ကို အာရုံပြုသော ပထမဈာန်နာမ်တရား (၃၄)

၁။ **အသိစိတ်** = အာနာပါနပဋိဘာဂနိမိတ် အာရုံကို ရယူခြင်းသဘော၊
**[ဝိဇာနနံ** အာရမ္မဏဿ ဥပလဒ္ဓိ – ဟူသော မူလဋီကာ[605]နှင့် အညီတည်း။**]**

၂။ **ဖဿ** = အာနာပါနပဋိဘာဂနိမိတ် အာရုံကို တွေ့ထိသော အခြင်းအရာအားဖြင့် ဖြစ်ခြင်းသဘော (လက္ခဏ)၊
= အာနာပါနပဋိဘာဂနိမိတ် အာရုံနှင့် အသိစိတ်ကို ဆက်စပ်ပေးခြင်းသဘော (ရသ)၊

၃။ **ဝေဒနာ** = အာနာပါနပဋိဘာဂနိမိတ် အာရုံ၏ အရသာကို ချမ်းချမ်းသာသာ (= ဝမ်းမြောက်ဝမ်းသာ) ခံစားခြင်းသဘော၊ (ပထမဈာန်၌ သောမနဿဝေဒနာတည်း။)

၄။ **သညာ** = အာနာပါနပဋိဘာဂနိမိတ် အာရုံကို မှတ်သားခြင်းသဘော၊

၅။ **စေတနာ** = အာနာပါနပဋိဘာဂနိမိတ် အာရုံပေါ်သို့ သမ္ပယုတ်တရားတို့ကို ရောက်အောင် စေ့ဆော်ပေးခြင်း နှိုးဆော်ပေးခြင်းသဘော၊

၆။ **ဧကဂ္ဂတာ** = အာနာပါနပဋိဘာဂနိမိတ် အာရုံတစ်ခုတည်းပေါ်သို့ စိတ်ကျရောက်နေခြင်းသဘော၊
= အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စိတ်တည်ငြိမ်နေခြင်းသဘော၊
= အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ သမ္ပယုတ်တရားတို့ကို ဖရိုဖရဲ မကွဲစေခြင်းသဘော၊

၇။ **ဇီဝိတ** = အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ သမ္ပယုတ်တရားတို့ကို စောင့်ရှောက်ပေးခြင်းသဘော၊

၈။ **မနသိကာရ** = အာနာပါနပဋိဘာဂနိမိတ် အာရုံဘက်သို့ စိတ်ကို (= သမ္ပယုတ်တရားတို့ကို) ဦးလှည့် တွန်းပို့-ပေးခြင်းသဘော၊
= အာနာပါနပဋိဘာဂနိမိတ် အာရုံကို နှလုံးသွင်းခြင်းသဘော၊

၉။ **ဝိတက်** = အာနာပါနပဋိဘာဂနိမိတ် အာရုံပေါ်သို့ စိတ်ကို (= သမ္ပယုတ်တရားတို့ကို) ရှေးရှု တင်ပေးခြင်း သဘော၊
= အာနာပါနပဋိဘာဂနိမိတ် အာရုံကို ကြံစည်ခြင်းသဘော၊

၁၀။ **ဝိစာရ** = အာနာပါနပဋိဘာဂနိမိတ် အာရုံကို ထပ်ကာထပ်ကာ သုံးသပ် ဆင်ခြင်ခြင်း (= ဆုပ်နယ်ခြင်း) သဘော၊
= အာနာပါနပဋိဘာဂနိမိတ် အာရုံကို ထပ်၍ ထပ်၍ ယူခြင်းသဘော၊

၁၁။ **အဓိမောက္ခ** = အာနာပါနပဋိဘာဂနိမိတ် အာရုံကို ဆုံးဖြတ်ချက်ချခြင်းသဘော၊

၁၂။ **ဝီရိယ** = အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ သမ္ပယုတ်တရားတို့ ဖြစ်အောင် ကြိုးစားအားထုတ်ခြင်း သဘော၊
= သမ္ပယုတ်တရားတို့ကို အာနာပါနပဋိဘာဂနိမိတ် အာရုံပေါ်သို့ ရောက်အောင် ချီးပင့်ပေးခြင်း သဘော၊[606]

၁၃။ **ပီတိ** = အာနာပါနပဋိဘာဂနိမိတ် အာရုံကို နှစ်သက်ခြင်းသဘော၊

၁၄။ **ဆန္ဒ** = အာနာပါနပဋိဘာဂနိမိတ် အာရုံကို သိလိုခြင်း (= သမ္ပယုတ်တရားတို့ ဖြစ်လိုခြင်း) သဘော၊

၁၅။ **သဒ္ဓါ** = အာနာပါနဈာန်သမာဓိသိက္ခာ = အာနာပါနဈာန်သမာဓိကျင့်စဉ်ကို ယုံကြည်မှုသဘော၊

၁၆။ **သတိ** = အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ သမ္ပယုတ်တရားတို့ကို ဗူးတောင်းကဲ့သို့ မပေါ်စေဘဲ ကျောက်ဖျာကဲ့သို့ နစ်မြုပ်စေခြင်းသဘော၊
= အာနာပါနပဋိဘာဂနိမိတ် အာရုံကို မမေ့ပျောက်ခြင်းသဘော၊
= အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စိတ်ခိုင်မြဲခြင်းသဘော၊

၁၇။ **ဟိရီ** = မကောင်းမှု အကုသိုလ်တရား ဒုစရိုက်တရားမှ ရှက်ခြင်းသဘော၊

---

[605] (မူလဋီ၊၁၊၈၇။)

[606] **မှတ်ချက်** — မနောဒွါရာဝဇ္ဇန်း၌ စေတသိက် (၁၂)လုံး ဟူသည်မှာ ဤအထက်ပါ နာမ်တရား (၃၄)မျိုးတို့တွင် အသိစိတ်မှသည် ဝီရိယသို့ တိုင်အောင်သော စိတ်+စေတသိက် (၁၂)လုံး ဖြစ်သည်။

၁၈။ **ဩတ္တပ္ပ** = မကောင်းမှု အကုသိုလ်တရား ဒုစရိုက်တရားမှ ကြောက်ခြင်းသဘော၊
၁၉။ **အလောဘ** = အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စိတ်မကပ်ငြိခြင်း, မတပ်မက်ခြင်းသဘော၊
= အာနာပါနပဋိဘာဂနိမိတ် အာရုံကို ငါ့ဟာဟု မစွဲယူခြင်းသဘော၊
၂၀။ **အဒေါသ** = အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စိတ်မခက်ထန် မကြမ်းတမ်းခြင်းသဘော၊
= အာနာပါနပဋိဘာဂနိမိတ် အာရုံကို မဖျက်ဆီးလိုခြင်းသဘော၊
၂၁။ **တတြမဇ္ဈတ္တတာ** = အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စိတ်ကို အလယ်အလတ်ထားခြင်းသဘော၊ (စိတ်ဓာတ်တက်ကြွမြင့်မောက်မှု = မာန, စိတ်ဓာတ်ကျဆင်းမှု = ထိန+မိဒ္ဓတို့ဘက်သို့ ဘာဝနာစိတ်ကို မရောက်အောင် ဘာဝနာအာရုံ၌ စိတ်ကို အလယ်အလတ်ထားခြင်းသဘော။)
= အာနာပါနပဋိဘာဂနိမိတ် အာရုံကို လျစ်လျူရှုခြင်းသဘော၊
၂၂။ **ကာယပဿဒ္ဓိ** = အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စေတသိက်တို့ ငြိမ်းအေးခြင်းသဘော၊
၂၃။ **စိတ္တပဿဒ္ဓိ** = အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စိတ်ငြိမ်းအေးခြင်းသဘော၊
၂၄။ **ကာယလဟုတာ** = အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စေတသိက်တို့ လျင်မြန် ပေါ့ပါးခြင်းသဘော၊
၂၅။ **စိတ္တလဟုတာ** = အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စိတ်လျင်မြန် ပေါ့ပါးခြင်းသဘော၊
၂၆။ **ကာယမုဒုတာ** = အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စေတသိက်တို့ နူးညံ့ပျော့ပျောင်းခြင်းသဘော၊
၂၇။ **စိတ္တမုဒုတာ** = အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စိတ်နူးညံ့ပျော့ပျောင်းခြင်းသဘော၊
၂၈။ **ကာယကမ္မညတာ** = အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စေတသိက်တို့ ခံ့ညားခြင်းသဘော၊
= အာနာပါနပဋိဘာဂနိမိတ် အာရုံကို ရှုလို့ အချိုးကျ အဆင်ပြေခြင်းသဘော၊
၂၉။ **စိတ္တကမ္မညတာ** = အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စိတ်ခံ့ညားခြင်းသဘော၊
= အာနာပါနပဋိဘာဂနိမိတ် အာရုံကို ရှုလို့ အချိုးကျ အဆင်ပြေခြင်းသဘော၊
၃၀။ **ကာယပါဂုညတာ** = အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စေတသိက်တို့၏ ပြွမ်းတီး လေ့လာနိုင်နင်းခြင်းသဘော၊
= အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စေတသိက်တို့၏ ကျွမ်းကျင်လိမ္မာခြင်းသဘော၊
= အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စေတသိက်တို့၏ ကိလေသာ အနာကင်းခြင်းသဘော၊
၃၁။ **စိတ္တပါဂုညတာ** = အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စိတ်၏ ပြွမ်းတီး လေ့လာနိုင်နင်းခြင်းသဘော၊
= အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စိတ်၏ ကျွမ်းကျင်လိမ္မာခြင်းသဘော၊
= အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စိတ်၏ ကိလေသာ အနာကင်းခြင်းသဘော၊
၃၂။ **ကာယုဇုကတာ** = အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စေတသိက်တို့၏ ဖြောင့်မတ်ခြင်းသဘော၊
= အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စေတသိက်တို့၏ မာယာ-သာဌေယျ အကွေ့-အကောက် ကင်းခြင်းသဘော၊
၃၃။ **စိတ္တုဇုကတာ** = အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စိတ်၏ ဖြောင့်မတ်ခြင်းသဘော၊
= အာနာပါနပဋိဘာဂနိမိတ် အာရုံ၌ စိတ်၏ မာယာ-သာဌေယျ အကွေ့အကောက် ကင်းခြင်းသဘော၊
၃၄။ **ပညာ** = အာနာပါနပဋိဘာဂနိမိတ် အာရုံကို ထွင်းဖောက် သိမြင်ခြင်းသဘော၊

## နာမပရိဂ္ဂဟဉာဏ်

ဈာန်နာမ်တရားတို့သည် ယေဘုယျ = များသောအားဖြင့် ပဋိဘာဂနိမိတ်ကိုသာ အာရုံပြုရိုး ဓမ္မတာ ရှိကြ၏။ အာနာပါနကမ္မဋ္ဌာန်း၌ ဈာန်နှင့် ဈာနသမ္ပယုတ် နာမ်တရားတို့သည် အာနာပါနပဋိဘာဂနိမိတ်အာရုံကို အာရုံပြုကြ၏။ အရိုးစုပဋိကူလမနသိကာရကမ္မဋ္ဌာန်း၌ ဈာန်နှင့် ဈာနသမ္ပယုတ်တရားတို့သည် အရိုးစု ပဋိဘာဂနိမိတ်အာရုံကို အာရုံပြုကြ၏။ ဩဒါတ = အဖြူကသိုဏ်း၌ ဈာန်နှင့် ဈာနသမ္ပယုတ်နာမ်တရားတို့သည် အဖြူရောင်ကသိုဏ်း ပဋိဘာဂနိမိတ်အာရုံကို အာရုံပြုကြ၏။ မေတ္တာကမ္မဋ္ဌာန်း၌ သတ္တဝါ ပညတ်အာရုံ, အသုဘကမ္မဋ္ဌာန်း၌ အသုဘ-အလောင်းကောင်၏ ပဋိဘာဂနိမိတ်အာရုံကို အာရုံပြုကြ၏။ ထို့ကြောင့် ယောဂါဝစရပုဂ္ဂိုလ်တစ်ဦးသည် အာနာပါန

